| National Energy Puma Aviation Services Company Limited | | |
|---|---|---|
| | 1 | Annex 1 - Corporate information and shareholding ratio details |
| | 2 | Annex 2 - Schedule of capital contribution and loan repayment schedule |
| | 3 | Annex 3 - List of machinery and equipment to be imported |
| | 4 | Annex 4 - List of raw material to be imported |
| | 5 | Annex 5 - Value of annual local revenue |
| | 6 | Annex 6 - Annual consumption requirement of utility |
| | 7 | Annex 7- Schedule of person requirement |
| | 8 | Annex 8 - Projected statement of Income |
| | 9 | Annex 9 - Projected statement of cash flow |
| | 10 | Annex 10 - Internal Rate of Return (IRR) |
| | 11 | Annex 11 - Recoupment period |
| | 12 | Environmental & Social impact assessment |
| | 13 | DICA permit/application of document |
| | 14 | Memorandum of Association and Article of Association |
| | 15 | Promoter's profile |
| | 16 | Majority Shareholder's Article of Association |
| | 17 | Majority Shareholder's Certificate of Registration |
| | 18 | Bank reference letter |
| | 19 | Audited financial statements |
| | 20 | Joint Venture Agreement and Ancillary Agreement (BTA) |
| | 21 | Land Lease Agreement |
| | 22 | Land title document |
| | 23 | |
| | 24 | |
| | 25 | |
| | 26 | |
| | 27 | |
| | 28 | |
| VDB Loi | 29 | |
| | 30 | |
| | 31 | |

# National Energy Puma Aviation Services Co., Ltd

Unit 04-01
Union Business Center (UBC), Nat Mauk Rd, Bo Cho Quarter
Bahan, Yangon, Myanmar

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရက်စွဲ။ ။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံတွင် လေယာဉ်ဆီစီမံကိန်းဆောင်ရွက်ရန်အတွက် စီမံကိန်း ကမကထပြုသူထံမှအဆိုပြုလွှာတင်သွင်းခြင်း ကိစ္စ။

လူကြီးမင်းခင်ဗျား

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ စင်ကာပူနိုင်ငံတွင် တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့် Puma Energy Group Pte Ltd (Puma) ကုမ္ပဏီနှင့် မြန်မာနိုင်ငံတွင် တရားဝင်ဖွဲ့စည်းတည်ထောင်ထားသော လုပ်ငန်းတစ်ခုဖြစ်သည့် မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေး လုပ်ငန်း (MPPE) သည် မြန်မာနိုင်ငံတွင် လေယာဉ်ဆီစီမံကိန်းကို ဆောင်ရွက်ရန် အတွက် National Energy Puma Aviation Services Co., Ltd (the Company) ဟု အမည်တွင်သည့် ဖက်စပ်ကုမ္ပဏီတစ်ခုကို တည်ထောင်လိုကြောင်း တင်ပြလိုပါသည်။

ကုမ္ပဏီကို အစုရှယ်ယာရှင်နှစ်ဦးက ပိုင်ဆိုင်မည်ဖြစ်ပြီး Mr. Jasper Camacho ကိုယ်စားပြုသည့် Puma ကုမ္ပဏီက အစုရှယ်ယာ ၄၉ % နှင့် ဦးသန့်စင် ကိုယ်စားပြုသည့် MPPE က အစုရှယ်ယာ ၅၁ % စီအသီးသီးပိုင်ဆိုင်ကြမည်ဖြစ်ပါသည်။ ဤရင်းနှီးမြှုပ်နှံမှုကို MPPE ၏ ကိုယ်စား ဦးသန့်စင်ကလည်းကောင်း၊ Puma ၏ကိုယ်စား Mr. Jasper Camacho က လည်းကောင်း ကမကထပြုဆောင်ရွက်မည်ဖြစ်ပါသည်။

## လုပ်ငန်းဆောင်ရွက်မှုအခြေအနေ

### *မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း (MPPE)*

MPPE သည် မြန်မာနိုင်ငံတွင် ရေနံထွက်ပစ္စည်းများကို လက်လီလက်ကားဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကိုဆောင်ရွက်ရန် တရားဝင်လုပ်ကိုင်ခွင့်ရရှိထားသည့် နိုင်ငံပိုင်စီးပွားရေး လုပ်ငန်း တစ်ခုဖြစ်ပါသည်။ MPPE သည် စိုက်ပျိုးရေး၊ ငါးလုပ်ငန်း၊ ပို့ဆောင်ဆက်သွယ်ရေး၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေး၊ ကာကွယ်ရေး၊ ဆောက်လုပ်ရေးလုပ်ငန်းများနှင့် စပ်လျဉ်းသော ရေနံထွက် ပစ္စည်းများကို လက်ရှိတွင် ပင်မဌာနကြီး ၄ ခု၊ ဌာနခွဲ ၂၅ ခု၊ လေယာဉ်ဆီသိုလှောင်ရုံ ၁၀ ခု (ဌာနကြီးများ/ဌာနခွဲများ/ဆီဖြည့်ဌာနများ)၊ ဆီဖြည့်ဌာန ၂၇၁ ဌာန နှင့် LPG ဖြည့်ဌာန ၁ ခုတို့ဖြင့် အစိုးရ နှင့် ပုဂ္ဂလိကကဏ္ဍများတွင် ဖြန့်ဖြူးရောင်းချလျက်ရှိပါသည်။

### *Puma*

Puma အမှတ်တံဆိပ်ကို Compañía General de Combustibles (CGC) ကုမ္ပဏီက ၁၉၂၉ ခုနှစ်တွင် အာဂျင်တီးနားနိုင်ငံ၌ စတင်ဖန်တီးခဲ့ပါသည်။ CGC ကုမ္ပဏီကို ၁၉၂၀ ခုနှစ်တွင် နိုင်ငံတစ်ဝန်းလုံးတွင် ရေနံစိမ်း နှင့် ၎င်း၏ဘေးထွက်ပစ္စည်းများ သယ်ယူပို့ဆောင်ရောင်းချရန် အတွက် တည်ထောင်ခဲ့ပါသည်။ အဆိုပါဆယ်စုနှစ်ကုန်ဆုံးချိန်တွင် CGC ကုမ္ပဏီ သည် အာဂျင်တီးနားနိုင်ငံတွင် Puma ဟုအမည်တွင်သည့် မိမိ၏ကိုယ်ပိုင်အမှတ်တံဆိပ်ဖြင့် ဝန်ဆောင်မှု ပေးသောဆိုင်များကို လုပ်ကိုင်ဆောင်ရွက်ခဲ့ပါသည်။ Puma အမှတ်တံဆိပ် လူကြိုက်များထင်ရှား လာသည်နှင့်အမျှ လက်လီ ရောင်းချသည့်ဆိုင်အရေအတွက်မှာ ဆိုင်ပေါင်း ၁၈၀ အထိ တိုးမြင့် လာခဲ့ပါသည်။ ၁၉၉၄ ခုနှစ်တွင် Puma သည် ပြည်တွင်းကုမ္ပဏီနှစ်ခုကို ပေါင်းစည်း၍ Eg 3 ဟုအမည်တွင်သည့် ဝန်ဆောင်မှုလုပ်ငန်းအသစ်တစ်ခုကို တည်ထောင်ခဲ့ပါသည်။ အဆိုပါ လုပ်ငန်းသည် အာဂျင်တီးနားနိုင်ငံတွင် ဝန်ဆောင်မှုပေးသောဆိုင်ပေါင်း ၂၀ ကို ထပ်မံ တိုးချဲ့ ဖွင့်လှစ်နိုင်ခဲ့ပြီး အဆိုပါပေါင်းစည်းထားသည့်လုပ်ငန်း၏ဂုဏ်သတင်းသည် ပိုမိုကျော်ကြားလာခဲ့ ပါသည်။

၂၀၁၀ ခုနှစ်မှစတင်၍ Puma သည် အမေရိကန်နိုင်ငံတွင် ၎င်း၏လုပ်ငန်းကို ဆက်လက် တိုးချဲ့ဆောင်ရွက်ခဲ့ပြီး ၎င်း၏ပိုင်ဆိုင်မှု (asset base) နှင့် အဆိုပါဒေသတွင် အဓိကပို့ကုန် ဈေးကွက်၌ ဈေးကွက်ရှယ်ယာ တဖြည်းဖြည်းမြင့်တက်အောင် ဆောင်ရွက်ခဲ့ပါသည်။ တစ်ချိန် တည်းမှာပင် Puma သည် ဘရားဇီးနိုင်ငံ နှင့် ဟွန်ဒူးရပ်စ်နိုင်ငံတို့တွင် Puma ဝန်ဆောင်မှု ပေးသော ဆိုင်များကို ထပ်မံ တိုးချဲ့တည်ထောင်ခြင်းဖြင့် ၎င်း၏ရေနံသန့်စင်ချက်လုပ်ခြင်းလုပ်ငန်း နှင့် ရေနံထွက်ပစ္စည်းများဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများကို တိုးချဲ့ဆောင်ရွက်ခဲ့ပါသည်။ ၂၀၁၂ ခုနှစ်တွင် Puma သည် စင်ကာပူနိုင်ငံ၌ ဒေသဆိုင်ရာရုံးချုပ်ကို တည်ထောင်ခြင်းဖြင့် အာရှ ပစိဖိတ်ဒေသတွင် လုပ်ငန်းစတင်ဆောင်ရွက်ခဲ့ပါသည်။

Customer ဦးရေ ၂၃,၅၀၀ ကျော်၊ ဆီအရောင်းဆိုင် ၁၀,၄၂၃ ဆိုင်၊ အကြီးစားသိုလှောင် ဌာနကြီး ၈၀ ကို ပိုင်ဆိုင်ထားသော Puma သည် ကမ္ဘာ့တိုက်ကြီးငါးတိုက်ရှိ နိုင်ငံပေါင်း ၄၅ နိုင်ငံ ခန့်တွင် ရေနံသန့်စင်ချက်လုပ်ခြင်းလုပ်ငန်း နှင့် ရေနံနှင့်ရေနံထွက်ပစ္စည်းများကို သယ်ယူပို့ဆောင် ခြင်း၊ သိုလှောင်ခြင်း နှင့် လက်ကားရောင်းချခြင်းလုပ်ငန်းများပါဝင်သော စွမ်းအင်လုပ်ငန်းကို လုပ်ကိုင် လျက်ရှိပါသည်။

Puma ၏စီးပွားရေးဆိုင်ရာခံယူချက်တွင် အစိုးရ၊ စီးပွားရေး နှင့် လူ့အဖွဲ့အစည်း ဆိုင်ရာ ၄င်းတို့၏စီးပွားရေးလုပ်ဖော်ကိုင်ဖက်များနှင့် ပွင့်လင်းမြင်သာသော၊ မျှတသော၊ လေးစားမှုရှိသော ဆက်ဆံရေးလည်း ပါဝင်ပါသည်။ Puma သည် လူ့အဖွဲ့အစည်းအား အကျိုးပြုရန်ရည်ရွယ်ကာ လူအများပြည့်စုံကြွယ်ဝလာစေရန်အထောက်အကူပြုခြင်းဖြင့် ရင်းနှီးမြှုပ်နှံဆောင်ရွက်ပါသည်။ ဥပမာအားဖြင့် ဒေသဆိုင်ရာ စီးပွားရေးစတင်ဆောင်ရွက်မှုကိုအထောက်အကူပြုရန် လုပ်ငန်း လုပ်ပိုင်ခွင့်ပေးအပ်သည့်အစီအစဉ်ကို စီစဉ်ဆောင်ရွက်ထားပါသည်။ ထို့အပြင် Puma ဖောင်ဒေးရှင်းက ၂၀၁၃ ခုနှစ်တွင် ထောက်ပံ့ကြေးများ၊ ချေးငွေများ နှင့် Matching fund များ အတွက် အမေရိကန်ဒေါ်လာ ၁.၇၅ သန်းကို သုံးစွဲခဲ့ပါသည်။

လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးတိုးတက်မှုနှင့် စပ်လျဉ်း၍ လူသားများသည် ကုမ္ပဏီ၏ အဓိကအရေးပါသောပုဂ္ဂိုလ်များဖြစ်သည်ဟု ယုံကြည်ထားသည့်အပြင် လူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်မှုကို အဓိကအလေးပေးကဏ္ဍအဖြစ် ၄င်း၏လုပ်ငန်းဆိုင်ရာခံယူချက်တွင် ထည့်သွင်း ထားပါသည်။ စီးပွားရေးလုပ်ငန်းကို ကမ္ဘာတစ်ဝန်းတွင် ဖွံ့ဖြိုးတိုးတက်အောင် အင်တိုက်အားတိုက် ဆက်သွယ်ဆောင်ရွက်ရာတွင် ကုမ္ပဏီ၏ဝန်ထမ်းများသည် စီးပွားရေးဆိုင်ရာအသိပညာဗဟုသုတ နှင့် ကျွမ်းကျင်မှု ရှိရန်လိုအပ်သည်သာမက လူအများ၏ယုံကြည်မှုကို ရယူနိုင်သည့်အရည်အသွေး ရှိရန်လည်း လိုအပ်ပါသည်။ ယုံကြည်မှုတည်ဆောက်ရန်အတွက် Puma ၏ဝန်ထမ်းများသည် ရိုးသားဖြောင့်မတ်မှု၊ ရည်မှန်းချက် နှင့် နှိမ့်ချသော စိတ်ထားရှိရန် လိုအပ်ပါသည်။

## ရင်းနှီးမြှုပ်နှံမှု၏စီးပွားရေးရည်ရွယ်ချက်များ

မြန်မာနိုင်ငံ၏လေဆိပ်များတွင် လေယာဉ်ဆီ တင်ပို့၊ သိုလှောင်၊ ဖြန့်ဖြူး၊ ရောင်းချရာတွင် customer များကို ပိုမိုကောင်းမွန်စွာဝန်ဆောင်မှုပေးနိုင်ရန် နှင့် လုပ်ငန်းအား ပိုမိုကောင်းမွန်စွာ စီမံခန့်ခွဲဆောင်ရွက်နိုင်ရန်နှင့်လုပ်ငန်းများကို သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေဘဲ ဆောင်ရွက် နိုင်ရန် နိုင်ငံတော်အစိုးရ နှင့် MPPE တို့သည် ပထမဦးစွာ ရန်ကုန် အပြည်ပြည်ဆိုင်ရာ လေဆိပ်တွင် လက်ရှိဆောင်ရွက်နေလျက်ရှိသည့် လေယာဉ်ဆီဖြန့်ဖြူး ရောင်းချရေးလုပ်ငန်းကို ပိုမိုကောင်းမွန်စွာဆောင်ရွက်နိုင်ရန်အတွက် အတွေ့အကြုံရှိသော စီးပွားရေးလုပ်ဖော်ကိုင်ဖက် တစ်ဦးနှင့်ပူးပေါင်း၍ ဖက်စပ်လုပ်ငန်းလုပ်ကိုင်ရန် ဆုံးဖြတ်ခဲ့ကြပါသည်။ နောင်တွင် အဆိုပါ စီမံကိန်းအား ကျန်ရှိသော လေဆိပ် ၁၀ ခုတွင် ဆက်လက်တိုးချဲ့ လုပ်ကိုင်သွားမည် ဖြစ်ပါသည်။

**ကုမ္ပဏီ၏မတည်ရင်းနှီးမြှုပ်နှံမှု နှင့် အလုပ်အကိုင်အခွင့်အလမ်းတိုးတက်မြင့်မားမှု**

ကုမ္ပဏီသည် စီမံကိန်းအတွက် စုစုပေါင်း အမေရိကန်ဒေါ်လာ ၁၀၆.၀၂ သန်းကို ရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး အဆိုပါရင်းနှီးမြှုပ်နှံမှုကို ကမကထပြုသူများက ရင်းနှီးမြှုပ်နှံသည့် ၁၀ နှစ်တာ ကာလအတွင်း ရှယ်ယာ နှင့် ချေးငွေများအဖြစ် ညီတူညီမျှငွေကြေးဖြည့်ဆည်းဆောင်ရွက်ရန် ရည်ရွယ်ထားပါသည်။

အဆိုပါရင်းနှီးမြှုပ်နှံမှုသည်တိုက်ရိုက်သော်လည်းကောင်း၊ သွယ်ဝိုက်၍သော်လည်းကောင်း အလုပ်အကိုင်ပေါင်း ၁၀၀ ခန့်ကို ဖန်တီးပေးပါလိမ့်မည်။ အဆိုပါရင်းနှီးမြှုပ်နှံမှုသည် အလုပ်သမားများအား နိုင်ငံတကာအဆင့်လုပ်ငန်းစဉ်များ နှင့် လုပ်ငန်းဆောင်ရွက်ချက်များကို လုပ်ကိုင်ဆောင်ရွက်စေခြင်းဖြင့် လုပ်ငန်းကျွမ်းကျင်သောဝန်ထမ်းအင်အားကို တိုးမြင့်လာစေမည် ဖြစ်ပါ သည်။

**လူမှုရေးဆောင်ရွက်ချက်**

ကုမ္ပဏီသည် လူမှုရေးတာဝန်ယူမှု (CSR) အပေါ်အလေးထားဆောင်ရွက်ပြီး လူ့အဖွဲ့ အစည်း နှင့် စီမံကိန်းတို့ အကောင်းဆုံးအကျိုးအမြတ်ရရှိစေရန် နည်းလမ်းများစွာဖြင့် လုပ်ကိုင် ဆောင်ရွက်မည်ဖြစ်ပါသည်။ ယခုအခါ လူမှုရေးတာဝန်ယူမှု (CSR) သည် စီးပွားရေး၏ အရေးအကြီးဆုံးကဏ္ဍများထဲတွင် တစ်ခုအပါအဝင်ဖြစ်လာခဲ့ပြီး အခြားနိုင်ငံတကာအဖွဲ့အစည်း များနှင့် ယှဉ်ပြိုင်နိုင်ရန်အတွက် လိုအပ်သော အဖွဲ့အစည်းတစ်ခုတွင် ရှိရမည့် အဓိကခံယူချက် လည်းဖြစ်လာခဲ့ပါသည်။ ကုမ္ပဏီ ဖွံ့ဖြိုးတိုးတက်လာသည်နှင့်အမျှ အလုပ်သမားများ နှင့် လူ့အဖွဲ့အစည်းအတွက် အခြေအနေကောင်းများဖန်တီးခြင်း နှင့် ကောင်းမွန်သော အဖွဲ့အစည်းဖွဲ့စည်းပုံတို့သည် ရေရှည်အောင်မြင်မှုကို ဖြစ်စေမည်ဟု ကျွန်တော်တို့ယုံကြည်ထားသည်။ ကုမ္ပဏီ၏အဓိကရည်ရွယ်ချက်များမှာ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အခြားထိခိုက်ပျက်စီးမှုများ အနည်းဆုံးဖြစ်စေရန် နှင့် ၎င်းလုပ်ငန်းဆောင်ရွက်ရာနေရာရှိ လူမှုအဖွဲ့အစည်းကို အထောက်အကူပြုရန် နှင့် ၎င်း၏ ဝန်ထမ်းအင်အားတိုးတက်မြင့်မားစေရန် တို့ဖြစ်ပါသည်။

**လူမှုရေးတာဝန်ယူမှု (CSR) ဆိုင်ရာ ဆောင်ရွက်ချက်**

ကုမ္ပဏီသည် အမြင့်ဆုံးပတ်ဝန်းကျင်ဆိုင်ရာ စံချိန်စံနှုန်းများကို ထိန်းသိမ်းရန်အတွက် ပတ်ဝန်းကျင်ကိုထိခိုက်မှုမရှိစေသော လုပ်ငန်းစဉ်များ၊ ပတ်ဝန်းကျင်ဆိုင်ရာ အစိမ်းရောင်စီမံ ခန့်ခွဲမှု၊ စွန့်ပစ်ပစ္စည်း နှင့် ပြန်လည်သုံးစွဲခြင်းဆိုင်ရာ စီမံခန့်ခွဲမှုကို လုပ်ငန်းခွင် နှင့် ပြင်ပ လူ့အဖွဲ့အစည်းတွင်

ဆောင်ရွက်ခြင်းဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိသည့် အစီအစဉ်ကို အမြဲတစေ ဆောင်ရွက်မည်ဖြစ်ပါသည်။

ဒေသခံလူ့အဖွဲ့အစည်းများကိုအထောက်အကူပြုခြင်းသည် ကျွန်တော်တို့၏ တာဝန် ဖြစ်သည် ဟု ယုံကြည်ထားသည့်အလျောက် ကျွန်တော်တို့၏အသားတင်အမြတ်ငွေ ၂ % ကို မြန်မာနိုင်ငံတွင် လူမှုရေးတာဝန်ယူမှု (CSR) စီမံကိန်းအတွက် ထည့်ဝင်မည်ဟု ကတိပြုပါသည်။

**ဘဏ္ဍာရေးဆိုင်ရာထည့်ဝင်မှု**

ရေးဆွဲထားသည့်စီမံကိန်းအရ (နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုသော tax holiday ၅ နှစ် တာကာလ အပါအဝင်) စီမံကိန်းကာလအတွင်း ကုမ္ပဏီသည် နိုင်ငံတော် ရသုံးမှန်းခြေ ငွေစာရင်းသို့ အမေရိကန်ဒေါ်လာ ၂၃ သန်းခန့်ကိုအခွန် များအဖြစ်၊ တင်ဒါအောင်မြင်ကြေးအဖြစ် အမေရိကန်ဒေါ်လာ ၁၈ သန်း နှင့် MPPE အားပေးအပ်ရန် ခန့်မှန်းထားသည့်အမြတ်ဝေစုအဖြစ် အမေရိကန် ဒေါ်လာ ၆၈ သန်းကို ပေးအပ်နိုင်မည်ဟု ခန့်မှန်းထားပါသည်။

ယခုတင်ပြထားသည့်ကိစ္စနှင့်စပ်လျဉ်း၍ လူကြီးမင်း၏စိစစ်ပေးမှုအတွက် အထူးကျေးဇူး တင်ရှိပါ ကြောင်းနှင့် အထက်ပါတင်ပြထားသောစီမံကိန်းအားလုပ်ဆောင်ခွင့်ပြုပေးရန် လေးစားစွာ လျှောက်ထား အပ်ပါသည်။

လေးစားစွာဖြင့်



လက်မှတ် -
အမည် - Jasper Camacho
ရာထူး - Proposed Managing Director

# NATIONAL ENERGY PUMA AVIATION SERVICES CO., LTD

Unit 04-01
Union Business Center (UBC), Nat Mauk Rd, Bo Cho Quarter
Bahan, Yangon, Myanmar

The Chairman
The Myanmar Foreign Investment Commission
Yangon
The Republic of the Union of Myanmar

Date: ________ May, 2015

**Proposal for tax exemption and relief**

Under Section 27, sub-section (a), the joint venture company will be granted an exemption of income tax for a period of 5 consecutive years from the date of commencement of the commercial operation (COD). Accordingly, the joint venture company should be granted an exemption of advance income tax requirements for imports and exports plus withholding taxes on sales

In addition, the joint venture company is entitled to tax exemption and relief under Section 27, Sub-section (a) to (k), Chapter XII of the Foreign Investment Law, including:

(a) Section 27 (b), Chapter XII of the Foreign Investment Law, Exemption/Relief: *For reason of maintaining profit in the reserve fund and reinvest therein within one year after the reserve is made.*

(b) Section 27 (c), Chapter XII of the Foreign Investment Law, Exemption/Relief: *The right to depreciate in respect of machinery, equipment, building or other capital assets used in the business, at the depreciation rate fixed by the State for the purpose of income tax assessment and the right to deduct such depreciation from the profit.*

(c) Section 27 (d), Chapter XII of the Foreign Investment Law, Exemption/Relief: *If any goods are exported, relief from income-tax up to 50 percent on the profit accrued from the said export during the construction or enterprise establishment period*

(d) Section 27 (e), Chapter XII of the Foreign Investment Law, Exemption/Relief: *The right to pay income tax on the income of the foreigners at the rates applicable to citizens residing within the country* and restricted to local source income only.

(e) Section 27 (f), Chapter XII of the Foreign Investment Law, Exemption/Relief: *The right to deduct from assessable income such expenses incurred in respect of research and development relating to the enterprise.*

(f) Section 27 (g), Chapter XII of the Foreign Investment Law, Exemption/Relief: *Right to carry and set-off the loss actually sustained within two consecutive years after the enjoyment of exemption or relief from income-tax as contained in sub-section (a) for each business up to three consecutive years from the year the loss is sustained;*

(g) Section 27 (h), Chapter XII of the Foreign Investment Law, Exemption/Relief: *Exemption or relief from customs duty or other internal taxes or both on the machinery, equipment, instruments, machinery components, spare parts and materials imported that are required to*

*be used for the business during the period of enterprise establishment (construction period) to be defined*

(h) Section 27 (i), Chapter XII of the Foreign Investment Law, Exemption/Relief: *Exemption or relief from customs duty or other internal taxes (commercial tax or advance income tax) or both on such raw materials (including but limited to aviation fuel and fuel products) imported for the first three years of commercial operation following the completion of the enterprise establishment period.*

(i) Section 27 (j), Chapter XII of the Foreign Investment Law, Exemption/Relief: *If the volume of investment is increased from the original investment with the approval of the Commission and expansion (including those funded by debt) occurs during the permitted period, exemption or relief from customs duty and other internal taxes (including but not limited to commercial taxes or advance income taxes) on machineries, equipment, instruments, machinery components, spare parts and materials used in the business which are imported for use for these purposes shall be granted.*

(j) Section 27 (k), Chapter XII of the Foreign Investment Law, Exemption/Relief: *the joint venture company will also receive an exemption or relief from commercial tax on products or goods exported.*

**Overseas bank account**

The joint venture company will have to ensure fast and efficient payment facilities in foreign currencies to its suppliers and collection from international customers. In view of the fact that the banking system in Myanmar is still in development, the joint venture company will need to have the ability to hold funds and bank accounts offshore.

For smooth operations, it is crucial that the joint venture company be granted permission and approval to open and operate offshore bank accounts, collect payments and to pay operational expenses and suppliers in any foreign currency from such accounts subject to approvals from the MIC and Central Bank of Myanmar before making such payments.

We greatly appreciate your consideration and look forward to your favorable reply.

Yours faithfully,

Signature: …………………………………..

Name: Jasper Camacho

Occupation: Proposed Managing Director

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စွမ်းအင်ဝန်ကြီးဌာန
## (ဝန်ကြီးရုံး)

စာအမှတ်၊ မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/၀၁(၂၂၅ /၂၀၁၅)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၄ ရက်

### မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း၏ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို အကျိုးတူ ပူးပေါင်းဆောင်ရွက်ရေးအတွက် ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် ချုပ်ဆို၍ ရင်းနှီးမြှုပ်နှံမှုလုပ်ကိုင်ခွင့်ပြုရေးကိစ္စ

၁။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းအနေဖြင့် ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်ရှိ မင်္ဂလာဒုံလေယာဉ်ဆီဌာနခွဲ၏ လေယာဉ်ဆီဖြန့်ဖြူးရေး လုပ်ငန်းအား နိုင်ငံတကာအဆင့်အတန်းနှင့်အညီ တိုးချဲ့လုပ်ကိုင်ရန်နှင့် နောင်တွင်အခြား လေဆိပ်(၁၀)ခုတွင် လုပ်ငန်းများတိုးချဲ့ဆောင်ရွက်ခြင်းများလုပ်ကိုင်ရန်အတွက် စင်္ကာပူနိုင်ငံ တွင် မှတ်ပုံတင်ထားသည့် Puma Energy Group Pte. Ltd. နှင့် မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်းတို့သည် ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် ချုပ်ဆိုလုပ်ကိုင်ရန်နှင့် Contemplated Project Agreements ခေါင်းစဉ်အောက်ရှိ အောက်ဖော်ပြပါဆက်စပ် စာချုပ်(၄)မျိုးကိုလည်း ဆက်လက်ချုပ်ဆိုသွားနိုင်ရေးအတွက် စီစဉ်ဆောင်ရွက်လျက်ရှိပါသည်-

(က) Fuel Supply Agreement
(ခ) Brand Licensing Agreement
(ဂ) Operations and Management Agreement relating to Aviation Technical Services
(ဃ) The Land Lease Agreements

၂။ Puma Energy Group Pte. Ltd. သည် စင်္ကာပူနိုင်ငံတွင် မှတ်ပုံတင်ထားပြီး၊ လေယာဉ်ဆီအား တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ သယ်ယူခြင်း၊ ဖြန့်ဖြူးခြင်း၊ရောင်းချခြင်းနှင့် စီမံခြင်း အပါအဝင် လောင်စာဆီလုပ်ငန်းကို ကျယ်ကျယ်ပြန့်ပြန့် လုပ်ကိုင်လျက်ရှိသည့် နိုင်ငံတကာရေနံကုမ္ပဏီဖြစ်ပါသည်။

၃။ အစုရှယ်ယာအနေဖြင့် မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းမှ အစုရှယ်ယာ ၅၁% နှင့် Puma Energy Group Pte Ltd. မှ အစုရှယ်ယာ ၄၉% ပါဝင်မည်ဖြစ်ပြီး၊ ကုမ္ပဏီ၏ အမည်ကို National Energy and Puma Aviation Services Co., Ltd ဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ကနဦးရင်းနှီးမြှုပ်နှံမှုအနေဖြင့် မတည်ရင်းနှီးငွေ အမေရိကန်ဒေါ်လာငါးဆယ့်တစ်သန်း နှစ်သောင်းလေးရာ့ရှစ်တိတိ (US$ 51,020,408.00) ရှိပါသည်။ မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်းအနေဖြင့် အစုရှယ်ယာ ၅၁% အမေရိကန်ဒေါ်လာနှစ်ဆယ့်ခြောက်သန်း နှစ်သောင်းလေးရာ့ရှစ်တိတိ (US$ 26,020,408.00) တန်ဖိုးကို ရန်ကုန်အပြည်ပြည်ဆိုင်ရာ လေဆိပ်ရှိ မင်္ဂလာဒုံလေယာဉ်ဆီဌာနခွဲတွင် လက်ရှိအသုံးပြုနေသော စက်သုံးဆီ သိုလှောင် ကန်များနှင့် ဆက်စပ်အသုံးပြုနေသော အဆောက်အဦများ၊ စက်ပစ္စည်းများ စသည့် အခြေ ပစ္စည်းများအဖြစ် ပါဝင်မည်ဖြစ်ပြီး Puma Energy Group Pte Ltd. မှ အမေရိကန် ဒေါ်လာနှစ်ဆယ့်ငါးသန်းတိတိ (US$ 25,000,000.00) ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

၅။ အဆိုပါ Joint Venture Agreement လက်မှတ်ရေးထိုးခြင်းအတွက် Signature Bonus အမေရိကန်ဒေါ်လာနှစ်ဆယ်သန်းတိတိ (US$ 20,000,000.00) ရရှိမည်ဖြစ်ရာ ရွေးချယ်ခံရမှုအတွက် ကနဦး Signature Bonus အမေရိကန်ဒေါ်လာနှစ်သန်းတိတိ (US$ 2,000,000.00) ကို ရွေးချယ်ခံရပြီး ၂ပါတ်အတွင်း ရရှိခဲ့ပြီးဖြစ်ပါသည်။ Joint Venture Agreement လက်မှတ်ရေးထိုးပြီးပါက ရက်ပေါင်း ၃၀ အတွင်း ကျန်ရှိသည့် Signature Bonus အမေရိကန်ဒေါ်လာတစ်ဆယ့်ရှစ်သန်းတိတိ (US$ 18,000,000.00) ကို ထပ်မံရရှိမည် ဖြစ်ပါသည်။ စာချုပ်ချုပ်ဆိုပြီး စာချုပ်သက်ဝင်သည့်နေ့မှစ၍ စာချုပ် သက်တမ်း နှစ်၃၀ ဖြစ်ပါသည်။

၆။ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းအား ဈေးကွက်စီးပွားရေးစနစ်နှင့် အညီ ပြုပြင်ပြောင်းလဲဆောင်ရွက်မည့်အစီအစဉ်အား နိုင်ငံတော်သမ္မတရုံးသို့ တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတရုံးမှ ခွင့်ပြုပါသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ခွင့်ပြုချက်ရရှိပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(က)**

၇။ အမျိုးသားလေကြောင်းဥပဒေပုဒ်မ၇(ဂ)ပါ လေယာဉ်ဆီ၊ စက်ဆီ၊ ချောဆီများ ဝယ်ယူ ခြင်း၊သိုလှောင်ခြင်း၊ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို လုပ်ကိုင်သည့်အခါ စွမ်းအင်ဝန်ကြီးဌာန ၏ အမိန့်ကြော်ငြာစာအမှတ်၊ ၁၀၀/၂၀၁၃ နှင့်အညီ ဆောင်ရွက်ရမည်ဖြစ်ပြီး၊ အဆိုပါလုပ်ငန်း တွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပါဝင်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၄၉/၂၀၁၄ အရ စွမ်းအင်ဝန်ကြီးဌာနနှင့်သာ ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ရမည်ဟု ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ အကြံပြုပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ခ)**

၈။ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း၏ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် Joint Venture Agreement (မူကြမ်း)အပေါ် အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ ပြည်ထောင်စု စာရင်းစစ်ချုပ်ရုံး၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် ဘဏ္ဍာရေး ဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်ရယူပြီး သဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အား ပြင်ဆင်ပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(ဂ)၊ နောက်ဆက်တွဲ(ဃ)၊ နောက်ဆက်တွဲ(င)၊ နောက်ဆက်တွဲ(စ)၊ နောက်ဆက်တွဲ(ဆ)၊**

၉။ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းနှင့် Puma Energy Group Pte. Ltd. တို့အကြားချုပ်ဆိုမည့် ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် မူကြမ်းကို **နောက်ဆက်တွဲ(ဇ)** အဖြစ်တင်ပြအပ်ပါသည်။

၁၀။ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီ၏ ၂၈-၅-၂၀၁၅ ရက်နေ့တွင် ကျင်းပသောအစည်းအဝေးအမှတ်စဉ်(၉/၂၀၁၅)မှ “ နိုင်ငံတော်သမ္မတကြီးထံ တင်ပြပါမည်။ ခွင့်ပြုပါက ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်” ဟုမိန့်မှတ်ချက် ပြုခဲ့ပြီး၊ နိုင်ငံတော်သမ္မတရုံးမှလည်း “လုပ်ထုံးလုပ်နည်းနှင့်အညီဆက်လက်ဆောင်ရွက်သွားရန်” ဟု အကြောင်းကြားခဲ့ပါသည်။ **နောက်ဆက်တွဲ(ဈ)၊ နောက်ဆက်တွဲ(ည)**

၁၁။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းနှင့် Puma Energy Group Pte. Ltd. တို့၏ ဖက်စပ်လုပ်ငန်းသဘောတူ စာချုပ်ချုပ်ဆိုနိုင်ရေးအတွက် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ပြည်ထောင်စုအစိုးရအဖွဲ့၏ ၁၁-၆-၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၅) မှ ဖက်စပ်လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်ခွင့်ပြုကြောင်း သဘောတူဆုံးဖြတ်ခဲ့ပါသည်။ **နောက်ဆက်တွဲ(ဋ)**

၁၂။ သို့ဖြစ်ပါ၍ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း နှင့် စင်္ကာပူနိုင်ငံတွင် မှတ်ပုံတင်ထားသော Puma Energy Group Pte. Ltd. တို့သည် လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို အကျိုးတူပူးပေါင်း ဆောင်ရွက်လုပ်ကိုင်ခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

ဇေယျာအောင်
ပြည်ထောင်စုဝန်ကြီး

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC Commission for mppe JV 16-6-2015

# National Energy and Puma Aviation Service Co., Ltd

Unit 04-01
Union Business Center (UBC), Nat Mauk Rd, Bo Cho Quarter
Bahan, Yangon, Myanmar

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရက်စွဲ။ ။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံတွင် လေယာဉ်ဆီစီမံကိန်းဆောင်ရွက်ရန်အတွက် စီမံကိန်းကမကထပြုသူထံမှအဆိုပြုလွှာတင်သွင်းခြင်း ကိစ္စ။

လူကြီးမင်းခင်ဗျား

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ စင်ကာပူနိုင်ငံတွင် တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့် Puma Energy Group Pte Ltd (Puma) ကုမ္ပဏီနှင့် မြန်မာနိုင်ငံတွင် တရားဝင်ဖွဲ့စည်းတည်ထောင်ထားသော လုပ်ငန်းတစ်ခုဖြစ်သည့် မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေး လုပ်ငန်း (MPPE) သည် မြန်မာနိုင်ငံတွင် လေယာဉ်ဆီစီမံကိန်းကို ဆောင်ရွက်ရန်အတွက် National Energy and Puma Aviation Service Co., Ltd (the Company) ဟု အမည်တွင်သည့် ဖက်စပ်ကုမ္ပဏီတစ်ခုကို တည်ထောင်လိုကြောင်း တင်ပြလိုပါသည်။

ကုမ္ပဏီကို အစုရှယ်ယာရှင်နှစ်ဦးက ပိုင်ဆိုင်မည်ဖြစ်ပြီး Mr. Jasper Camacho ကိုယ်စားပြုသည့် Puma ကုမ္ပဏီက အစုရှယ်ယာ ၄၉ % နှင့် ဦးသန့်စင် ကိုယ်စားပြုသည့် MPPE က အစုရှယ်ယာ ၅၁ % စီအသီးသီးပိုင်ဆိုင်ကြမည်ဖြစ်ပါသည်။ ဤရင်းနှီးမြှုပ်နှံမှုကို MPPE ၏ ကိုယ်စားဦးသန့်စင်ကလည်းကောင်း၊ Puma ၏ကိုယ်စား Mr. Jasper Camacho က လည်းကောင်း ကမကထပြုဆောင်ရွက်မည်ဖြစ်ပါသည်။

## လုပ်ငန်းဆောင်ရွက်မှုအခြေအနေ

### *မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း (MPPE)*

MPPE သည် မြန်မာနိုင်ငံတွင် ရေနံထွက်ပစ္စည်းများကို လက်လီလက်ကားဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကိုဆောင်ရွက်ရန် တရားဝင်လုပ်ကိုင်ခွင့်ရရှိထားသည့် နိုင်ငံပိုင်စီးပွားရေး လုပ်ငန်းတစ်ခုဖြစ်ပါသည်။ MPPE သည် စိုက်ပျိုးရေး၊ ငါးလုပ်ငန်း၊ ပို့ဆောင်ဆက်သွယ်ရေး၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေး၊ ကာကွယ်ရေး၊ ဆောက်လုပ်ရေးလုပ်ငန်းများနှင့် စပ်လျဉ်းသော ရေနံထွက် ပစ္စည်းများကို လက်ရှိတွင် ပင်မဌာနကြီး ၄ ခု၊ ဌာနခွဲ ၂၅ ခု၊ လေယာဉ်ဆီသိုလှောင်ရုံ ၁၀ ခု (ဌာနကြီးများ/ဌာနခွဲများ/ဆီဖြည့်ဌာနများ)၊ ဆီဖြည့်ဌာန ၂၇၀ ဌာန နှင့် LPG ဖြည့်ဌာန ၁ ခုတို့ဖြင့် အစိုးရ နှင့် ပုဂ္ဂလိကကဏ္ဍများတွင် ဖြန့်ဖြူးရောင်းချလျက်ရှိပါသည်။

### *Puma*

Puma အမှတ်တံဆိပ်ကို Compañía General de Combustibles (CGC) ကုမ္ပဏီက ၁၉၂၉ ခုနှစ်တွင် အာဂျင်တီးနားနိုင်ငံ၌ စတင်ဖန်တီးခဲ့ပါသည်။ CGC ကုမ္ပဏီကို ၁၉၂၀ ခုနှစ်တွင် နိုင်ငံတစ်ဝန်းလုံးတွင် ရေနံစိမ်း နှင့် ၄င်း၏ဘေးထွက်ပစ္စည်းများ သယ်ယူပို့ဆောင်ရောင်းချရန် အတွက် တည်ထောင်ခဲ့ပါသည်။ အဆိုပါဆယ်စုနှစ်ကုန်ဆုံးချိန်တွင် CGC ကုမ္ပဏီ သည် အာဂျင်တီးနားနိုင်ငံတွင် Puma ဟုအမည်တွင်သည့် မိမိ၏ကိုယ်ပိုင်အမှတ်တံဆိပ်ဖြင့် ဝန်ဆောင်မှု ပေးသောဆိုင်များကို လုပ်ကိုင်ဆောင်ရွက်ခဲ့ပါသည်။ Puma အမှတ်တံဆိပ် လူကြိုက်များထင်ရှား လာသည်နှင့်အမျှ လက်လီရောင်းချသည့်ဆိုင်အရေအတွက်မှာ ဆိုင်ပေါင်း ၁၈၀ အထိ တိုးမြင့် လာခဲ့ပါသည်။ ၁၉၉၄ ခုနှစ်တွင် Puma သည် ပြည်တွင်းကုမ္ပဏီနှစ်ခုကို ပေါင်းစည်း၍ Eg 3 ဟုအမည်တွင်သည့် ဝန်ဆောင်မှုလုပ်ငန်းအသစ်တစ်ခုကို တည်ထောင်ခဲ့ပါသည်။ အဆိုပါ လုပ်ငန်းသည် အာဂျင်တီးနားနိုင်ငံတွင် ဝန်ဆောင်မှုပေးသောဆိုင်ပေါင်း ၂၀ ကို ထပ်မံ တိုးချဲ့ ဖွင့်လှစ်နိုင်ခဲ့ပြီး အဆိုပါပေါင်းစည်းထားသည့်လုပ်ငန်း၏ဂုဏ်သတင်းသည် ပိုမိုကျော်ကြားလာခဲ့ ပါသည်။

၂၀၀၀ ခုနှစ်မှစတင်၍ Puma သည် အမေရိကန်နိုင်ငံတွင် ၄င်း၏လုပ်ငန်းကို ဆက်လက်တိုးချဲ့ဆောင်ရွက်ခဲ့ပြီး ၄င်း၏ပိုင်ဆိုင်မှု (asset base) နှင့် အဆိုပါဒေသတွင် အဓိကပို့ကုန် ဈေးကွက်၌ ဈေးကွက်ရှယ်ယာ တဖြည်းဖြည်းမြင့်တက်အောင် ဆောင်ရွက်ခဲ့ပါသည်။ တစ်ချိန် တည်းမှာပင် Puma သည် ဘရားဇီးနိုင်ငံ နှင့် ဟွန်ဒူးရပ်စ်နိုင်ငံတို့တွင် Puma ဝန်ဆောင်မှု ပေးသော ဆိုင်များကို ထပ်မံ တိုးချဲ့တည်ထောင်ခြင်းဖြင့် ၄င်း၏ရေနံသန့်စင်ချက်လုပ်ခြင်းလုပ်ငန်း နှင့် ရေနံထွက်ပစ္စည်းများဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများကို တိုးချဲ့ဆောင်ရွက်ခဲ့ပါသည်။ ၂၀၁၂ ခုနှစ်တွင် Puma သည် စင်ကာပူနိုင်ငံ၌ ဒေသဆိုင်ရာရုံးချုပ်ကို တည်ထောင်ခြင်းဖြင့် အာရှ ပစိဖိတ်ဒေသတွင် လုပ်ငန်းစတင်ဆောင်ရွက်ခဲ့ပါသည်။

Customer ဦးရေ ၂၃,၅၀၀ ကျော်၊ ဆီအရောင်းဆိုင် ၁၀,၄၂၃ ဆိုင်၊ အကြီးစားသိုလှောင် ဌာနကြီး ၈၀ ကို ပိုင်ဆိုင်ထားသော Puma သည် ကမ္ဘာ့တိုက်ကြီးငါးတိုက်ရှိ နိုင်ငံပေါင်း ၄၅ နိုင်ငံ ခန့်တွင် ရေနံသန့်စင်ချက်လုပ်ခြင်းလုပ်ငန်း နှင့် ရေနံနှင့်ရေနံထွက်ပစ္စည်းများကို သယ်ယူပို့ဆောင် ခြင်း၊ သိုလှောင်ခြင်း နှင့် လက်ကားရောင်းချခြင်းလုပ်ငန်းများပါဝင်သော စွမ်းအင်လုပ်ငန်းကို လုပ်ကိုင် လျက်ရှိပါသည်။

Puma ၏စီးပွားရေးဆိုင်ရာခံယူချက်တွင် အစိုးရ၊ စီးပွားရေး နှင့် လူ့အဖွဲ့အစည်း ဆိုင်ရာ ၄င်းတို့၏စီးပွားရေးလုပ်ဖော်ကိုင်ဖက်များနှင့် ပွင့်လင်းမြင်သာသော၊ မျှတသော၊ လေးစားမှုရှိသော ဆက်ဆံရေးလည်း ပါဝင်ပါသည်။ Puma သည် လူ့အဖွဲ့အစည်းအား အကျိုးပြုရန်ရည်ရွယ်ကာ လူအများပြည့်စုံကြွယ်ဝလာစေရန်အထောက်အကူပြုခြင်းဖြင့် ရင်းနီးမြှုပ်နှံဆောင်ရွက်ပါသည်။ ဉပမာအားဖြင့် ဒေသဆိုင်ရာ စီးပွားရေးစတင်ဆောင်ရွက်မှုကိုအထောက်အကူပြုရန် လုပ်ငန်း လုပ်ပိုင်ခွင့်ပေးအပ်သည့်အစီအစဉ်ကို စီစဉ်ဆောင်ရွက်ထားပါသည်။ ထို့အပြင် Puma ဖောင်ဒေးရှင်းက ၂၀၁၃ ခုနှစ်တွင် ထောက်ပံ့ကြေးများ၊ ချေးငွေများ နှင့် Matching fund များ အတွက် အမေရိကန်ဒေါ်လာ ၁.၇၅ သန်းကို သုံးစွဲခဲ့ပါသည်။

လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးတိုးတက်မှုနှင့် စပ်လျဉ်း၍ လူသားများသည် ကုမ္ပဏီ၏ အဓိကအရေးပါသောပုဂ္ဂိုလ်များဖြစ်သည်ဟု ယုံကြည်ထားသည့်အပြင် လူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်မှုကို အဓိကအလေးပေးကဏ္ဍအဖြစ် ၄င်း၏လုပ်ငန်းဆိုင်ရာခံယူချက်တွင် ထည့်သွင်း ထားပါသည်။ စီးပွားရေးလုပ်ငန်းကို ကမ္ဘာတစ်ဝန်းတွင် ဖွံ့ဖြိုးတိုးတက်အောင် အင်တိုက်အားတိုက် ဆက်သွယ်ဆောင်ရွက်ရာတွင် ကုမ္ပဏီ၏ဝန်ထမ်းများသည် စီးပွားရေးဆိုင်ရာအသိပညာဗဟုသုတ နှင့် ကျွမ်းကျင်မှု ရှိရန်လိုအပ်သည်သာမက လူအများ၏ယုံကြည်မှုကို ရယူနိုင်သည့်အရည်အသွေး ရှိရန်လည်း လိုအပ်ပါသည်။ ယုံကြည်မှုတည်ဆောက်ရန်အတွက် Puma ၏ဝန်ထမ်းများသည် ရိုးသားဖြောင့်မတ်မှု၊ ရည်မှန်းချက် နှင့် နိမ့်ချသော စိတ်ထားရှိရန် လိုအပ်ပါသည်။

## ရင်းနှီးမြှုပ်နှံမှု၏စီးပွားရေးရည်ရွယ်ချက်များ

မြန်မာနိုင်ငံ၏လေဆိပ်များတွင် လေယာဉ်ဆီ တင်ပို့၊ သိုလှောင်၊ ဖြန့်ဖြူး၊ ရောင်းချရာတွင် customer များကို ပိုမိုကောင်းမွန်စွာဝန်ဆောင်မှုပေးနိုင်ရန် နှင့် လုပ်ငန်းအား ပိုမိုကောင်းမွန်စွာ စီမံခန့်ခွဲဆောင်ရွက်နိုင်ရန်နှင့်လုပ်ငန်းများကို သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေဘဲ ဆောင်ရွက် နိုင်ရန် နိုင်ငံတော်အစိုးရ နှင့် MPPE တို့သည် ပထမဦးစွာ ရန်ကုန် အပြည်ပြည်ဆိုင်ရာ လေဆိပ်တွင် လက်ရှိဆောင်ရွက်နေလျက်ရှိသည့် လေယာဉ်ဆီဖြန့်ဖြူး ရောင်းချရေးလုပ်ငန်းကို ပိုမိုကောင်းမွန်စွာဆောင်ရွက်နိုင်ရန်အတွက် အတွေ့အကြုံရှိသော စီးပွားရေးလုပ်ဖော်ကိုင်ဖက် တစ်ဦးနှင့်ပူးပေါင်း၍ ဖက်စပ်လုပ်ငန်းလုပ်ကိုင်ရန် ဆုံးဖြတ်ခဲ့ကြပါသည်။ နောင်တွင် အဆိုပါ စီမံကိန်းအား ကျန်ရှိသော လေဆိပ် ၁၀ ခုတွင် ဆက်လက်တိုးချဲ့ လုပ်ကိုင်သွားမည် ဖြစ်ပါသည်။

## ကုမ္ပဏီ၏မတည်ရင်းနှီးမြှုပ်နှံမှု နှင့် အလုပ်အကိုင်အခွင့်အလမ်းတိုးတက်မြင့်မားမှု

ကုမ္ပဏီသည် စီမံကိန်းအတွက် စုစုပေါင်း အမေရိကန်ဒေါ်လာ ၁၀၆.၀၂ သန်းကို ရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး အဆိုပါရင်းနှီးမြှုပ်နှံမှုကို ကမကထပြုသူများက ရင်းနှီးမြှုပ်နှံသည့် ၁၀ နှစ်တာကာလအတွင်း ရှယ်ယာ နှင့် ချေးငွေများအဖြစ် ညီတူညီမျှငွေကြေးဖြည့်ဆည်းဆောင်ရွက်ရန် ရည်ရွယ်ထားပါသည်။

အဆိုပါရင်းနှီးမြှုပ်နှံမှုသည်တိုက်ရိုက်သော်လည်းကောင်း၊ သွယ်ဝိုက်၍သော်လည်းကောင်း အလုပ်အကိုင်ပေါင်း ၁၀၀ ခန့်ကို ဖန်တီးပေးပါလိမ့်မည်။ အဆိုပါရင်းနှီးမြှုပ်နှံမှုသည် အလုပ်သမားများအား နိုင်ငံတကာအဆင့်လုပ်ငန်းစဉ်များ နှင့် လုပ်ငန်းဆောင်ရွက်ချက်များကို လုပ်ကိုင်ဆောင်ရွက်စေခြင်းဖြင့် လုပ်ငန်းကျွမ်းကျင်သောဝန်ထမ်းအင်အားကို တိုးမြင့်လာစေမည် ဖြစ်ပါ သည်။

## လူမှုရေးဆောင်ရွက်ချက်

ကုမ္ပဏီသည် လူမှုရေးတာဝန်ယူမှု (CSR) အပေါ်အလေးထားဆောင်ရွက်ပြီး လူ့အဖွဲ့ အစည်း နှင့် စီမံကိန်းတို့ အကောင်းဆုံးအကျိုးအမြတ်ရရှိစေရန် နည်းလမ်းများစွာဖြင့် လုပ်ကိုင် ဆောင်ရွက်မည်ဖြစ်ပါသည်။ ယခုအခါ လူမှုရေးတာဝန်ယူမှု (CSR) သည် စီးပွားရေး၏ အရေးအကြီးဆုံးကဏ္ဍများထဲတွင် တစ်ခုအပါအဝင်ဖြစ်လာခဲ့ပြီး အခြားနိုင်ငံတကာအဖွဲ့အစည်း များနှင့် ယှဉ်ပြိုင်နိုင်ရန်အတွက် လိုအပ်သော အဖွဲ့အစည်းတစ်ခုတွင် ရှိရမည့် အဓိကခံယူချက် လည်းဖြစ်လာခဲ့ပါသည်။ ကုမ္ပဏီ ဖွံ့ဖြိုးတိုးတက်လာသည်နှင့်အမျှ အလုပ်သမားများ နှင့် လူ့အဖွဲ့အစည်းအတွက် အခြေအနေကောင်းများဖန်တီးခြင်း နှင့် ကောင်းမွန်သော အဖွဲ့အစည်းဖွဲ့စည်းပုံတို့သည် ရေရှည်အောင်မြင်မှုကို ဖြစ်စေမည်ဟု ကျွန်တော်တို့ယုံကြည်ထားသည်။ ကုမ္ပဏီ၏အဓိကရည်ရွယ်ချက်များမှာ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အခြားထိခိုက်ပျက်စီးမှုများ အနည်းဆုံးဖြစ်စေရန် နှင့် ၎င်းလုပ်ငန်းဆောင်ရွက်ရာနေရာရှိ လူမှုအဖွဲ့အစည်းကို အထောက်အကူပြုရန် နှင့် ၎င်း၏ ဝန်ထမ်းအင်အားတိုးတက်မြင့်မားစေရန် တို့ဖြစ်ပါသည်။

## လူမှုရေးတာဝန်ယူမှု (CSR) ဆိုင်ရာ ဆောင်ရွက်ချက်

ကုမ္ပဏီသည် အမြင့်ဆုံးပတ်ဝန်းကျင်ဆိုင်ရာ စံချိန်စံနှုန်းများကို ထိန်းသိမ်းရန်အတွက် ပတ်ဝန်းကျင်ကိုထိခိုက်မှုမရှိစေသော လုပ်ငန်းစဉ်များ၊ ပတ်ဝန်းကျင်ဆိုင်ရာ အစိမ်းရောင်စီမံ ခန့်ခွဲမှု၊ စွန့်ပစ်ပစ္စည်း နှင့် ပြန်လည်သုံးစွဲခြင်းဆိုင်ရာ စီမံခန့်ခွဲမှုကို လုပ်ငန်းခွင် နှင့် ပြင်ပ လူ့အဖွဲ့အစည်းတွင်

ဆောင်ရွက်ခြင်းဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိသည့် အစီအစဉ်ကို အမြဲတစေ ဆောင်ရွက်မည်ဖြစ်ပါသည်။

ဒေသခံလူ့အဖွဲ့အစည်းများကိုအထောက်အကူပြုခြင်းသည် ကျွန်တော်တို့၏ တာဝန် ဖြစ်သည်ဟု ယုံကြည်ထားသည့်အလျောက် ကျွန်တော်တို့၏အသားတင်အမြတ်ငွေ ၂ % ကို မြန်မာနိုင်ငံတွင် လူမှုရေးတာဝန်ယူမှု (CSR) စီမံကိန်းအတွက် ထည့်ဝင်မည်ဟု ကတိပြုပါသည်။

## ဘဏ္ဍာရေးဆိုင်ရာထည့်ဝင်မှု

ရေးဆွဲထားသည့်စီမံကိန်းအရ (နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုသော tax holiday ၅ နှစ် တာကာလ အပါအဝင်) စီမံကိန်းကာလအတွင်း ကုမ္ပဏီသည် နိုင်ငံတော် ရသုံးမှန်းခြေ ငွေစာရင်းသို့ အမေရိကန်ဒေါ်လာ ၂၃ သန်းခန့်ကိုအခွန် များအဖြစ်၊ တင်ဒါအောင်မြင်ကြေးအဖြစ် အမေရိကန်ဒေါ်လာ ၁၈ သန်း နှင့် MPPE အားပေးအပ်ရန် ခန့်မှန်းထားသည့်အမြတ်ဝေစုအဖြစ် အမေရိကန် ဒေါ်လာ ၆၈ သန်းကို ပေးအပ်နိုင်မည်ဟု ခန့်မှန်းထားပါသည်။

ယခုတင်ပြထားသည့်ကိစ္စနှင့်စပ်လျဉ်း၍ လူကြီးမင်း၏စိစစ်ပေးမှုအတွက် အထူးကျေးဇူးတင်ရှိပါ ကြောင်းနှင့် အထက်ပါတင်ပြထားသောစီမံကိန်းအားလုပ်ဆောင်ခွင့်ပြုပေးရန် လေးစားစွာ လျှောက်ထား အပ်ပါသည်။

လေးစားစွာဖြင့်

လက်မှတ် -

အမည် - Jasper Camacho

ရာထူး - Proposed Managing Director

လျှို့ဝှက်



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စွမ်းအင်ဝန်ကြီးဌာန
## (ဝန်ကြီးရုံး)

စာအမှတ်၊ မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/၀၁(၂၂၅ /၂၀၁၅)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်

### မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း၏ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို အကျိုးတူ ပူးပေါင်းဆောင်ရွက်ရေးအတွက် ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် ချုပ်ဆို၍ ရင်းနှီးမြှုပ်နှံမှုလုပ်ကိုင်ခွင့်ပြုရေးကိစ္စ**

၁။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းအနေဖြင့် ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်ရှိ မင်္ဂလာဒုံလေယာဉ်ဆီဌာနခွဲ၏ လေယာဉ်ဆီဖြန့်ဖြူးရေး လုပ်ငန်းအား နိုင်ငံတကာအဆင့်အတန်းနှင့်အညီ တိုးချဲ့လုပ်ကိုင်ရန်နှင့် နောင်တွင်အခြား လေဆိပ်(၁၀)ခုတွင် လုပ်ငန်းများတိုးချဲ့ဆောင်ရွက်ခြင်းများလုပ်ကိုင်ရန်အတွက် စင်္ကာပူနိုင်ငံ တွင် မှတ်ပုံတင်ထားသည့် Puma Energy Group Pte. Ltd. နှင့် မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်းတို့သည် ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် ချုပ်ဆိုလုပ်ကိုင်ရန်နှင့် Contemplated Project Agreements ခေါင်းစဉ်အောက်ရှိ အောက်ဖော်ပြပါဆက်စပ် စာချုပ်(၄)မျိုးကိုလည်း ဆက်လက်ချုပ်ဆိုသွားနိုင်ရေးအတွက် စီစဉ်ဆောင်ရွက်လျက်ရှိပါသည်-

(က) Fuel Supply Agreement
(ခ) Brand Licensing Agreement
(ဂ) Operations and Management Agreement relating to Aviation Technical Services
(ဃ) The Land Lease Agreements

၂။ Puma Energy Group Pte. Ltd. သည် စင်္ကာပူနိုင်ငံတွင် မှတ်ပုံတင်ထားပြီး၊ လေယာဉ်ဆီအား တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ သယ်ယူခြင်း၊ ဖြန့်ဖြူးခြင်း၊ရောင်းချခြင်းနှင့် စီမံခြင်း အပါအဝင် လောင်စာဆီလုပ်ငန်းကို ကျယ်ကျယ်ပြန့်ပြန့် လုပ်ကိုင်လျက်ရှိသည့် နိုင်ငံတကာရေနံကုမ္ပဏီဖြစ်ပါသည်။

၃။ အစုရှယ်ယာအနေဖြင့် မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းမှ အစုရှယ်ယာ ၅၁% နှင့် Puma Energy Group Pte Ltd. မှ အစုရှယ်ယာ ၄၉% ပါဝင်မည်ဖြစ်ပြီး၊ ကုမ္ပဏီ၏ အမည်ကို National Energy and Puma Aviation Services Co., Ltd ဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ကနဦးရင်းနှီးမြှုပ်နှံမှုအနေဖြင့် မတည်ရင်းနှီးငွေ အမေရိကန်ဒေါ်လာငါးဆယ့်တစ်သန်း နှစ်သောင်းလေးရာ့ရှစ်တိတိ (US$ 51,020,408.00) ရှိပါသည်။ မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်းအနေဖြင့် အစုရှယ်ယာ ၅၁% အမေရိကန်ဒေါ်လာနှစ်ဆယ့်ခြောက်သန်း နှစ်သောင်းလေးရာ့ရှစ်တိတိ (US$ 26,020,408.00) တန်ဖိုးကို ရန်ကုန်အပြည်ပြည်ဆိုင်ရာ လေဆိပ်ရှိ မင်္ဂလာဒုံလေယာဉ်ဆီဌာနခွဲတွင် လက်ရှိအသုံးပြုနေသော စက်သုံးဆီ သိုလှောင် ကန်များနှင့် ဆက်စပ်အသုံးပြုနေသော အဆောက်အဦများ၊ စက်ပစ္စည်းများ စသည့် အခြေ ပစ္စည်းများအဖြစ် ပါဝင်မည်ဖြစ်ပြီး Puma Energy Group Pte Ltd. မှ အမေရိကန် ဒေါ်လာနှစ်ဆယ့်ငါးသန်းတိတိ (US$ 25,000,000.00) ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

၅။ အဆိုပါ Joint Venture Agreement လက်မှတ်ရေးထိုးခြင်းအတွက် Signature Bonus အမေရိကန်ဒေါ်လာနှစ်ဆယ်သန်းတိတိ (US$ 20,000,000.00) ရရှိမည်ဖြစ်ရာ ရွေးချယ်ခံရမှုအတွက် ကနဦး Signature Bonus အမေရိကန်ဒေါ်လာနှစ်သန်းတိတိ (US$ 2,000,000.00) ကို ရွေးချယ်ခံရပြီး ၂ပါတ်အတွင်း ရရှိခဲ့ပြီးဖြစ်ပါသည်။ Joint Venture Agreement လက်မှတ်ရေးထိုးပြီးပါက ရက်ပေါင်း ၃၀ အတွင်း ကျန်ရှိသည့် Signature Bonus အမေရိကန်ဒေါ်လာတစ်ဆယ့်ရှစ်သန်းတိတိ (US$ 18,000,000.00) ကို ထပ်မံရရှိမည် ဖြစ်ပါသည်။ စာချုပ်ချုပ်ဆိုပြီး စာချုပ်သက်ဝင်သည့်နေ့မှစ၍ စာချုပ် သက်တမ်း နှစ်၃၀ ဖြစ်ပါသည်။

၆။ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းအား ဈေးကွက်စီးပွားရေးစနစ်နှင့် အညီ ပြုပြင်ပြောင်းလဲဆောင်ရွက်မည့်အစီအစဉ်အား နိုင်ငံတော်သမ္မတရုံးသို့ တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတရုံးမှ ခွင့်ပြုပါသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ခွင့်ပြုချက်ရရှိပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(က)**

၇။ အမျိုးသားလေကြောင်းဥပဒေပုဒ်မ၇(ဂ)ပါ လေယာဉ်ဆီ၊ စက်ဆီ၊ ချောဆီများ ဝယ်ယူ ခြင်း၊သိုလှောင်ခြင်း၊ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို လုပ်ကိုင်သည့်အခါ စွမ်းအင်ဝန်ကြီးဌာန ၏ အမိန့်ကြော်ငြာစာအမှတ်၊ ၁၀၀/၂၀၁၃ နှင့်အညီ ဆောင်ရွက်ရမည်ဖြစ်ပြီး၊ အဆိုပါလုပ်ငန်း တွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပါဝင်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၄၉/၂၀၁၄ အရ စွမ်းအင်ဝန်ကြီးဌာနနှင့်သာ ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ရမည်ဟု ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ အကြံပြုပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ခ)**

၈။ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း၏ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် Joint Venture Agreement (မူကြမ်း)အပေါ် အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် ဘဏ္ဍာရေးဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်ရယူပြီး သဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အား ပြင်ဆင်ပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(ဂ)၊ နောက်ဆက်တွဲ(ဃ)၊ နောက်ဆက်တွဲ(င)၊ နောက်ဆက်တွဲ(စ)၊ နောက်ဆက်တွဲ(ဆ)၊**

၉။ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းနှင့် Puma Energy Group Pte. Ltd. တို့အကြားချုပ်ဆိုမည့် ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် မူကြမ်းကို **နောက်ဆက်တွဲ(ဇ)** အဖြစ်တင်ပြအပ်ပါသည်။

၁၀။ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီ၏ ၂၈-၅-၂၀၁၅ ရက်နေ့တွင် ကျင်းပသောအစည်းအဝေးအမှတ်စဉ်(၉/၂၀၁၅)မှ “ နိုင်ငံတော်သမ္မတကြီးထံ တင်ပြပါမည်။ ခွင့်ပြုပါက ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်” ဟုမိန့်မှတ်ချက်ပြုခဲ့ပြီး၊ နိုင်ငံတော်သမ္မတရုံးမှလည်း “လုပ်ထုံးလုပ်နည်းနှင့်အညီဆက်လက်ဆောင်ရွက်သွားရန်” ဟု အကြောင်းကြားခဲ့ပါသည်။ **နောက်ဆက်တွဲ(ဈ)၊ နောက်ဆက်တွဲ(ည)**

၁၁။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းနှင့် Puma Energy Group Pte. Ltd. တို့၏ ဖက်စပ်လုပ်ငန်းသဘောတူ စာချုပ်ချုပ်ဆိုနိုင်ရေးအတွက် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ပြည်ထောင်စုအစိုးရအဖွဲ့၏ ၁၁-၆-၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၅) မှ ဖက်စပ်လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုကြောင်း သဘောတူဆုံးဖြတ်ခဲ့ပါသည်။ **နောက်ဆက်တွဲ(ဋ)**

၁၂။ သို့ဖြစ်ပါ၍ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းနှင့် စင်္ကာပူနိုင်ငံတွင် မှတ်ပုံတင်ထားသော Puma Energy Group Pte. Ltd. တို့သည် လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို အကျိုးတူပူးပေါင်းဆောင်ရွက်လုပ်ကိုင်ခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

ဇေယျာအောင်
ပြည်ထောင်စုဝန်ကြီး

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC Commission for mppe JV 16-6-2015

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၅၆ (၁) / ၇ / သမ္မတရုံး
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇွန်လ ၃ ရက်

သို့

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ ပြုပြင်ပြောင်းလဲဆောင်ရွက်မည့် လုပ်ငန်းစဉ်များတင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ ယင်း၏ ၃၀-၅-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁၀၅ / ၄ / စ ( ၇၉ )

စွမ်းအင်ဝန်ကြီးဌာနရှိ နိုင်ငံပိုင် စီးပွားရေးအဖွဲ့အစည်း (၃)ခုဖြစ်သည့် မြန်မာ့ရေနံ နှင့် သဘာဝဓါတ်ငွေ့လုပ်ငန်း၊ မြန်မာ့ရေနံဓါတုဗေဒလုပ်ငန်း၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေး လုပ်ငန်းတို့၏ ဈေးကွက်စီးပွားရေးစနစ်နှင့်အညီ ကော်ပိုရေးရှင်းအသွင် ပြုပြင်ပြောင်းလဲဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များအား သိရှိနိုင်ပါရန်နှင့် မူအားဖြင့်ခွင့်ပြုနိုင်ပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်း အပေါ် ခွင့်ပြုပါသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြား အပ်ပါသည်။

| ကြည့်ရှုပြီး | |
|---|---|
| ဝန်ကြီး | |
| ဒု-ဝန်ကြီး(ဓိမံ) | |
| ဒု-ဝန်ကြီး(ရေနံ) | |
| | |
| ရုံးအဖွဲ့မှူး | |

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး
ဒုတိယသမ္မတဦးစီးရုံးများ
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
သမ္မတရုံးဝန်ကြီးဌာန (၃)

နောက်ဆက်တွဲ(ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပြည်ထောင်စုရှေ့နေချုပ်ရုံး
နေပြည်တော်

စာအမှတ်၊ ၁ (၂) ၈ - ၂ ( ၂၂၂ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၁၈ ရက်

သို့
ပြည်ထောင်စုဝန်ကြီး
စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **မြန်မာအမျိုးသားလေကြောင်းဥပဒေ ပြဋ္ဌာန်းချက်နှင့် စပ်လျဉ်း၍ အကြံပြုချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ စွမ်းအင်ဝန်ကြီးဌာန၏ ၂-၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၄ - ၂ စွမ်းအင် (၁) (၀၂၂) ၂၀၁၅

၁။ မြန်မာအမျိုးသားလေကြောင်းသည် လေကြောင်းဝန်ဆောင်မှုလုပ်ငန်းတစ်ခုအဖြစ် လေယာဉ်ဆီ၊ စက်ဆီ၊ ချောဆီများ ဝယ်ယူခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို တည်ဆဲဥပဒေများနှင့် အညီ ဆောင်ရွက်နိုင်ကြောင်း မြန်မာအမျိုးသားလေကြောင်းဥပဒေ ပုဒ်မ ၇ (ဂ)တွင် ပြဋ္ဌာန်းထားပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်၊ ၄၉/၂၀၁၄ တွင် ရေနံ၊ သဘာဝ ဓာတ်ငွေ့နှင့် ရေနံထွက်ပစ္စည်းများ တင်သွင်း/ တင်ပို့ သယ်ယူ၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို စွမ်းအင်ဝန်ကြီးဌာနနှင့် ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ရန်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ အမိန့်ကြော်ငြာစာ အမှတ်၊ ၁၀၀/၂၀၁၃ တွင် ရေနံထွက်ပစ္စည်း ဖြန့်ဖြူးရောင်းချခွင့်လိုင်စင်ကို စွမ်းအင်ဝန်ကြီးဌာနထံ လျှောက်ထားရယူရန် ထုတ်ပြန်ထားသဖြင့် မြန်မာအမျိုးသားလေကြောင်းလိုင်း အနေဖြင့် လေယာဉ်ဆီ၊ စက်ဆီ၊ ချောဆီများဝယ်ယူခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်လိုပါက စွမ်းအင် ဝန်ကြီးဌာနနှင့် ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး ဖြန့်ဖြူးရောင်းချခွင့်လိုင်စင်ကို စွမ်းအင် ဝန်ကြီးဌာနမှ ရယူ၍ သိုလှောင်ကန်လိုင်စင်ကို ၁၉၃၇ ခုနှစ်၊ ရေနံနည်းဥပဒေအရ သတ္တုတွင်းဝန်ကြီးဌာနမှ ရယူရန် လိုအပ်မည်ဖြစ်ကြောင်း သုံးသပ်ရရှိပါသဖြင့် မြန်မာအမျိုးသားလေကြောင်းဥပဒေ၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ၊ စွမ်းအင်ဝန်ကြီးဌာနနှင့် စပ်ဆိုင်သည့် ဥပဒေ၊ နည်းဥပဒေ၊ အမိန့်ကြော်ငြာစာများတွင် ပါရှိသည့်အချက်များနှင့် စပ်လျဉ်း၍ အကြံပြုချက်ပေးပါရန် စွမ်းအင်ဝန်ကြီး ဌာနက ရည်ညွှန်းချက်ပါစာဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ မေတ္တာရပ်ခံ ညှိနှိုင်းသည့်ကိစ္စ ဖြစ်ပါသည်။

၂။ စွမ်းအင်ဝန်ကြီးဌာန၏ အမိန့်ကြော်ငြာစာအမှတ်၊ ၁၀၀/၂၀၁၃ သည် ရေနံထွက်ပစ္စည်းများ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ သယ်ယူခြင်း၊ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းများကို စနစ်တကျ ဆောင်ရွက်နိုင်ရန် ထုတ်ပြန်ခြင်းဖြစ်ပြီး ရေနံထွက်ပစ္စည်းများ တင်သွင်း၊ သိုလှောင်၊ သယ်ယူ၊ ဖြန့်ဖြူး ရောင်းချသူတိုင်း လိုက်နာရမည့် အမိန့်ဖြစ်သောကြောင့် မြန်မာအမျိုးသားလေကြောင်း အနေဖြင့် ရေနံထွက်ပစ္စည်းဖြစ်သည့် လေယာဉ်ဆီ၊ စက်ဆီ၊ ချောဆီများ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်သည့်အခါ စွမ်းအင်ဝန်ကြီးဌာန၏ အမိန့်ကြော်ငြာစာအမှတ်၊ ၁၀၀/ ၂၀၁၃ နှင့် အညီ လိုအပ်သော လိုင်စင်များကို ရယူဆောင်ရွက်ရန် လိုအပ်သည့်ပြင် ယင်းအမိန့်ပါ စည်းကမ်းများကို လိုက်နာရန် လိုအပ်သည်ဟု သဘောရရှိပါသည်။

၃။ (က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်၊ ၄၉/၂၀၁၄ သည် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၅၆၊ ပုဒ်မခွဲ (ခ)အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေနှင့် သက်ဆိုင်သည့် စီးပွားရေး လုပ်ငန်းများ အနက်မှ ခွင့်မပြုသည့် စီးပွားရေးလုပ်ငန်းနှင့် ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစား များ သတ်မှတ်ခြင်းဖြစ်သည်ကို တွေ့ရှိရပါသည်။ အဆိုပါ အမိန့်ကြော်ငြာစာတွင် "အခြားကန့်သတ်ချက်ဖြင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်း" တွင် ရေနံ၊ သဘာဝဓာတ်ငွေ့နှင့် ရေနံထွက်ပစ္စည်းများ တင်သွင်း/ တင်ပို့၊ သယ်ယူ၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းများကို စွမ်းအင် ဝန်ကြီးဌာနနှင့်သာ ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုကြောင်း သတ်မှတ်ထားသည်ကို တွေ့ရှိရပါသည်။

(ခ) မြန်မာအမျိုးသားလေကြောင်းသည် နိုင်ငံတော်က မတည်ထုတ်ပေးသော ရင်းနှီးငွေ၊ ပို့ဆောင်ရေးဝန်ကြီးဌာနက ပိုင်ဆိုင်သော ငွေကြေးနှင့် ပစ္စည်းများဖြင့် တည်ထောင်ထား သော စီးပွားရေးအဖွဲ့အစည်းဖြစ်ကြောင်း မြန်မာအမျိုးသားလေကြောင်း ဥပဒေ ပုဒ်မ ၆ အရ တွေ့ရှိရပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၂ (ည) အဓိပ္ပာယ်ဖွင့်ဆိုချက်ပါ ရင်းနှီးမြှုပ်နှံသူမဟုတ်သဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ်၊ ၄၉/၂၀၁၄ သည် မြန်မာအမျိုးသားလေကြောင်းနှင့် သက်ဆိုင်ခြင်းမရှိဟု ယူဆ ပါသည်။

(ဂ) သို့ရာတွင် မြန်မာအမျိုးသားလေကြောင်းဥပဒေ ပုဒ်မ ၃ (ဃ) နှင့် ၇ (စ)တို့ပါ ပြဋ္ဌာန်းချက် များအရ မြန်မာအမျိုးသားလေကြောင်းလုပ်ငန်းများတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများ လက်ခံဆောင်ရွက်ရန် ရည်ရွယ်ကြောင်း တွေ့ရှိရသဖြင့် မြန်မာအမျိုးသား လေကြောင်း

သည် ယင်း၏လုပ်ငန်းများကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများဖြင့် ဆောင်ရွက်သည့်အခါ အဆိုပါ လုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်က သတ်မှတ်ထားသော စီးပွားရေးလုပ်ငန်းအမျိုးအစားတွင် ပါဝင်ပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်၊ ၄၉/၂၀၁၄ နှင့် သက်ဆိုင်မည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာအမျိုးသားလေကြောင်းသည် မြန်မာအမျိုးသားလေကြောင်းဥပဒေ ပုဒ်မ ၇ (ဂ)ပါ လေယာဉ်ဆီ၊ စက်ဆီ၊ ချောဆီများ ဝယ်ယူခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို လုပ်ကိုင်သည့်အခါ စွမ်းအင်ဝန်ကြီးဌာန၏ အမိန့်ကြော်ငြာစာအမှတ်၊ ၁၀၀/၂၀၁၃ နှင့်အညီ ဆောင်ရွက်ရမည်ဖြစ်ပြီး အဆိုပါလုပ်ငန်းတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပါဝင်ပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်၊ ၄၉/၂၀၁၄ အရ စွမ်းအင်ဝန်ကြီးဌာနနှင့်သာ ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ရမည်ဖြစ်သည်ဟု သဘောရရှိပါကြောင်း အကြံပြုပြန်ကြားအပ်ပါသည်။

၁၀၊၄၊၁၇

ပြည်ထောင်စုရှေ့နေချုပ် (ကိုယ်စား)
(ထွန်းထွန်းဦး၊ ဒုတိယရှေ့နေချုပ်)

မိတ္တူ -
- ရုံးလက်ခံ
- မျှောစာတွဲ

နောက်ဆက်တွဲ(၈)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်း နှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ အမစ- ၁/ ၃/ ၉ (၁၃၅၆ / ၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ခုနှစ် မတ်လ ၁၁ ရက်

သို့

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်း၏ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား တင်ဒါခေါ်ယူဆောင်ရွက်မည့် Joint Venture Agreement (မူကြမ်း)အပေါ် သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁)စွမ်းအင်ဝန်ကြီးဌာန၏ ၂၄-၇-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ညမ / JV/ စ (၉၉)

(၂) အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၏ ၁၈-၈-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ အမစ-၁/၃/၉ (၄၃၃၈/၂၀၁၄)

(၃) စွမ်းအင်ဝန်ကြီးဌာန၏ ၂၄-၇-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ညမ/မူကြမ်း/ စ (၃၇)

၁။ စွမ်းအင်ဝန်ကြီးဌာနမှ မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်း၏ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား တင်ဒါခေါ်ယူဆောင်ရွက်မည့် Joint Venture Agreement (မူကြမ်း)အပေါ် ရည်ညွှန်းချက် (၁)ပါစာဖြင့် သဘောထားတောင်းခံခဲ့ရာ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာနမှ ရည်ညွှန်းချက် (၂)ပါစာဖြင့် သဘောထား ပြန်ကြားခဲ့ပါသည်။

၂။ သို့ပါ၍ စွမ်းအင်ဝန်ကြီးဌာနမှ Joint Venture Agreement (မူကြမ်း)အား သက်ဆိုင်ရာဝန်ကြီးဌာနများ၏ သဘောထားနှင့်အညီပြင်ဆင်၍ ရည်ညွှန်းချက်(၃)ပါစာဖြင့် သဘောထား တောင်းခံလာမှုအပေါ် ဤဝန်ကြီးဌာနအနေဖြင့် အထူးမှတ်ချက်ပြုရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(ဒေါက်တာဝါဝါမောင်၊ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ(ဃ)

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး

Energy Planning Department

သို့

စာအမှတ်၊ စဆ - ၈ / ၁၄၀ (၁၄၅/၂၀၁၅)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ မတ် လ ( ၁၂ ) ရက်

ပြည်ထောင်စုဝန်ကြီး
စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်း၏ လေယာဉ်ဆီတင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား တင်ဒါခေါ်ယူဆောင်ရွက်မည့် Joint Venture Agreement (မူကြမ်း) အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁)လိပ်မူပါရုံး၏ ၁၆-၉-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ညမ / JV / စ (၁၂၄)

(၂) ဤရုံး၏ ၂၃-၉-၂၀၁၄ ရက်စွဲပါ စာအမှတ် စဆ-၈/၁၄၀(၂၂၈/၂၀၁၄)

(၃) လိပ်မူရုံး၏ ၂၇-၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ညမ/ရွှေစီမံကိန်း/စ(၃၈)

၁။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်း၏ လေယာဉ်ဆီတင်သွင်း၊ သိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ပြည်တွင်းပြည်ပကုမ္ပဏီများနှင့် အကျိုးတူပူပေါင်းဆောင်ရွက်နိုင်ရေးအတွက် တင်ဒါခေါ်ယူဆောင်ရွက်မည့် Joint Venture Agreement (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာမှုအပေါ် စိစစ်ရာတွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၄၅(က)အရ စာရင်းစစ်ကို ပြည်ထောင်စုစာရင်းစစ်ချုပ်၏ အကြံပေးချက်အရ ခန့်ထားရန်၊ ပေးသွင်းရမည့်ငွေများ စာချုပ်ပါသတ်မှတ်ချက်အတိုင်းပေးသွင်းခြင်းမရှိပါက ထိုက်သင့်သောဒဏ်ကြေးကောက်ခံရန်နှင့် နောက်ဆုံးမပေးသွင်းပါက နိုင်ငံတော်မှ နစ်နာဆုံးရှုံးမှုမရှိစေရန် အစီအမံများထည့်သွင်းချုပ်ဆိုရန် ရည်ညွှန်းချက် (၂) ပါစာဖြင့် အကြောင်းပြန်ကြားခဲ့ပါသည်။

၂။ စွမ်းအင်ဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် ပြင်ဆင်ဖြည့်စွက်သည့်စာချုပ်(မူကြမ်း)ကို ထပ်မံတင်ပြခဲ့ရာတွင် စာရင်းစစ်ခန့်ထားခြင်းအတွက် နောက်ဆက်တွဲ(က) ဘုတ်အဖွဲ့၏ သီးသန့်ကိစ္စရပ်များ ၁၇။ စာရင်းစစ်များကိုခန့်ထားခြင်း (သို့) ရာထူးမှဖယ်ရှားခြင်းဟူ၍သာဖော်ပြ၍ ဘုတ်အဖွဲ့၏ တာဝန်ဟူ၍သာ သတ်မှတ်ခဲ့ပါသည်။

၃။ ပေးသွင်းရမည့်ငွေများအတွက် သတ်မှတ်ချက်အတိုင်း ပေးသွင်းမှုမရှိပါက ဒဏ်ကြေးကောက်ခံ ရန်နိုင်ငံတော်မှ နစ်နာဆုံးရှုံးမှုမရှိစေရန် အစီအမံများနှင့်စပ်လျဉ်း၍ ၁၀.၃.၁။(ဂ)၌ ရှင်းလင်းစွာဖော်ပြ ထားခြင်းမရှိပါ။

၄။ သို့ပါ၍ ဤရုံး၏ ရည်ညွှန်းချက်(၂)ပါ စာပိုဒ်(၂)နှင့်(၃)ပါကိစ္စများ စာချုပ်တွင် ထည့်သွင်းချုပ်ဆို ဆောင်ရွက်ရန် လိုအပ်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုစာရင်းစစ်ချုပ် (ကိုယ်စား)
(မျိုးမြင့်၊ ဒုတိယစာရင်းစစ်ချုပ်)

မိတ္တူ
- နိုင်ငံတော်သမ္မတရုံး
- သမ္မတဦးစီးရုံး
- ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
- ရုံးလက်ခံ
- မျှော

နောက်ဆက်တွဲ(င)

လျှို့ဝှက်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပြည်ထောင်စုရှေ့နေချုပ်ရုံး**

**နေပြည်တော်**

စာအမှတ်၊ ၂(၅)၁ - ၂ / နပတ( ၂၃၉ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ်လ ၂၀ ရက်

အကြောင်းအရာ။ လေယာဉ်ဆီတင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား တင်ဒါအောင်မြင်သည့် Puma Energy Group Pte. Ltd နှင့်ချုပ်ဆိုဆောင်ရွက်မည့် Joint Venture Agreement စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ စွမ်းအင်ဝန်ကြီးဌာန၏ ၂၆-၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ညမ/မူကြမ်း/စ(၃၇)

၁။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း၏ လေယာဉ်ဆီတင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ပြည်တွင်းပြည်ပကုမ္ပဏီများနှင့် အကျိုးတူပူးပေါင်း ဆောင်ရွက်နိုင်ရေးအတွက် တင်ဒါခေါ်ယူရာတွင် တင်ဒါအောင်မြင်သည့် Puma Energy Group Pte. Ltd နှင့် ချုပ်ဆိုဆောင်ရွက်မည့် Joint Venture Agreement စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ အထက်အပိုဒ်ပါ လုပ်ငန်းဆောင်ရွက်ရာတွင် Joint Venture Company ကို Special Purpose Vehicle အဖြစ် တည်ထောင်မည်ဖြစ်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှုတန်ဖိုးမှာ အမေရိကန်ဒေါ်လာ 51,020,408 ဖြစ်ကြောင်း၊ MPPE ဘက်မှ အမေရိကန်ဒေါ်လာ 26,020,408 ကို Inkind အဖြစ် ထည့်ဝင်ပြီး Puma Energy Group Pte Ltd ဘက်မှ အမေရိကန်ဒေါ်လာ 25,000,000 ကို ငွေသားဖြင့်ထည့်ဝင်ရင်းနှီးမည်ဖြစ်ကြောင်း၊ စာချုပ်သက်တမ်းမှာ ကနဦးနှစ်(၃၀)ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသော Joint Venture Agreement (မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ် 1 Definitions and Interpretation အပိုဒ်ခွဲ 1.1 ၌ ဒုတိယအကြိမ်(တဆင့်ခံ) ကြိုတင်စည်းကမ်းချက်များ Secondary Conditions Precedent နှင့်စပ်လျဉ်း၍ ဖော်ပြထားသည့်အချက်များကို ဌာနမှ သတိပြုသင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် 1 Definitions and Interpretation အပိုဒ်ခွဲ 1.1 ၌ အဓိကကျသည့်ချိုးဖောက်မှု "Material breach" နှင့်စပ်လျဉ်း၍ သတ်မှတ်ထားသည့်ထည့်ဝင်ကြေးထည့်ဝင်ရန် သို့မဟုတ် ငွေပေးချေရန် ပျက်ကွက်မှုနှင့် နောက်ဆက်တွဲ Annex C တွင် ဖော်ပြထားသည့် ကိစ္စရပ်များကို ဆောင်ရွက်ရန် ပျက်ကွက်ခြင်းကဲ့သို့သော ပျက်ကွက်မှု သို့မဟုတ် ချိုးဖောက်မှုများကိုဆိုလိုကြောင်း ဖော်ပြထားသည်ကို ဌာနမှ သတိပြုသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် 1 Definitions and Interpretation အပိုဒ်ခွဲ 1.1 ၌ Insolvency Event ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်တွင် ဤစာချုပ်၏ အဓိက အချက်တစ်ချက်ဖြစ်သည့် လူမွဲအဖြစ်သတ်မှတ်မည့်အချက် (Insolvency Event) နှင့်စပ်လျဉ်း၍ ဖော်ပြထားသည့် ကိစ္စရပ်များကို လက်ခံရန်သင့် မသင့်နှင့် လက်ခံနိုင်ခြင်းရှိ မရှိတို့ကို ဌာနမှ ကြိုတင်စိစစ်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 3.3 Compliance with Local Registration Requirements တွင် DICA Remittance Account သို့ ငွေသွင်းရန်အတွက် Bank Account တစ်ခုဖွင့်လှစ်ရာတွင် Authorized Signatories အဖြစ် Puma Energy Director အား Mandatory အဖြစ် ရွေးချယ်သတ်မှတ်ရန် ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ယင်းအချက်အား ဌာနမှ လက်ခံနိုင်ခြင်းရှိ မရှိ စဉ်းစားသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် 2 Joint Venture Scope and Purpose of Business ၊ အပိုဒ်ခွဲ 2.4 တွင် ဖော်ပြထားချက်အရ အပိုဒ်ခွဲ 3.2 ပါ စည်းကမ်းချက်နှင့်အညီ ကုမ္ပဏီကို ဖွဲ့စည်းတည်ထောင်ပြီးလျှင်ပြီးချင်း Annex B တွင် ဖော်ပြပါရှိသည့် လုပ်ငန်းသဘောတူစာချုပ်များ (Project Agreements) ကို သက်ဆိုင်ရာ အာဏာပိုင်များနှင့် Closing မတိုင်မီချုပ်ဆိုမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို ဌာနမှ သတိပြုသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် 4 Initial Equity Investment and Share Capital ၊ အပိုဒ်ခွဲ 4.2 တွင် ဌာနမှ အမေရိကန်ဒေါ်လာ 26,020,408 တန်ကြေး ရှိ in kind ထည့်ဝင်မှုနှင့် မြေအသုံးပြုခွင့်တို့ကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည်ဖြစ်ရာ မြေဧရိယာနှင့် ပစ္စည်းစာရင်းတို့ကို တိကျစွာ ဖော်ပြသင့်ပါသည်။ ထို့ပြင် ယင်းစာပိုဒ်ပါ မြေငှားရမ်းခနှင့်စပ်လျဉ်း၍ ငှားရမ်းမည့်နှုန်းထား၊ ငှားရမ်းသက်တမ်းတို့ကို ရှင်းလင်းတိကျစွာ ဖော်ပြသင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4.2.3 တွင် MPPE မှ ထည့်ဝင်ထားသည့် အခြေပစ္စည်း (contributed assets) များအပေါ် third party ၏ claims များ ပေါ်ပေါက်လာပါက Puma Energy သို့လျော်ကြေးပေးရမည် (Indemnify) ဖြစ်ကြောင်း ဖော်ပြထားသည်ကို ဌာနမှ သတိပြုသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4.5 Conditions Precedent ခေါင်းစဉ် အောက်တွင် အပိုဒ်ခွဲငယ် 4.4.1 ၌ ဖော်ပြထားသည့် Share ထည့်ဝင်ကြေး ဆောင်ရွက်ရန်အတွက် MIC application အပါအဝင် အပိုဒ်ခွဲ 4.5.1 မှ 4.5.11 အထိ ဖော်ပြထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ရန် ကြိုတင်စည်းကမ်းချက်အဖြစ် ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အဆိုပါစည်းကမ်းချက်များ၌ ဖော်ပြထားသည့်ကိစ္စရပ်များကို သတ်မှတ်ကာလအတွင်း ဆောင်ရွက်နိုင်ခြင်းရှိမရှိ သတိပြုစိစစ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် 6 Shareholders ခေါင်းစဉ်အောက်ရှိ အပိုဒ်ခွဲ 6.2 Proxies တွင် ကိုယ်စားလှယ် (Proxy) တစ်ဦး၏သက်တမ်းသည်ခန့်အပ်သည်မှ (၁)နှစ်ဖြစ်ကြောင်း၊ ထိုသို့ခန့်အပ်ခြင်းသည် အလားတူအခြားကိစ္စရပ်နှင့် စပ်လျဉ်း၍ အာဏာသက်ဝင်နေစေကာမူ (၃)နှစ်ထက်ပိုမိုပါက ကိုယ်စားလှယ်ခန့်အပ်ခြင်းပျက်ပြယ်မည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို သတိပြုသင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် 7 Board of Directors ခေါင်းစဉ်အောက်ရှိ အပိုဒ်ခွဲ 7.1.6 တွင် စာချုပ်ဝင်တစ်ဖက်မှ ၎င်းပိုင် Share အားလုံးကို ထုခွဲ၊ ရောင်းချ၊ လွှဲပြောင်းပါက ထိုသို့ပြုလုပ်သည့်နေ့တွင် ၎င်းကခန့်အပ်ထားသည့် Director များကို Board အဖွဲ့မှ နုတ်ထွက်စေရမည်ဖြစ်ကြောင်း၊ ထိုသို့နုတ်ထွက်ခံရသည့် Director များအနေဖြင့် မည်သည့်လျော်ကြေးမျှရရှိမည်မဟုတ်သည်ကို သဘောတူကြောင်း ဖော်ပြထားချက်နှင့်စပ်လျဉ်း၍ ဌာနမှ သတိပြုသင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် 7 Board of Directors ခေါင်းစဉ်အောက်ရှိ အပိုဒ်ခွဲ 7.3 တွင် အစည်းအဝေးကျင်းပခြင်းနှင့်စပ်လျဉ်းသည့် စည်းကမ်းချက်အား ဖော်ပြထားပါသည်။ မည်သို့သောကိစ္စရပ်များအား အထူးအစည်းအဝေး (special meeting) နှင့် ဆုံးဖြတ်မည်ဖြစ်ကြောင်း မည်သို့သောကိစ္စရပ်များအား ပုံမှန်အစည်းအဝေး (regular meeting) နှင့် ဆုံးဖြတ်မည်ဖြစ်ကြောင်း ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ် 9.2 တွင် General Manager of Finance အား Puma ကုမ္ပဏီကသာ ခန့်အပ်ရမည်ဖြစ်ပြီး ယင်းကုမ္ပဏီ၏ ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်ရမည်ဖြစ်ကြောင်း ဖော်ပြချက်ကို လက်ခံရန်သင့် မသင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် 15 General Covenants and Agreements ခေါင်းစဉ်အောက်တွင် အပိုဒ်ခွဲ 15.1.3 ပါကိစ္စရပ်များမှလွဲ၍ စာချုပ်ဝင် နှစ်ဖက်လျှို့ဝှက်စွာ

ထိန်းသိမ်းရမည့်ကိစ္စရပ်များကို စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက်(၃)နှစ်အထိ ဆက်လက်ထိန်းသိမ်းထားရှိရမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို ဌာနမှ သတိပြုသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 17.6 တွင် Fair Market Value ကို တွက်ချက်ရန် Valuers ကို စာချုပ်ဝင်များမှ ခန့်အပ်ရန်နှင့် ထိုသို့ခန့်အပ်နိုင်ခြင်း မရှိပါက ကုမ္ပဏီမှ Directors များက စင်္ကာပူနိုင်ငံရှိ Chartered Accounts အဖွဲ့အစည်းမှ President ထံသို့စာဖြင့် ရေးသား၍ (၁၀)ဦးထက်မနည်းသည့် Valuers များပါဝင်သည့် အဖွဲ့အစည်းများ၏စာရင်းကို လျှောက်ထားတောင်းခံရမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို ဌာနမှ သတိပြုသင့်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ် 18 Force Majeure ခေါင်းစဉ်အောက်ရှိ အပိုဒ်ခွဲ 18.2 တွင် မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ရပ်သည် ၂ လကျော်ကြာသည် အထိဖြစ်ပွားနေပါက စာချုပ်အားရပ်စဲနိုင်သည်ဟု ဖော်ပြထားရာ အဆိုပါအချိန်ကာလနှင့်စပ်လျဉ်း၍ ဌာနမှ သတိပြုသင့်ပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 19.2.4 တွင် Seat of Arbitration အား စင်္ကာပူဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ "Seat" အစား "Venue" ဟု ပြင်ဆင်ရေးသားသင့်ပါသည်၊

(ထ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 20.12 Survival ၌ စာချုပ်ပါ အပိုဒ်ခွဲ 4.7 ၊ 15 ၊ 19 and 20 တို့တွင် ဖော်ပြထားသည့် စည်းကမ်းချက်များသည် ဤစာချုပ်ရပ်စဲသည့်တိုင်ဆက်လက်အကျိုး သက်ရောက်မှုရှိမည်ဖြစ်သည်ကို ဌာနမှ သတိပြုသင့်ပါသည်၊

(ဒ) ဖက်စပ်ကုမ္ပဏီ၏စာရင်းစစ်ဆေးခြင်းနှင့်စပ်လျဉ်း၍ အစိုးရကအစုရှယ်ယာပါဝင်သော ဖက်စပ်ကုမ္ပဏီများတွင် စာရင်းစစ်ဆေးခြင်းနှင့် စာရင်းစစ်ခန့်

ထားခြင်းကို မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၄၅-က နှင့်အညီသာ ဆောင်ရွက်ရမည်ဖြစ်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း)တွင်စာချုပ်ဝင်များ၏ တာဝန်နှင့်အခွင့်အရေးများ (obligations of the parties) မပါရှိသဖြင့် စာချုပ်ဝင်များ၏ တာဝန်နှင့် အခွင့်အရေးများအား သီးခြားခေါင်းစဉ်များဖြင့် ထည့်သွင်းဖော်ပြသင့်ပါ သည်၊

(န) စာချုပ်(မူကြမ်း)ပါ နောက်ဆက်တွဲများသည် လုပ်ငန်းပိုင်ဆိုင်ရာကိစ္စရပ်များ ဖြစ်ပြီး အရေးကြီးသော စာရွက်စာတမ်းများဖြစ်သဖြင့် လုပ်ငန်းကျွမ်းကျင်သူများ၏အကူအညီဖြင့် ဌာနဆိုင်ရာမှ အသေးစိတ်စိစစ်ရန်ဖြစ်ပါသည်။ ထို့ပြင် စာချုပ်(မူကြမ်း)တွင် နောက်ဆက်တွဲများပါရှိနေရာ အဆိုပါနောက်ဆက်တွဲများသည် တစ်စိတ်တစ်ဒေသဖြစ်ကြောင်း စည်းကမ်းချက်ဖော်ပြရန် လိုအပ်ပါသည်။

၄။ နိုင်ငံတော်ပိုင်စီးပွားရေး လုပ်ငန်းများဥပဒေပုဒ်မ ၃(ဂ)တွင် "ရေနံနှင့် သဘာဝဓာတ်ငွေ့ရှာဖွေ ထုတ်လုပ်ဝယ်ယူရောင်းချခြင်းလုပ်ငန်းနှင့် ရေနံနှင့်သဘာဝဓာတ်ငွေ့ထွက် ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကို အစိုးရကသာ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများအဖြစ် လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည်" ဟု ပြဋ္ဌာန်းထားပါသည်။ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၄ တွင် "အစိုးရအဖွဲ့သည် ပုဒ်မ ၃ အရ အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ရန် သတ်မှတ်ထားသော စီးပွားရေးလုပ်ငန်းတစ်ရပ်ရပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ အကျိုးစီးပွားအလို့ငှာ အစိုးရနှင့် အခြားမည်သည့်ပုဂ္ဂိုလ် သို့မဟုတ် မည်သည့်စီးပွားရေးအဖွဲ့အစည်းကမဆို ဖက်စပ်လုပ်ကိုင်ဆောင်ရွက်နိုင်ရန်ဖြစ်စေ၊ ပုဂ္ဂိုလ်တစ်ဦးဦး သို့မဟုတ် စီးပွားရေးအဖွဲ့အစည်း တစ်ခုခုက စည်းကမ်းသတ်မှတ်ချက်ဖြင့် လုပ်ကိုင်ဆောင်ရွက်နိုင်ရန်ဖြစ်စေ အမိန့်ကြော်ငြာစာ ထုတ်ပြန်၍ ခွင့်ပြုနိုင်သည်" ဟု ပြဋ္ဌာန်းထားသဖြင့် အဆိုပါဥပဒေပုဒ်မ ၄ အရ ပြည်ထောင်စုအစိုးရအဖွဲ့၏ အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သည့်ခွင့်ပြုမိန့်ရရှိရန်လိုအပ်ကြောင်း ဖော်ပြအပ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၆။ Puma Energy Group Pte. Ltd သည် ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၇။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

၈။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မေသီလင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ် )

**စွမ်းအင်ဝန်ကြီးဌာန**

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ



Acer/D/DRWT/ Puma Energy Group Pte. Ltd (16-3-2015)

နောက်ဆက်တွဲ(စ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

Energy Planning Department

စာအမှတ်၊မဗဘ /ဘဏ်စိစစ်/၄(၉၉/၂၀၁၅)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ်လ ၁၉ ရက်

သို့

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းနှင့် Puma Energy Group Pte Ltd တို့ ချုပ်ဆိုမည့် Joint Venture Agreement (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) စွမ်းအင်ဝန်ကြီးဌာန၏၂၆-၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ညမ/မူကြမ်း/စ(၃၇)

(၂) မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏၁-၉-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ မဗဘ/ဘဏ်စိစစ်/၄(၃၀၇/၂၀၁၄)

စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း၏ လေယာဉ်ဆီတင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ရန် မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းနှင့် Puma Energy Group Pte Ltd တို့ ချုပ်ဆိုမည့် Joint Venture Agreement (မူကြမ်း)အပေါ်ရည်ညွှန်းချက်(၁)ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာခြင်းနှင့်စပ်လျဉ်း၍ စွမ်းအင်ဝန်ကြီးဌာနက တင်ဒါခေါ်ယူရာတွင် ဖော်ပြမည့် Joint Venture Agreement အပေါ် သဘောထားမှတ်ချက်တောင်းခံခဲ့စဉ်က မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ ရည်ညွှန်းချက် (၂) ပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြားထားသည့် အချက်များအား ဖြည့်စွက်ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ သဘောထားမှတ်ချက်ပြုရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(စိုးမင်း၊ ဒုတိယဥက္ကဋ္ဌ)

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ

ဘဏ္ဍာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ဘခ - ၁ / ၂၇၄(၁၃၅၆ / ၂၀၁၅)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ်လ ၂၄ ရက်

သို့

ပြည်ထောင်စုဝန်ကြီး

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ စွမ်းအင်ဝန်ကြီးဌာန၏ ၂၆-၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ညမ/မူကြမ်း/စ(၃၇)

၁။ စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်း၏ လေယာဉ်ဆီ တင်သွင်း၊သိုလှောင်၊ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ပြည်တွင်းပြည်ပကုမ္ပဏီများနှင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်နိုင်ရေးအတွက် တင်ဒါခေါ်ယူရာတွင် ဖော်ပြမည့် ပြင်ဆင်ချက် Joint Venture Agreement (မူကြမ်း) အပေါ် ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) စာချုပ်အပိုဒ်(၁၀.၂)တွင် JV ကုမ္ပဏီသည် ဘဏ်(သို့မဟုတ်) အခြားတတိယ အဖွဲ့ အစည်းမှ မြန်မာကျပ်(သို့မဟုတ်) အခြားသောငွေကြေးဖြင့် ချေးငွေရယူနိုင်သည်ဟု ဖော်ပြထားရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ် တို့၏ ခွင့်ပြုချက်ရယူပြီး ဘဏ္ဍာရေးဆိုင်ရာ တည်ဆဲစည်းမျဉ်းများနှင့်အညီ ချေးငွေ ရယူမည်ဟု ပြင်ဆင်ဖော်ပြသင့်ပါသည်။

(ခ) အဆိုပါ စီမံကိန်းနှင့်ပတ်သက်၍ စွမ်းအင်ဝန်ကြီးဌာနမှ ရရှိသည့်ဝင်ငွေများအား သက်ဆိုင်ရာဘဏ္ဍာရေးနှစ်၏ ရသုံးခန့်မှန်းခြေငွေစာရင်းတွင် ထည့်သွင်း လျာထား ရမည်ဖြစ်ပါသည်။

(ဂ) အဆိုပါ စီမံကိန်းနှင့်ပတ်သက်၍ MOGE က ထည့်ဝင်ရမည့်ရှယ်ယာများကို သက်ဆိုင်ရာဘဏ္ဍာရေးနှစ်တွင် ထည့်သွင်းလျာထားရမည်ဖြစ်ပြီး အဆိုပါ လျာထား ချက်ကို ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက် ရရှိမှသာ ကျခံသုံးစွဲနိုင်မည် ဖြစ်ပါသည်။

(ဃ) အဆိုပါ စီမံကိန်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်နှင့် ပြည်ထောင်စု အစိုးရအဖွဲ့၏ ခွင့်ပြုချက်ရယူသင့်ပါသည်။

(င) အခွန်ဆိုင်ရာကိစ္စရပ်များနှင့် စပ်လျဉ်း၍ တည်ဆဲဥပဒေ၊ နည်း ဥပဒေ၊ စည်းမျဉ်း နှင့် အမိန့်ကြော်ငြာစာပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ် မည်ဖြစ်ပါသည်။

၂။ လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

မြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဒေါက်တာလင်းအောင်၊ဒုတိယဝန်ကြီး)

မိတ္တူကို-
မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်
ငွေတိုက်ဦးစီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန

နောက်ဆက်တွဲ(ဈ)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

သမ္မတရုံးဝန်ကြီးဌာန(၃)

စာအမှတ်၊ ၁၄ (၉) / ၁၄ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ ၂၈ ရက်

သို့

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ ( ၉ / ၂၀၁၅ )၏မှတ်တမ်းကောက်နုတ်ချက် တင်ပြခြင်းကိစ္စ

၁။ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီအစည်းအဝေး ( ၉ / ၂၀၁၅ ) ကို ၂၈ - ၅ - ၂၀၁၅ ရက်နေ့ ( ကြာသပတေးနေ့ ) တွင် သမ္မတရုံးဝန်ကြီးဌာန( ၃ )၊ ရုံးအမှတ်( ၁၄ ) အစည်းအဝေးခန်းမ၌ ကျင်းပပြုလုပ်ခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေး၌ ဆွေးနွေးခဲ့သည့် အကြောင်းအရာများ၏ ကောက်နုတ်ချက်များကို သိရှိနိုင်ပါရန် ပူးတွဲပါဇယားဖြင့် တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ

ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ

မိတ္တူကို

- နိုင်ငံတော်သမ္မတရုံး
- ပြည်ထောင်စုတရားလွှတ်တော်ချုပ်
- ကာကွယ်ရေးဝန်ကြီးဌာန
- နယ်စပ်ရေးရာဝန်ကြီးဌာန
- လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
- မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
- လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လျှို့ဝှက်

၂

- စွမ်းအင်ဝန်ကြီးဌာန
- စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
- ကျန်းမာရေးဝန်ကြီးဌာန
- သတ္တုတွင်းဝန်ကြီးဌာန
- ဘဏ္ဍာရေးဝန်ကြီးဌာန
- အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
- ဆောက်လုပ်ရေးဝန်ကြီးဌာန
- အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန
- လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာန
- သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာန
- မြန်မာနိုင်ငံတော်ဗဟိုဘဏ်
- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
- Sovereign Ratings Task Force
- တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့
- မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
- ရခိုင်ပြည်နယ်အစိုးရအဖွဲ့
- ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့

| စဉ် | တင်ပြသည့်ဝန်ကြီးဌာန | အကြောင်းအရာ | ဆုံးဖြတ်ချက် |
|---|---|---|---|
| ၁၀။ | လျှပ်စစ်စွမ်းအားဝန်ကြီးဌာန | စစ်ကိုင်းတိုင်း၊ လဟယ်မြို့နယ်၊ ပေွ့ကွန်ကျေးရွာအနီး ဟုန်ညီချောင်းပေါ်တွင် တည်ဆောက်မည့် ဟုန်ညီချောင်းအသေးစား ရေအားလျှပ်စစ်စီမံကိန်းအတွက် ရန်ပုံငွေ ရရှိနိုင်ရေးကိစ္စ တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပါမည်။ |
| ၁၁။ | စွမ်းအင်ဝန်ကြီးဌာန | ၂၀၁၅-၂၀၁၆ ခု၊ ဘဏ္ဍာရေးနှစ်မှစတင်၍ သာမန်အသုံးစရိတ်၊ မူလခန့်မှန်းခြေစာရင်း၊ လုပ်ငန်းသုံးရင်းနှီးငွေအသုံးစရိတ်တွင် လူမှုစီးပွားဖွံ့ဖြိုးရေးအသုံးစရိတ် ခေါင်းစဉ်ဖြင့် ဘတ်ဂျက်လျာထားခွင့်ပြုနိုင်ပါရန် တင်ပြခြင်း။ | ဝန်ကြီးဌာနအစီအစဉ်ဖြင့် ဆောင်ရွက်ရန်။ |
| ၁၂။ | စွမ်းအင်ဝန်ကြီးဌာန | စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေး လုပ်ငန်း၏ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို အကျိုးတူပူးပေါင်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြ ခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပါမည်။ ခွင့်ပြုပါက ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်။ |
| ၁၃။ | စွမ်းအင်ဝန်ကြီးဌာန | မြန်မာနိုင်ငံ စွမ်းအင်ဝန်ကြီးဌာနနှင့် ထိုင်းနိုင်ငံစွမ်းအင်ဝန်ကြီးဌာနတို့ကြား စွမ်းအင်ကဏ္ဍပူးပေါင်းဆောင်ရွက်ရေး နားလည်မှုစာချွန်လွှာရေးထိုး ခွင့်ပြုပါရန် တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပါမည်။ ခွင့်ပြုပါက ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်။ |
| ၁၄။ | စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနပိုင် ပဲခူးတိုင်းဒေသကြီး၊ပဲခူးမြို့ ၊ဥသာမြို့သစ်၊ရပ်ကွက်ကြီး(၆)၊ သမိန်ဗရမ်းလမ်းပေါ်ရှိ မြေ ၀.၆၆ ဧကအား လွှဲပြောင်းပေးပါရန် တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပါမည်။ ခွင့်ပြုပါက ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်။ |

နောက်ဆက်တွဲ(ည)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၅၆ ( ၁ ) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဖွန်လ ၂ ရက်

သို့

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **ဖက်စပ်လုပ်ငန်းသဘောတူ စာချုပ်ချုပ်ဆိုခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ယင်း၏၁၂-၅-၂၀၁၅ ရက်စွဲပါစာအမှတ်၊မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/၀၂ (၅၆/၂၀၁၅)

စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းအနေဖြင့် ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်ရှိ မင်္ဂလာဒုံလေယာဉ်ဆီဌာနခွဲ၏ လေယာဉ်ဆီဖြန့်ဖြူးရေးလုပ်ငန်းအား နိုင်ငံတကာအဆင့်အတန်းနှင့်အညီ တိုးချဲ့လုပ်ကိုင်ရန်နှင့် နောင်တွင် အခြားလေဆိပ် (၁၀) ခုတွင် လုပ်ငန်းများတိုးချဲ့ဆောင်ရွက်ခြင်းများ လုပ်ကိုင်ရန်အတွက် တင်ဒါအောင်မြင်ခဲ့သော Puma Energy Group Pte Ltd. နှင့် ဖက်စပ်လုပ်ငန်းသဘောတူ စာချုပ်ချုပ်ဆိုခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သမ္မတရုံးဝန်ကြီးဌာန(၃)

သမ္မတရုံးဝန်ကြီးဌာန(၅)

လျှို့ဝှက်

\\Spdc\D\2015\Cabinet\9-2015\56-1.Docx

လျှို့ဝှက်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စွမ်းအင်ဝန်ကြီးဌာန
## (ဝန်ကြီးရုံး)

အကြောင်းအရာ။ **မှတ်တမ်းကောက်နုတ်ချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ (၁) ဤရုံး၏ ၄-၆-၂၀၁၅ ရက်စွဲပါစာအမှတ်၊ မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/ ၀၁(၁၁၄/၂၀၁၅)

(၂) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၂၅-၆-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၄၀/ ၂၅၇/ အဖရ(၁၂/၂၀၁၅)

အထက်ရည်ညွှန်း(၁)ပါစာဖြင့်တင်ပြထားသော မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေး လုပ်ငန်း၏ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို အကျိုးတူ ပူးပေါင်းဆောင်ရွက်ရန် တင်ပြခြင်းကိစ္စနှင့်ပတ်သက်၍ ၁၁-၆-၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၂/ ၂၀၁၅)မှ သဘောတူပါကြောင်း ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာပါသဖြင့် လိုအပ်သလို ဆက်လက် ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)

(ဌေးအောင်၊ဒုတိယအမြဲတမ်းအတွင်းဝန်)

မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း

စာအမှတ်၊ မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/ ၀၁(၁၅၉/၂၀၁၅)

ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၁ ရက်

မိတ္တူကို

ဝန်ကြီးရုံး

(မူဝါဒနှင့်ဥပဒေလုပ်ထုံးလုပ်နည်းစိစစ်ရေးနှင့်လုပ်ငန်းစစ်ဆေးရေးဌာနခွဲ)

လျှို့ဝှက်

**ANNEX D**

**DRAFT MEMORANDUM OF ASSOCIATION AND ARTICLES OF ASSOCIATION**

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

**MEMORANDUM OF ASSOCIATION**

**OF**

**NATIONAL ENERGY PUMA AVIATION SERVICES CO., LTD**

I. The name of the Company is **NATIONAL ENERGY PUMA AVIATION SERVICES CO., LTD**

II. The registered office of the Company will be situated [insert address].

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorized capital of the Company is USD51,020,408 (fifty one million twenty thousand four hundred and eight United States Dollars only) divided into 51,021 shares of USD1,000 (one thousand United States Dollars only) each, with power in general meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

VI. The initial paid up capital of the Company USD30,612,000 (thirty million six hundred and twelve thousand United States Dollars only) for the issue of 30,612 shares on a fully paid up basis.

(1) To carry on the following services either solely on its own or in joint venture, with any foreign or local partners:

- (a) All kinds of agency business, technical consultants, business consultants, management consultants and advisory services.
- (b) Advertising and its agency business.
- (c) Business of entertainments and related activities.
- (d) Business of transportation (except railways and airways)
- (e) Business of printing and publishing.
- (f) Business of surveying and inspection.
- (g) Business of feasibility study on new projects, projects formulation, project appraisal and project evaluation.
- (h) Business of servicing, maintenance of repairing of all kinds of vehicles and machines.
- (i) Business of installation, maintenance and renovation of electrical and electronic goods.
- (j) Business of importation, storage, distribution, transportation, into-plane fuelling, management and marketing of jet fuel and petroleum related products and the importation, refurbishment, and construction of related assets in respect of airports in Myanmar

(2) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

*PROVISO: Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | Myanmar Petroleum Products Enterprise<br>Address: Complex No. 6, Nay Pyi Taw, Myanmar<br>Represented By:<br>Residential Address: | | 15612 | |
| 2. | Puma Energy Group Pte Ltd<br>Address: 1 Marina Boulevard #28-00, One Marina Boulevard, Singapore 018989<br>Represented By:<br>Residential Address: | | 15,000 | |

Township, Dated the day of,

*It is hereby certified that the persons mentioned above put their signatures in my presence.*

**THE MYANMAR COMPANIES ACT**

**PRIVATE COMPANY LIMITED BY SHARES**

**ARTICLES OF ASSOCIATION**

**OF**

**NATIONAL ENERGY PUMA AVIATION SERVICES CO., LTD. LIMITED**

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

**PRIVATE COMPANY**

2. The Company is to be a Private Company and accordingly the following provisions shall have effect:

   *(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   *(b) Any invitation to the public to subscribe for any share or debenture or debenture, stock of the Company is hereby prohibited.*

**CAPITAL AND SHARES**

3. The authorized capital of the Company is USD51,020,408 (fifty one million twenty thousand four hundred and eight United States Dollars only) divided into 51,021 shares of USD1,000 (one thousand United States Dollars only) each, with power in general meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.
4. The initial paid up capital of the Company is USD30,612,000 (thirty million six hundred and twelve thousand United States Dollars only) for the issue of 30,612 shares on a fully paid up basis.
5. Subject to the provisions of the Myanmar Companies Act and these Articles of Association, the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine and with the approval of the members as required.
6. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognized by the Directors.

7. The Directors may, from time to time, make calls upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons and at the times and places appointed by the Directors. A call may be made payable by installments or may be revoked or postponed as the Directors may determine.

**DIRECTORS**

8. Unless otherwise determined by a general meeting, the number of Directors shall not be less than two (2) and not more than five (5).

The first Directors of the Company shall be:

(1) [MPPE nominee]

(2) [MPPE nominee]

(3) [MPPE nominee]

[each a "**Myanmar Director**" and together the "**Myanmar Directors**"]

(5) [Foreign investor nominee]

(6) [Foreign investor nominee]

[each an "**Investor Director**" and together the "**Investor Directors**"]

9. The Directors may from time to time appoint one of the Investor Directors to the office of the Managing Director for such terms and at such remuneration as are in accordance with the policies of the Company and he shall have all the powers delegated to him by the Board of Directors from time to time.

10. A Director need not be a member of the Company and shall not be required to hold any share qualification unless and until otherwise determined by the Company in general meeting but shall be entitled to attend and speak at the general meeting.

11. Every Director shall comply with the provisions of Section (85) of the Myanmar Companies Act.

12. The Board of Directors may refuse to register any proposed transfer of shares provided a reason is given for such refusal.

13. Each Director shall hold office for a period of one (1) year, or until his death, resignation, retirement, removal or disqualification. At each annual meeting of the Board of Directors, one-third (or the number nearest to one-third) of the Directors shall retire from office. A retiring Director shall be eligible for re-election or re-nomination to the Board of Directors by the member of the Company who nominated such director. The Directors to retire every year shall be those who have been longest in office since their last elections; provided, as between persons who became directors on the same day, those to retire shall (unless they otherwise agree among themselves) be determined by lot. When for any reason a Director nominated by a member of the Company ceases to be a Director, that member shall be entitled to nominate another Director who shall be appointed as a director forthwith.

14. Each Director shall be entitled to appoint alternate directors (each, an "**Alternate**") in accordance with applicable law. An Alternate so appointed shall be entitled to receive notice of all meetings of the Board of Directors and attend and vote at any meeting at which the Director appointing him is not personally present, and generally in the

absence of his appointor to do all the things which his appointor is authorized or empowered to do. An Alternate who is separately a director shall be entitled, in the absence of his appointor:

a. to a separate vote on behalf of his appointor in addition to his own vote; and
b. to be counted as part of the quorum of the Board of Directors on his own account and in respect of the director for whom he is the Alternate.

If such Alternate represents more than one Director, then such Alternate shall be entitled to one (1) vote for every Director he represents.

15. Each Director, including the Chairman, shall be entitled to one (1) vote on each matter submitted to a vote at a meeting of the Board of Directors (though Directors will be entitled to an additional vote, where they have been also been appointed an Alternate).

## PROCEEDINGS OF DIRECTORS

16. Subject to the provisions of these Articles of Association, the Directors may meet together for the dispatch of business, adjourn and otherwise regulate their meetings as they think fit unless otherwise determined by the members. Unless otherwise determined, two (2) Directors shall form a quorum for any meeting of the Directors, provided that at least one Investor Director and one Myanmar Director is present or represented at such meeting. Should there be no quorum at a duly called meeting of the Directors, any two (2) Directors shall constitute a quorum at a duly called adjourned meeting. If any question arises at any meeting, the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall not have a second or casting vote.

17. Any two Directors may at any time summon a meeting of Directors.

18. If any Director has an Interest in a matter to be considered or voted upon by the Board of Directors then such Director must, before such matter is considered or voted on, declare that Interest to the Board. For the purposes of this Article 17 an "Interest" shall be defined as any direct or indirect financial or commercial interest of the member which appointed the Director or its Affiliates arising from any existing or proposed arrangement, contract, litigation or other proceedings between the Company or any of its subsidiary entities on the one hand and that member and any of its Affiliates on the other, where such arrangement, contract, litigation or other proceedings can be reasonably considered to be material in the context of the business of the Company and its subsidiary entities taken as a whole of the member of the Company that nominated him/her to have him/her appointed by the general meeting. An "**Affiliate**" shall be defined as any person that is controlled by, controls or is under common control with such person but which, for the avoidance of doubt, shall not include the Company. As used herein, "**control**" shall mean the power to control the composition of the Board of Directors (or similar governing body) of another person, or to exercise control over more than half of the voting rights of the second mentioned person. Further, and with respect to any natural person, the term "Affiliate(s)" shall include such individual's spouse, children and estate planning vehicles.

19. Subject to the mandatory requirements of the laws of Myanmar a resolution in writing or a circular board resolution signed by all the Directors shall be as effective for all purposes as a resolution passed out at a meeting of the Directors, duly called, held and constituted. The expressions "in writing" and "signed" include approval by telefax,

digital or electronic signature or such other mode of approval or indication of approval as may be permitted by the laws of Myanmar.

20. The Chairmanship of the Board of Directors shall be decided by the member of the Company holding the greatest number of Shares from time to time from among the Directors (with the person so appointed being the "**Chairman**"). In the event of an equality of votes for and against a resolution tabled at a meeting of the Board of Directors the Chairman shall not have a casting vote.

21. Any Director may attend any meeting of the Board of Directors either in person, by telephone, or by videoconference or any other form of audio or visual instantaneous communication by which all persons participating in such meeting are able to hear and be heard by all participants without a Director being in the physical presence of the other Directors, in which event such Director shall be deemed to be present at the meeting and shall constitute part of the quorum necessary for such meeting.

**RESERVED MATTERS**

22. No action or decision relating to any of the matters specified below (the "**Board Reserved Matters**") shall be taken, whether by the Company, the Board of Directors, the members of the Company or any of the officers or managers of the Company, other than with the unanimous approval of the Board of Directors:

    a. Any change to the Company's name, subject to written approval by the President of the Union of Myanmar.
    b. Any amendment to these Memorandum of Association and/or the Articles of Association of the Company.
    c. Any material change in the Company's business objectives, including any change in the nature or scope of the business; amalgamation or reconstruction of the Company; or any merger of the Company with any corporation, firm, or other body.
    d. The issue of any new shares (other than any shares issued upon payment of the second capital installment made to the Company) and any material reduction, material consolidation, material subdivision or material reclassification of the Company's share capital.
    e. Any removal of Directors prior to the expiration of their term of office other than in accordance with these Articles.
    f. Any significant change in the level of remuneration paid to any of the Directors or to the terms and conditions of employment of any of the Directors.
    g. The dissolution, liquidation, or winding-up of the Company either voluntarily or by a court.
    h. Any capital expenditure (or related expenditures) in an amount in aggregate exceeding US$5,000,000 (five million United States Dollars) that is not specified in the relevant business plan or budget.
    i. the entry into any contract, liability or commitment which is incapable of being terminated within 12 months; or which could involve expenditure or the incurring of any other obligation which in any case exceeds US$10,000,000 in aggregate in any one financial year, with the exception of the following agreements:

        A. the fuel supply agreement

B. the brand licensing agreement;
C. the technical services agreement; and
D. the lease agreements between the Company and (i) the Myanma Petrochemical Enterprise, (ii) the Department of Civil Aviation, (iii) the Myanma Petroleum Products Enterprise and (iv) the Myanmar Air Force.

j. Any actual or proposed sale or other disposition of any assets or rights in excess of an aggregate of US$10,000,000 in any year and, unless specifically provided for in the initial business plan or the initial budget or subsequent approved business plans or budgets, the disposal of current assets used in the ordinary course of business having a value greater than or equal to 5 per cent of the total consolidated assets of the Company determined in accordance with IAS.
k. Any material transaction with any person otherwise than at arms-length and for full value or any material transaction with a member, other than the fuel supply agreement mentioned at Article 21.k.A. above.
l. Acquisitions/ entering into joint ventures, partnerships and other profit sharing agreement not contemplated in the initial business plan or subsequent approved business plans.
m. Approval of the annual business plan and budget.
n. Any amendments to the initial business plan or subsequent approved business plans.
o. Any increase in long-term borrowings/indebtedness or the creation of one or more encumbrances with a value exceeding $10 million, in aggregate, not contemplated in the initial business plan or subsequent approved business plans.
p. Approval of the statutory accounts.
q. Appointment or removal of the Company Auditor.
r. The initiation, conduct, settlement or abandoning of any claim, litigation, arbitration or other proceedings involving the Company or any subsidiary with a value in excess of exceeds US$5,000,000 or any admission of liability except in any case in relation to debt collection in the ordinary course of business not exceeding the sum of US$10,000,000 for any single claim or a total aggregate amount of US$5,000,000 in respect of all such claims in any financial year.
s. The proposal for any payment of any dividend or distribution (including income and capital).

**POWERS AND DUTIES OF THE BOARD OF DIRECTORS**

23. Without prejudice to the general power conferred by Regulation 71 of the Table" A" of the Myanmar Companies Act, and subject to the unanimous Director approvals required in accordance with the Reserved Matters at Article 21, it is hereby expressly declared that the Board of Directors shall have the following powers, which may be delegated to a committee or officer of the Company by unanimous approval of the Directors, that is to say power:

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and

generally on such terms and conditions, as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debentures stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) To pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares as may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfillment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances and in such amounts as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint an Investor Director as Managing Director and Director of Finance and any Director as Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute conduct, defend or abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof upon securities or without securities and in such manner as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favor of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal by-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matters aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization, whether local or foreign, in the manner that the Board of Directors shall think fit, provided that the Board of Directors shall not borrow money from any person, firm or company or bank or financial organization, whether local or foreign or do any of the above things referred to in this Article 21 without the unanimous approval of all Directors, if required in accordance with Article 21.

## GENERAL MEETINGS

24. A general meeting shall be held within eighteen (18) months from the date of the Company's incorporation and thereafter at least once in every calendar year at such time (not being more than fifteen (15) months after the holding of the last preceding general meeting) and place as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided. Unless otherwise determined, members holding not less than seventy five percent (75%) of the issued and paid up share capital present or represented shall form a quorum. If no quorum is present at a duly called meeting of the members, the presence in person or by proxy of members holding not less than forty nine percent (49%) of the issued and paid up share capital shall form a quorum at a duly called adjourned meeting. Unless a higher by law level of approval is specifically required, the vote of members holding at least

fifty two percent (52%) of the total issued and paid up shares voting in person or by proxy at a duly called quorate meeting of members shall be required in respect of any matter put to the vote at any such meeting.

25. Extraordinary general meetings of the member may only be called either by the Chairman or by members owning (either alone or together with their Affiliates) at least ten percent (10%) of the issued share capital of the Company upon which all calls or other sums then due have been paid.

26. Subject to the mandatory requirements of the Laws of Myanmar and the reserved matters in Article 21, a resolution in writing or a circular members' resolution signed by a member or members of the Company with a collective shareholding percentage of not less than seventy five percent (75%) shall be valid and effectual as if it had been a resolution passed at a meeting duly convened and held in person. The expressions "in writing" and "signed" include approval by telefax, digital or electronic signature or such other mode of approval or indication of approval as may be permitted by the Laws of Myanmar by any such Party.

**DIVIDENDS**

27. The Company in general meeting may declare a dividend to be paid to the members in accordance with the dividend policy of the Company, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

**OFFICE STAFF**

28. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staff. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

**GENERAL MANAGER**

29. The Investor Directors may from time to time appoint a person to the office of General Manager for such terms and at such remuneration as are in accordance with the policies of the Company and he shall have all the powers authorized and delegated to him by the Managing Director from time to time. The Myanmar Directors shall not have any rights whatsoever to appoint a person to the office of General Manager.

**ACCOUNTS**

30. The Directors shall cause to be kept proper books of account with respect to:

*(1) All sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place.*

(2) *All sales and purchases of goods by the Company.*

(3) *All assets and liabilities of the Company.*

31. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

**AUDIT**

32. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof or the time being in force.

**NOTICE**

33. A notice may be given by the Company to any member either personally or by sending it by post in a prepaid letter addressed to his registered address.

**THE SEAL**

34. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of two (2) Directors at least, including at least one Myanmar Director and one Investor Director who shall sign every instrument to which the Seal is affixed.

**INDEMNITY**

35. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

**WINDING - UP**

36. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of general meeting.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of these Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | Myanmar Petroleum Products Enterprise<br>Address: Complex No. 6, Nay Pyi Taw, Myanmar<br>Represented By:<br>Residential Address: | | 15612 | |
| 2. | Puma Energy Pte Ltd<br>Address: 1 Marina Boulevard #28-00, One Marina Boulevard, Singapore 018989<br>Represented By:<br>Residential Address: | | 15,000 | |

Township, Dated the day of,

*It is hereby certified that the persons mentioned above put their signatures in my presence.*

နောက်ဆက်တွဲ (ဃ)

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# NATIONAL ENERGY PUMA AVIATION SERVICES CO., LTD ကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖

**THE MYANMAR COMPANINES ACT**

**PRIVATE COMPANY LIMITED BY SHARES**

# Memoradum Of Association

*AND*

# Aritcles Of Association

OF

**NATIONAL ENERGY PUMA AVIATION SERVICES COMPANY LIMITED**

## မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ

## အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# NATIONAL ENERGY PUMA AVIATION SERVICES
# ကုမ္ပဏီလီမိတက်

## ၏

# သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖

၁။ ကုမ္ပဏီ၏အမည်သည် **NATIONAL ENERGY PUMA AVIATION SERVICES** ကုမ္ပဏီလီမိတက် ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏မှတ်ပုံတင်အလုပ်တိုက်သည် (        ) အတွင်းတည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် အမေရိကန်ဒေါ်လာ ၅၁၀၂၀၄၀၈ /- (အမေရကန်ဒေါ်လာ သိန်းငါးရာ့တစ်ဆယ် နှစ်သောင်း လေးရာ့ရှစ် ဒေါ်လာ တိတိ)ဖြစ်၍ အမေရိကန်ဒေါ်လာ ၁၀၀၀/- (အမေရိကန်ဒေါ်လာ တစ်ထောင် ဒေါ်လာတိတိ) တန် အစုရှယ်ယာပေါင်း (၅၁၀၂၁) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေ အထွေထွေ၏ပြဋ္ဌာန်းချက်များနှင့်အညီ သင်းလုံးက တ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင် ခွင့်အာဏာရှိစေရမည်။

၆။ ကုမ္ပဏီ၏ကနဦးထည့်ဝင်မည့်မတည်ငွေရင်းဖြစ်သည့် အမေရိကန်ဒေါ်လာ ၃၀၆၁၂၀၀၀ (အမေရိကန်ဒေါ်လာ သုံးရာ့ခြောက်သိန်း တစ်သောင်း နှစ်ထောင် ဒေါ်လာတိတိ) ကို အစုရှယ်ယာပေါင်း (၃၀၆၁၂) အတွက် အပြည့်အဝ ထည့်ဝင်မည် ဖြစ်ပါသည်။

(၁) အောက်ဖော်ပြပါ ဝန်ဆောင်မှုလုပ်ငန်းများကို ကုမ္ပဏီက ၎င်းတစ်ဦးတည်းကိုယ်တိုင်ဖြစ်စေ၊ နိုင်ငံခြား သို့မဟုတ် ပြည်တွင်းအခြားလုပ်ငန်းပူးပေါင်းဆောင်ရွက်သူများနှင့် ပူးပေါင်းလျက် ဖက်စပ်လုပငန်းအနေဖြင့် ဖြစ်စေ ဆောင်ရွက် မည်ဖြစ်ပါသည်။

(က) ကိုယ်စားလှယ်လုပ်ငန်းများအားလုံး၊ နည်းပညာဆိုင်ရာ အတိုင်ပင်ခံလုပ်ငန်း၊ စီးပွားရေးဆိုင်ရာ အတိုင်ပင်ခံလုပ်ငန်း၊ စီမံခန့်ခွဲမှုဆိုင်ရာအတိုင်ပင်ခံလုပ်ငန်း နှင့် အကြံပေးဝန်ဆောင်မှုလုပ်ငန်းများ
(ခ) ကြော်ငြာလုပ်ငနေ နှင့် ၎င်း၏ကိုယ်စားလှယ်လုပ်ငန်း
(ဂ) ဖျော်ဖြေရေးလုပ်ငန်း နှင့် ဆက်စပ်လုပ်ငန်းများ
(ဃ) ပို့ဆောင်ဆက်သွယ်ရေးလုပ်ငန်း (မီးရထားလမ်းများ နှင့် လေကြောင်းလမ်းများမှ အပ)
(င) ပုံနှိပ်ခြင်း နှင့် ထုတ်ဝေခြင်းလုပ်ငန်း
(စ) စိစစ်ခြင်း နှင့် စစ်ဆေးခြင်းလုပ်ငန်း
(ဆ) စီမံကိန်းအသစ်များ ဖြစ်မြောက်နိုင်စွမ်းရှိ၊ မရှိကို လေ့လာဆန်းစစ်ခြင်း၊ စီမံကိန်းများရေးဆွဲခြင်း၊ စီမံကိန်း စိစစ်ခြင်း နှင့် စီမံကိန်း ဆန်းစစ်ခြင်း လုပ်ငန်း၊
(ဇ) ယာဉ်အမျိုးအစားများအားလုံး နှင့် စက်များ ပြုပြင်ခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း၊
(ဈ) လျှပ်စစ် နှင့် အီလက်ထရောနစ်ပစ္စည်းများတပ်ဆင်ခြင်း၊ ထိန်းသိမ်းပြုပြင်ခြင်း နှင့် ပြန်လည်မွမ်းမံခြင်း လုပ်ငန်း၊
(ည) လေယာဉ်ဆီ နှင့်ရေနံထွက်ဆက်စပ်ပစ္စည်းများ တင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ လေယာဉ်ဆီဖြည့်တင်းခြင်း၊ စီမံခန့်ခွဲခြင်း နှင့် ဈေးကွက်တင်သွင်းရောင်းချခြင်းလုပ်ငန်း နှင့် မြန်မာနိုင်ငံရှိ လေဆိပ်များနှင့်စပ်လျဉ်းသည့် ဆက်စပ်အခြေပစ္စည်းများ တင်သွင်းခြင်း၊ ပြန်လည်မွမ်းမံပြင်ဆင်ခြင်း နှင့် ဆောက်လုပ်ခြင်း လုပ်ငန်း

- ကုမ္ပဏီက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

ခြွင်းချက် - ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင်း၌ ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ အချိန်ကာလအလိုက်တည်မြဲနေသော တရားဥပဒေများ၊ အမိန့်များနှင့် အမိန့်ကြော်ငြာစာများက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့်တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့်လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင်လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့်အကြောင်းအရာစုံလင်စွာပါသောဇယားတွင လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက် ကနုပ်တို့၏ အမည်အသီးသီး နှင့်ယှဉ်တွဲ၍ပြထားသောအစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြပါရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်<br>နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | Myanmar Petroleum Products Enterprise<br><br>Address: Complex No.6, Nay Pyi Taw, Myanmar<br><br>Presented by:<br>Residential Address: | | 15,612 | |
| 2. | Puma Energy Group Pte Ltd<br>Address: 1 Marina Boulevard # 28 -00, One Marina Boulevard, Singapore 018989<br><br>Presented by:<br>Residential Address: | | 15,000 | |

ရန်ကုန်။ နေ့စွဲ၊ ၂၀ ခုနှစ်၊ လ၊ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် အကျွန်ုပ်တို့၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

**မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ**

**အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုသည့်ကုမ္ပဏီ**

# NATIONAL ENERGY PUMA AVIATION SERVICES
# ကုမ္ပဏီလီမိတက်

**၏**

# သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ ပုဒ်မ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက် စေရမည်။

(က) ဤကုမ္ပဏကခန့်အပ်ထားသောဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့် ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုရန် တားမြစ်ထားသည်။

## မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏သတ်မှတ်မ,တည်ရင်းနှီးငွေရင်းသည် အမေရိကန်ဒေါ်လာ ၅၁၀၂၀၄၀၈ /- (အမေရိကန်ဒေါ်လာ သိန်းငါးရာ့ တစ်ဆယ် နှစ်သောင်း လေးရာ့ရှစ် ဒေါ်လာ တိတိ)ဖြစ်၍ အမေရိကန်ဒေါ်လာ ၁၀၀၀/- (အမေရိကန်ဒေါ်လာ တစ်ထောင်ဒေါ်လာတိတိ) တန် အစုရှယ်ယာပေါင်း (၅၁၀၂၁) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့်လက်ရှိတရားဝင်တည်ဆဲဖြစ်နေသောတရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ ကုမ္ပဏီ၏ကနဦးထည့်ဝင်မည့်မတည်ငွေရင်းဖြစ်သည့် အမေရိကန်ဒေါ်လာ ၃၀၆၁၂၀၀၀ (အမေရိကန်ဒေါ်လာ သုံးရာ ခြောက်သိန်း တစ်သောင်း နှစ်ထောင် ဒေါ်လာတိတိ) ကို အစုရှယ်ယာပေါင်း (၃၀၆၁၂) အတွက် အပြည့်အဝ ထည့်ဝင်မည် ဖြစ်ပါသည်။

၅။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါ ပြဋ္ဌာန်းချက်များ နှင့် ဤသင်းဖွဲ့စည်းမျဉ်းများကို မထိခိုက်စေလျက် အစု ရှယ်ယာ များသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွက်ကဲမှု အောက်တွင်ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေတစ်စုံတစ်ရာ နှင့် အစုရှင်များ၏သဘောတူညီချက်ဖြင့် လိုအပ်သလို အစု ရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၆။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည်ပုံပန်းပျက်ခြင်း၊ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော အခြားသက်သေခံအထောက်အထား တစ်စုံတစ်ရာကိုတင်ပြစေ၍သော်လည်းကောင်း ထုတ် ပေးနိုင်သည်။ ကွယ်လွန်သွားသောအစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုကတာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၇။ ဒါရိုက်တာများသည်အစုရှင်များကငင်းတို့၏အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများကသတ်မှတ် သည့်အချိန်နှင့်နေရာတွင်ပေးသွင်းစေရန်တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၈။ သင်းလုံးကျွတ်အစည်းအဝေးက တစ်စုံတစ်ရာသတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် (၂)ဦးထက်မနည်း (၅)ထက်မများစေရ။
ကုမ္ပဏီ၏ပထမဒါရိုက်တာများသည်

(၁)
(၂)
(၃)

(တစ်ဦးချင်းအခေါ်အဝေါ်အဖြစ် မြန်မာဒါရိုက်တာ ဟုလည်းကောင်း စုစုပေါင်းအခေါ်အဝေါ်အဖြစ် မြန်မာဒါရိုက်တာများ ဟုလည်းကောင်းခေါ်ဆိုမည်)

(၄)
(၅)

(တစ်ဦးချင်းအခေါ်အဝေါ်အဖြစ်ရင်းနှီးမြှုပ်နှံသူဒါရိုက်တာဟုလည်းကောင်း စုစုပေါင်းအခေါ်အဝေါ်အဖြစ် ရင်းနှီးမြှုပ်နှံသူ ဒါရိုက်တာများ ဟုလည်းကောင်းခေါ်ဆိုမည်)
တို့ဖြစ်ကြပါသည်။

၉။ ဒါရိုက်တာများသည် ရင်းနှီးမြှုပ်နှံသူဒါရိုက်တာများ အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုကတာအဖြစ် အချိန်အခါအလိုက် ကုမ္ပဏီ၏မူဝါဒများနှင့်အညီ အဆိုပါ သတ်မှတ်ချက်များ၊ ဥဏ်ပူဇော်ခများဖြင့်ခန့်ထားရမည်ဖြစ်ပြီး အခါ အားလျော်စွာ ဒါရိုက်တာအဖွဲ့ကပေးအပ်သော အာဏာများအားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၁၀။ အထွေထွေသင်းလုံးကျွတ်အစည်းအဝေးတွင်ကုမ္ပဏီကအခြားနည်းပြဋ္ဌာန်းထားခြင်းမရှိပါက ဒါရိုက်တာတစ်ဦးဖြစ်မြောက် ရန် အတွက ကုမ္ပဏီ၏အစုရှင်တစ်ဦးဖြစ်ရန်လိုအပ်ခြင်း မရှိသည့်အပြင် ၎င်းသည်မည်သည့်အစုရှယ်ယာများ ကိုမျှ

ပိုင်ဆိုင်ထားရန် မလိုအပ်ပါ။ သို့သော်လည်း ၎င်းသည် အထွေထွေသင်းလုံးကျွတ်အစည်းအဝေးကို တက်ရောက်ခွင့် နှင့် အဆိုပါအစည်းအဝေးတွင် ပြောဆိုဆွေးနွေးခွင့်ရှိစေရမည်။

၁၁။ ဒါရိုက်တာတိုင်းသည် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ(၈၅)ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၂။ အစုရှယ်ယာများလွှဲပြောင်းရန်တင်ပြချက်အတွက်အကြောင်းပြချက်ပေးလျက်ဒါရိုက်တာအဖွဲ့သည် အဆိုပါအစုရှယ်ယာများ လွှဲပြောင်းမှုကို မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

၁၃။ ဒါရိုက်တာတစ်ဦးစီ၏ရာထူးသက်တမ်းသည် တစ် (၁) နှစ် သို့မဟုတ် ၎င်းမကွယ်လွန်မီ၊ နုတ်ထွက်ခြင်းမပြုမီ၊ အငြိမ်းစားမယူမီ၊ ရာထူးမှ ဖယ်ရှားခြင်းမခံရမီ သို့မဟုတ် အရည်အချင်းပြည့်မီခြင်းမရှိတော့မီ အချိန်အထိ ဖြစ်သည်။ ဒါရိုက်တာအဖွဲ့၏နှစ်ပတ်လည်အစည်းအဝေးတစ်ခုစီတွင် ဒါရိုက်တာများ၏သုံးပုံတစ်ပုံ (သို့မဟုတ် သုံးပုံတစ်ပုံ နှင့် အနီးစပ်ဆုံးအရေအတွက်) သည် ရာထူးမှ အနားယူရမည်။ ရာထူးမှအငြိမ်းစားယူသော ဒါရိုက်တာသည် အဆိုပါ ဒါရိုက်တာကို အမည်စာရင်းတင်သွင်းခဲ့သည့် ကုမ္ပဏီ၏အစုရှင်က ရွေးချယ်တင်မြှောက်သည့် ဒါရိုက်တာအဖွဲ့ဝင်အဖြစ် ပြန်လည်ရွေးချယ်ခံပိုင်ခွင့်ရှိစေရမည်။ နှစ်စဉ်ရာထူးမှအငြိမ်းစားယူရမည့် ဒါရိုက်တာများ၏ ရာထူး သက်တမ်းသည် ၎င်းတို့အား နောက်ဆုံး ရွေးကောက်တင်မြှောက်ခဲ့ချိန်မှစ**၍** ရာထူးသက်တမ်းအရှည်ဆုံးဖြစ်ရမည်။ သို့ရာတွင် တစ်နေ့တည်းတွင် ဒါရိုက်တာအဖြစ်ရွေးချယ် တင်မြှောက်ခံရသည့်ပုဂ္ဂိုလ်များထဲမှ ရာထူးမှအငြိမ်းစားယူရမည့် ပုဂ္ဂိုလ်များကို (၎င်းတို့အချင်းချင်းအခြားနည်းသဘောတူထားခြင်းမရှိပါက) မဲဖြင့် ရွေးချယ်သတ်မှတ်ရမည်။ ကုမ္ပဏီ၏ အစုရှင်တစ်ဦးက ရွေးချယ်တင်မြှောက်ထားသည့် ဒါရိုက်တာတစ်ဦးသည် အကြောင်းတစ်စုံတစ်ရာကြောင့် ဒါရိုက်တာအဖြစ်မှ ရပ်စဲသောအခါ အဆိုပါအစုရှင်သည် အခြားဒါရိုက်တာတစ်ဦးကို ဒါရိုက်တာတစ်ဦးအဖြစ် မဆိုင်းမတွ ရွေးချယ်တင်မြှောက်ပိုင်ခွင့်ရှိစေရမည်။

၁၄။ ဒါရိုက်တာတစ်ဦးစီသည် သက်ဆိုင်ရာဥပဒေနှင့်အညီ အလှည့်ကျဒါရိုက်တာများ (အလှည့်ကျဒါရိုက်တာများ ဟု ခေါ်ဆိုမည်) ကို ခန့်အပ်ပိုင်ခွင့်ရှိစေရမည်။ ထိုသို့ခန့်အပ်ထားသောအလှည့်ကျဒါရိုက်တာတစ်ဦးသည် ၎င်းအား ခန့်အပ်ထားသောဒါရိုက်တာ လူကိုယ်တိုင်မတက်ရောက်နိုင်သော ဒါရိုက်တာအဖွဲ့၏အစည်းအဝေးများအားလုံးနှင့် စပ်လျဉ်း**၍** ယေဘုယျအားဖြင့် ၎င်းအားခန့်အပ်ထားသော ဒါရိုက်တာမတက်ရောက်နိုင်သောကြောင့် ၎င်းအားလုပ်ပိုင်ခွင့်အာဏာ လွှဲပြောင်းပေးအပ်ထားသောကိစ္စရပ်များအားလုံးကိုဆောင်ရွက်ရန် ဒါရိုက်တာအဖွဲ့၏အစည်းအဝေးများအားလုံးအတွက် အကြောင်းကြားစာကို လက်ခံပိုင်ခွင့် နှင့် အစည်းအဝေးတစ်ခုခုသို့ တက်ရောက်ခွင့်၊ အဆိုပါအစည်းအဝေးတိုင်းတွင် မဲပေးပိုင်ခွင့်ရှိစေရမည်။ အလှည့်ကျဒါရိုက်တာတစ်ဦးသည် ၎င်းကိုယ်တိုင်သီးခြားဒါရိုက်တာတစ်ဦးဖြစ်ပါက ၎င်းအား အလှည့်ကျဒါရိုက်တာအဖြစ်ခန့်အပ်ထားသည့် ဒါရိုက်တာမတက်ရောက်နိုင်သောအခါ

(က) ၎င်း၏မဲအပြင် ၎င်းအား ခန့်အပ်ထားသည့် ဒါရိုက်တာ၏ကိုယ်စား သီးခြားမဲတစ်မဲ ပေးပိုင်ခွင့်ရှိစေရမည် ဖြစ်ပြီး

(ခ) ဒါရိုက်တာအဖွဲ့၏အစည်းအဝေးထမြောက်ရန် ဦးရေရေတွက်ရာတွင် မိမိကိုယ်တိုင် နှင့် ၎င်းအား ခန့်အပ်ထားသည့် ဒါရိုက်တာ၏ကိုယ်စား ရေတွက်ခံပိုင်ခွင့်ရှိစေရမည်။

အဆိုပါအလှည့်ကျဒါရိုက်တာသည် ဒါရိုက်တာတစ်ဦးထက်ပို**၍** ကိုယ်စားပြုပါက အဆိုပါ အလှည့်ကျဒါရိုက်တာသည် ၎င်းကိုယ်စားပြုသောဒါရိုက်တာတိုင်းအတွက် မဲတစ် (၁) မဲ စီပေးပိုင်ခွင့်ရှိစေရမည်။

၁၅။ သဘာပတိအပါအဝင် ဒါရိုက်တာတစ်ဦးချင်းစီသည် မဲခွဲဆုံးဖြတ်ရန်အတွက် ဒါရိုက်တာအဖွဲ့အစည်းအဝေးသို့ တင်သွင်းသော ကိစ္စရပ်တစ်ခုစီတိုင်းအတွက် မဲတစ် (၁) မဲပေးပိုင်ခွင့်ရှိစေရမည်။ (သို့ရာတွင် အလှည့်ကျ ဒါရိုက်တာအဖြစ် ခန့်အပ်ခံထားရသော ဒါရိုက်တာများသည် မဲတစ်မဲ ထပ်မံပေးပိုင်ခွင့်ရှိမည် ဖြစ်ပါသည်။)

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၆။ ဤသင်းဖွဲ့စည်းမျဉ်းများပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် ဒါရိုက်တာများသည် အစုရှင်များက အခြားနည်း သတ်မှတ်ထားခြင်းမရှိပါက ၎င်းတို့သင့်လျော်သည်ဟု ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေး

ခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း တို့ကိုဆောင်ရွက်နိုင်သည်။ အခြားနည်းသတ်မှတ်ထားခြင်း မရှိပါက ဒါရိုက်တာနှစ် (၂) ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ သို့ရာတွင် အဆိုပါအစည်းအဝေးသို့ အနည်းဆုံးရင်းနှီးမြှုပ်နှံသူဒါရိုက်တာ တစ်ဦး နှင့် မြန်မာဒါရိုက်တာတစ်ဦးတက်ရောက်ရမည် သို့မဟုတ် အဆိုပါ ဒါရိုက်တာများအား ကိုယ်စားပြုသူများ တက်ရောက်ရမည်။ နည်းလမ်းတကျခေါ်သော ဒါရက်တာများအစည်းအဝေးတွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်ဦးရေတက်ရောက်ခြင်းမရှိပါက နည်းလမ်းတကျခေါ်သော ရွှေ့ဆိုင်းထားသည့် အစည်းအဝေးတွင် မည်သည့် ဒါရိုက်တာနှစ် (၂) ဦးမဆိုတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည်အတည်ဖြစ်ရမည်။ မည်သည့်ကိစများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးခွင့်မရှိပါ။

၁၇။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာနှစ်ဦးကမဆို အချိန်မရွေးခေါ်နိုင်သည်။

၁၈။ ဒါရက်တာအဖွဲ့မှဆုံးဖြတ်မည့် သို့မဟုတ် မဲခွဲဆုံးဖြတ်မည့်ကိစ္စတစ်ရပ်သည် ဒါရိုက်တာတစ်ဦးဦး၏အကျိုးခံစားခွင့် နှင့် သက်ဆိုင်နေပါက အဆိုပါကိစ္စ**အား မဆုံးဖြတ်မီ သို့မဟုတ် မဲခွဲဆုံးဖြတ်ခြင်းမပြုမီ အဆိုပါအကျိုးခံစားခွင့်ကို ဒါရိုက်တာအဖွဲ့အား ကြေညာရမည်။** ဤစည်းကမ်းချက်အပိုဒ် ၁၈ ပါရည်ရွယ်ချက်များအတွက် အကျိုးခံစားခွင့်ဆိုသည်မှာ အစီအစဉ်၊ စာချုပ်၊ တရားရင်ဆိုင်ရခြင်း သို့မဟုတ် အခြားသောတရားစွဲဆိုခြင်းသည် သင်းလုံးကျွတ်အစည်းအဝေးတွင် အဆိုပါဒါရိုက်တာကိုခန့်အပ်ရန်အတွက် အဆိုပါဒါရိုက်တာကို ရွေးချယ်ခန့်အပ်သော ကုမ္ပဏီ၏ အစုရှင် တစ်ရပ်လုံးဟ ယူဆနိုင်သည့် ကုမ္ပဏီ နှင့် ၄င်း၏လက်အောက်ခံ ကုမ္ပဏီများ၏ စီးပွားရေးလုပ်ငန်းဆိုင်ရာ စကားအဆက်အစပ်အရ အရေးကြီးသည်ဟု ယူဆနိုင်ပါက ကုမ္ပဏီ သို့မဟုတ် ၄င်း၏လက်အောက်ခံ ကုမ္ပဏီများက တစ်ဖက် နှင့် ကုမ္ပဏ၏အစုရှင် နှင့် ၄င်း၏ အဖွဲ့ဝင် တစ်ဦးဦးက အခြားတစ်ဖက်တို့အကြား လက်ရဆောင်ရွက်နေဆဲ သို့မဟုတ် အဆိုပြုထားသည့် အဆိုပါအစီအစဉ်၊ စာချုပ်၊ တရားရင်ဆိုင်ရခြင်း သို့မဟုတ် အခြားသောတရားစွဲဆိုခြင်းများမှပေါ်ပေါက်လာသော **ဒါရိုက်တာတစ်ဦးကို ခန့်အပ်သည့်** ကုမ္ပဏ၏အစုရှင် သို့မဟုတ် ၄င်း၏အဖွဲ့ဝင်များ၏ တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်**၍**ဖြစ်စေ ဘဏ္ဍာရေးဆိုင်ရာ သို့မဟုတ် စီးပွာရေးလုပ်ငန်းဆိုင်ရာအကျိုးခံစားခွင့်ကို ဆိုလိုသည်။ အဖွဲ့ဝင်ဆိုသည်မှာ ကြီးကြပ်ကွပ်ကဲခံရသော၊ ကြီးကြပ်ကွပ်ကဲသော သို့မဟုတ် ကြီးကြပ်ကွပ်ကဲခြင်းခံရသော ပုဂ္ဂုလ်တစ်ဦးဦးဟု အဓိပ္ပာယ်သတ်မှတ်ရမည်။ သံသယကင်းရှင်းစေရန်အလို့ငှာ အဆိုပါပုဂ္ဂုလ်တွင် ကုမ္ပဏမပါဝင်စေရ။ ဤတွင်သုံးစွဲထားသည့်အတိုင်း ကြီးကြပ်ကွပ်ကဲခြင်းဆိုသည်မှာ အခြားပုဂ္ဂုလ်၏ ဒါရိုက်တာအဖွဲ့ (သို့မဟုတ် အလားတူစီမံအုပ်ချုပ်သည့်အဖွဲ့)၏ဖွဲ့စည်းမှုကို ကြီးကြပ်ကွပ်ကဲပိုင်ခွင့် သို့မဟုတ် ဒုတိယဖော်ပြထားသောပုဂ္ဂုလ်၏တစ်ဝက်ထက် ပိုသောမဲပေးခွင့်များကို ထိန်းချုပ်စီမံပိုင်ခွင့်အား ကျင့်သုံးခွင့်ကို ဆိုလိုသည်။ ထို့အပြင် သဘာဝပုဂ္ဂုလ် (Natural Person) နှင့် စပ်လျဉ်း**၍ အဖွဲ့ဝင်ဟူသော စကားရပ်တွင် အဆိုပါ** ပုဂ္ဂုလ်၏ ဇနီး၊ ခင်ပွန်း၊ သားသမီး နှင အမွေခွဲဝေခြင်းဆိုင်ရာ အစီအစဉ်များ (estate planning vehicles) လည်း ပါဝင်စေရမည်။

၁၉။ မြန်မာနိုင်ငံဥပဒေများ၏လိုက်နာရန်လိုအပ်သော လိုအပ်ချက်များကို မထိခိုက်စေလျက် ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသည့် စာဖြင့်ရေးသားထားသော အစည်းအဝေး ဆုံးဖြတ်ချက် သို့မဟုတ် ဖြန့်ချိထားသည့် ဒါရိုက်တာအဖွဲ့ အစည်းအဝေးဆုံးဖြတ်ချက်သည် နည်းလမ်းတကျခေါ်ယူကျင်းပသော ဒါရိုက်တာများအစည်းအဝေးအတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစအားလုံးအတွက်အကျိုးသက်ရောက်စေရမည်။ စာဖြင့်ရေးသားထားသော နှင့် လက်မှတ်ရေးထိုးထားသည့် ဟူသည့်စကားရပ်များတွင် မြန်မာနိုင်ငံဥပဒေများက ခွင့်ပြုထားသည့်အတိုင်း တယ်လီဖက်စ်ဖြင့်ဖြစ်စေ၊ ဒီဂစ်တယ်လ် သို့မဟုတ် အီလက်ထရောနစ်လက်မှတ်ဖြင့်ဖြစ်စေ ခွင့်ပြုချက် သို့မဟုတ် ထိုကဲ့သို့ အခြားခွင့်ပြုသည့် နည်းလမ်း သို့မဟုတ် ခွင့်ပြုကြောင်းဖော်ပြသည့်နည်းလမ်းတို့ ပါဝင်သည်။

၂၀။ ဒါရိုက်တာအဖွဲ့၏ဥက္ကဋ္ဌရာထူးကို အစုရှယ်ယာအများဆုံးပိုင်ဆိုင်ထားသည့် ကုမ္ပဏ၏အစုရှင်က ဒါရိုက်တာများထဲမှ အခါအားလျော်စွာရွေးချယ်သတ်မှတ်ရမည်။ (ထိုကဲ့သို့ခန့်အပ်ထားသောပုဂ္ဂုလ်သည် ဥက္ကဋ္ဌ ဖြစ်သည်) ဒါရိုက်တာအဖွဲ့ အစည်းအဝေးတွင် ဆုံးဖြတ်မည့် ဆုံးဖြတ်ချက်တစ်ရပ်အပေါ် ထောက်ခံမဲ နှင့် ကန့်ကွက်မဲတူညီနေပါက အဆိုပါ ဥက္ကဋ္ဌသည် အနိုင်မဲကို ပေးပိုင်ခွင့်မရှိစေရ။

၂၁။ ဒါရိုက်တာတစ်စုံတစ်ဦးသည် အစည်းအဝေးသို့ တက်ရောက်သူအားလုံးကြားနိုင်သည့်၊ အဆိုပါ အစည်းအဝေးသို့ တက်ရောက်သူများအားလုံးကိုလည်း ကြားနိုင်သည့်နည်းလမ်းဖြင့် အစည်းအဝေးတစ်ရပ် သို့မဟုတ် အခြားဒါရိုက်တာများ လူကိုယ်တိုင် တက်ရောက်ချိန်တွင် လူကိုယ်တိုင်ဖြစ်စေ၊ တယ်လီဖုန်းမှတစ်ဆင့်ဖြစ်စေ၊ videoconferencing စနစ်ဖြင့် ဖြစ်စေ တက်ရောက်နိုင်သည်။ အဆိုပါဒါရိုက်တာကို အစည်းအဝေးတက်ရောက်သည်ဟု မှတ်ယူရမည်ဖြစ်ပြီး အဆိုပါအစည်းအဝေးအထမြောက်ရန်အတွက် လိုအပ်သည့်ဦးရေတွင်လည်း ထည့်သွင်းရေတွက်ရမည်။

**သီးသန့်ကိစ္စရပ်များ**

၂၂။ ဒါရက်တာအဖွဲ့၏တစ်ညီတညွတ်တည်းသဘောတူထောက်ခံမှုဖြင့် ဆောင်ရွက်ခြင်းမှလွဲ၍ ကုမ္ပဏီမှဖြစ်စေ၊ ဒါရိုက်တာအဖွဲ့မှဖြစ်စေ၊ ကုမ္ပဏီ၏အစုရှင်များမှဖြစ်စေ၊ ကုမ္ပဏီ၏အရာရှိများ သို့မဟုတ် မန်နေဂျာများတစ်စုံတစ်ဦးမှဖြစ်စေ အောက်တွင်သတ်မှတ်ထားသော ကိစ္စရပ်တစ်ခုခုနှင့်စပ်လျဉ်း**သည့်မည်သည့်ဆောင်ရွက်ခြင်း သို့မဟုတ် ဆုံးဖြတ်ချက်ချမှတ်ခြင်းမျှ မပြုလုပ်ရ –**

**(က) ပြည်ထောင်စုမြန်မာနိုင်ငံသမ္မတ၏စာဖြင့်ရေးသားထားသော သဘောတူခွင့်ပြုချက်နှင့်အညီ** ကုမ္ပဏီ၏အမည်ကို ပြောင်းလဲခြင်း၊

(ခ) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်း နှင့်/သို့မဟုတ် သင်းဖွဲ့စည်းမျဉ်းများကို ပြင်ဆင်ခြင်း၊

(ဂ) လုပ်ငန်းဆိုင်ရာ သဘောသဘာဝ သို့မဟုတ် နယ်ပယ်တွင် ပြောင်းလဲခြင်း၊ ကုမ္ပဏီက အခြားအဖွဲ့အစည်းများနှင့် ပူးပေါင်းဖွဲ့စည်းတည်ထောင်ခြင်း သို့မဟုတ် ကုမ္ပဏီပြန်လည်ဖွဲ့စည်းတည်ထောင်ခြင်းသို့မဟုတ် ကော်ပိုရေးရှင်း၊ ကုမ္ပဏီ သို့မဟုတ် အခြားအဖွဲ့အစည်းတစ်ခုခုဖြင့် ပူးပေါင်းတည်ထောင်ခြင်းအပါအဝင် ကုမ္ပဏီ၏လုပ်ငန်းရည်ရွယ်ချက်များတွင် ပြောင်းလဲမှုပြုလုပ်ခြင်း၊

(ဃ) ကုမ္ပဏီ၏အစုရှယ်ယာအသစ်များထုတ်ရောင်းခြင်း(ကုမ္ပဏီသို့ ဒုတိယအရစ်မတည်ငွေထည့်ဝင်ရာတွင်ထုတ်ရောင်းသော အစုရှယ်ယာများမှအပ) နှင့် ကမ္ပဏီ၏အရေးကြီးသော အစုရှယ်ယာမတည်ငွေလျော့ကျခြင်း၊ ပေါင်းစည်းခြင်း၊ ထပ်ဆင့်ခွဲခြားခြင်း သို့မဟုတ် ပြန်လည်အမျိုးအစားသတ်မှတ်ခြင်း၊

(င) ဤသင်းဖွဲ့စည်းမျဉ်းများနှင့်အညီမှအပ ဒါရိုက်တာများ၏ရာထူးသက်တမ်းမကုန်ဆုံးမီ အဆိုပါဒါရိုက်တာများကို ရာထူးမှ ဖယ်ရှားခြင်း၊

(စ) ဒါရက်တာတစ်စုံတစ်ဦးကိုပေးအပ်သော ဥဏ်ပူဇော်ခအမျိုးအစား သို့မဟုတ် ဒါရိုက်တာများကို အလုပ်ခန့်အပ်ခြင်း နှင့်စပ်လျဉ်းသည့် စည်းမျဉ်းစည်းကမ်းဆိုင်ရာ သိသာထင်ရှားစွာ ပြောင်းလဲခြင်း၊

(ဆ) ဆန္ဒအလျောက်ဖြစ်စေ၊ တရားရုံးတစ်ရုံးကဖြစ်စေ ကုမ္ပဏီကို တရားဝင်ဖျက်သိမ်းခြင်း၊ စာရင်းရှင်းလင်းဖျက်သိမ်းခြင်း၊

(ဇ) သက်ဆိုင်ရာလုပ်ငန်းအစီအစဉ် သို့မဟုတ် ရသုံးမှန်းခြေငွေစာရင်းတွင် သတ်မှတ်မထားသော စုစုပေါင်း အမေရိကန်ဒေါ်လာ ၅၀၀၀၀၀၀ (အမေရိကန်ဒေါ်လာ ငါးသန်း) ထက်ပိုသည့် မတည်ငွေသုံးစွဲမှု (သို့မဟုတ် သက်ဆိုင်သော သုံးစွဲမှု)

(ဈ) အောက်ပါသဘောတူစာချုပ်များမှအပ ၁၂ လအတွင်း ရပ်စဲခြင်းမပြုနိုင်သော သို့မဟုတ် ဘဏ္ဍာနှစ်တစ်နှစ်တွင် စုစုပေါင်း အမေရိကန်ဒေါ်လာ (၁၀၀၀၀၀၀၀) ထက်ပိုသော အသုံးစရိတ် သို့မဟုတ် အခြားတာဝန်ဝတ္တရားဆိုင်ရာ ဖြေရှင်းဆောင်ရွက်ခြင်းပါဝင်သော စာချုပ်ချုပ်ဆိုခြင်း၊ သို့မဟုတ် ပေးရန်တာဝန်များ သို့မဟုတ် ကတိပြုခြင်း၊

(က) လောင်စာဆီဖြန့်ဖြူးခြင်းဆိုင်ရာသဘောတူစာချုပ်

(ခ) brand လိုင်စင်ပေးခြင်းဆိုင်ရာသဘောတူစာချုပ်

(ဂ) နည်းပညာဆိုင်ရာဝန်ဆောင်မှုများသဘောတူစာချုပ်

(ဃ)ကုမ္ပဏီနှင့် (၁) မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ (၂) လေကြောင်းပို့ဆောင်မှုညွှန်ကြားမှုဦးစီးဌာန၊ (၃) မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း နှင့် (၄) တပ်မတော် (လေ) တို့ ချုပ်ဆိုသော မြေငှားစာချုပ်များ

(ည) မည်သည့်နှစ်တွင်မဆို စုစုပေါင်းအမေရိကန်ဒေါ်လာ ၁၀၀၀၀၀၀၀ ထက်ပိုသော အခြေပစ္စည်းများ၊ ခံစားခွင့်များကို ရောင်းချခြင်း သို့မဟုတ် ရောင်းချရန်အဆိုပြုခြင်း သို့မဟုတ် အခြားနည်းထုခွဲရောင်းချခြင်း၊ နှင့် ကနဦးလုပ်ငန်းအစီအစဉ် သို့မဟုတ် ကနဦးရသုံးမှန်းခြေစာရင်း သို့မဟုတ် နောင်တွင်သဘောတူခွင့်ပြုသည့် လုပ်ငန်းအစီအစဉ်များ နှင့် ရသုံးမှန်းခြေစာရင်းများတွင် သီးခြားသတ်မှတ်ဖော်ပြထားခြင်းမရှိပါက IAS အရ သတ်မှတ်ထားသည့် ကုမ္ပဏီ၏စုစုပေါင်းအခြေပစ္စည်းများ၏ ၅ % ထက်ပိုသောသို့မဟုတ် ၅ % နှင့်ညီမျှသော တန်ဖိုးရှိ ပုံမှန်လုပ်ငန်းဆောင်ရွက်ရာတွင် လက်ရှိအသုံးပြုနေသောအခြေပစ္စည်းများကို ထုခွဲရောင်းချခြင်း၊

(ဋ) လွတ်လပ်စွာ သို့မဟုတ် စုစုပေါင်းတန်ဖိုးပမာဏ (full value) ဆိုင်ရာ လုပ်ငန်းဆောင်ရွက်မှုမှအပ ပုဂ္ဂိုလ်တစ်ဦးဦးနှင့် အရေးကြီးသောလုပ်ငန်းဆောင်ရွက်ခြင်း သို့မဟုတ် အထက်ပါစည်းမျဉ်းအပိုဒ် ၂၂ ၈ (က) တွင် ဖော်ပြထားသည့် လောင်စာဆီဖြန့်ဖြူးခြင်းဆိုင်ရာသဘောတူစာချုပ်မှအပ အစုရှင်တစ်ဦး နှင့် အရေးကြီးသော လုပ်ငန်းဆောင်ရွက်ခြင်း၊

(ဌ) ပေါင်းစည်းခြင်းများ/ ကနဦးလုပ်ငန်းအစီအစဉ် သို့မဟုတ် နောင်တွင် သဘောတူခွင့်ပြုထားသည့် လုပ်ငန်းအစီအစဉ်များတွင် သတ်မှတ်မထားသော ဖက်စပ်လုပ်ငန်းများ၊ အစုစပ်လုပ်ငန်းများဆိုင်ရာ စာချုပ်ချုပ်ဆိုခြင်း နှင့် အခြားအကျိုးအမြတ်ခွဲဝေခံစားခြင်းဆိုင်ရာ သဘောတူစာချုပ်များ ချုပ်ဆိုခြင်း၊

(ဍ) နှစ်စဉ်လုပ်ငန်းအစီအစဉ် နှင့် ရသုံးမှန်းခြေငွေစာရင်းကို သဘောတူခွင့်ပြုခြင်း၊

(ဎ) ကနဦးလုပ်ငန်းအစီအစဉ် နှင့် နောင်တွင်သဘောတူခွင့်ပြုသည့် လုပ်ငန်းအစီအစဉ်များကို ပြင်ဆင်ပြောင်းလဲခြင်း၊

(ဏ) နှစ်ရှည်ရယူထားသော ချေးငွေများတိုးမြှင့်ခြင်း သို့မဟုတ် ကနဦးလုပ်ငန်းအစီအစဉ် သို့မဟုတ် နောင်တွင်သဘောတူခွင့်ပြုထားသည့် လုပ်ငန်းအစီအစဉ်များတွင် သတ်မှတ်မထားသော စုစုပေါင်းအမေရိကန်ဒေါ်လာ ၁၀ သန်းထက်ပိုသော ကြွေးမြီတစ်ခု သို့မဟုတ် တစ်ခုထက်ပိုသောကြွေးမြီများ ဖန်တီးခြင်း၊

(တ) တစ်နှစ်စာနှစ်ချုပ်ငွေစာရင်းများကို အတည်ပြုခြင်း၊

(ထ) ကုမ္ပဏီ၏စာရင်းစစ်ကို ခန့်အပ်ခြင်း သို့မဟုတ် ရာထူးမှဖယ်ရှားခြင်း၊

(ဒ) ကုမ္ပဏီ သို့မဟုတ် ၎င်း၏လက်အောက်ခံကုမ္ပဏီနှင့်ပတ်သက်နေသော စုစုပေါင်း အမေရိကန်ဒေါ်လာ ၅၀၀၀၀၀၀ ကျော် တန်ဖိုးရှိ တောင်းဆိုချက်၊ တရားစွဲဆိုခြင်း၊ ခုံသမာဓိစီရင်ဆုံးဖြတ်ခြင်း သို့မဟုတ် အခြားတရားစွဲဆိုဆောင်ရွက်ခြင်းများအား စတင်ဆောင်ရွက်ခြင်း၊ ဆောင်ရွက်ခြင်း၊ ဖြေရှင်းဆောင်ရွက်ခြင်း သို့မဟုတ် ကျေအေးခြင်း သို့မဟုတ် ဘဏ္ဍာနှစ်တစ်နှစ်တွင် အဆိုပါတောင်းဆိုချက်များနှင့်စပ်လျဉ်း၍ တောင်းဆိုချက်တစ်ခုလျှင် စုစုပေါင်း အမေရိကန်ဒေါ်လာ ၁၀၀၀၀၀၀၀ ထက်မပိုသော သို့မဟုတ် စုစုပေါင်း အမေရိကနဒေါ်လာ ၅၀၀၀၀၀၀၀ ထက်မပိုသော ပုံမှန်လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပေါ်ပေါက်လာသော အကြွေးစုစုပေါင်းနှင့် စပ်လျဉ်းသည့်ကိစ္စရပ်မှအပ ပေးရန်တာဝန်များကို ဆောင်ရွက်ရန်တာဝန်ရှိကြောင်း ဝန်ခံပြောဆိုခြင်း၊

(ဓ) အမြတ်ဝေစု သို့မဟုတ် ခွဲဝေပေးခြင်းဆိုင်ရာ အဆိုပြုချက် (ဝင်ငွေ နှင မတည်ငွေရင်းအပါအဝင်)

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ်(၇၁)တွင် ပေးအပ်ထားသော အထွေထွေအာဏာများ နှင့် စည်းမျဉ်းအပိုဒ်၂၂ ပါ သီးသန့်ကိစ္စရပ်များနှင့်အညီ လိုအပ်သောဒါရိုက်တာများ၏တစ်ညီတစ်ညွတ်တည်း သဘောတူခွင့်ပြုချက်ကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် ဒါရိုက်တာများ၏တစ်ညီတစ်ညွတ်တည်း သဘောတူခွင့်ပြုချက်ဖြင့် ကော်မတီတစ်ခု သို့မဟုတ် ကုမ္ပဏီ၏အရာရှိတစ်ဦးကို လွှဲပြောင်းပေးအပ်နိုင်သော အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်းထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ

(၁) ဒါရိုက်တာများကသင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမဏီက ရယူရန် အာဏာရှိသည့်မည်သည့်ပစ္စည်း၊ အခွင့်အရေးများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြား နည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များသတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကိုပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကိုပြန်လည်ပေးဆပ်ရန်အတွက်အာမခများထားရှိရန်အပြင်၊ အထူးသဖြင့်ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့်ပစ္စည်း များအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြုလုပ်၍ထုတ်ဝေရန်။

(၃) ဤကုမဏီကရယူထားသောအခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ် တစ်ဒေသကို ငွေကြေးအားဖြင့်ပေးချေရန် သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန် ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့်သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသပေးသွင်း ပြီးသောအစုရှယ်ယာများအနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ စာချုပ်များဖြင့်ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေ ပေးရာ၌ ခေါ်ဆိုခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ် တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ ထိုကဲ့သို့ မဟုတ်ဘဲဖြစ်စေထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့်ပြုလုပ်ထားသော ကန်ထရက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင်ဆောင်ရွက် စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမဏီ၏ ပစ္စည်းရပ်များအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော်လည်းကောင်း၊ အပေါင်ပြု၍သော်လည်းကောင်း သို့မဟုတ် အစု ရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း အဆိုပါပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများတောင်းခံရာ၌လည်းကောင်းသင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့ပြင်အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ရင်းနှီးမြှုပ်နှံသူဒါရိုက်တာတစ်ဦးအား မန်နေးဂျင်းဒါရိုက်တာ အဖြစ်ခန့်ထားရန်နှင့် ဘဏ္ဍာရေး ဒါရိုက်တာနှင့် ဒါရိုက်တာ တစ်ဦးဦးအား ၎င်း၏ဒါရိုက်တာရာထူးနှင့်တွဲဖက်၍ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ်ခန့်ထားရန်။

(၇) မည်သည့်အစုရှင်ထံမှမဆို ၎င်းတို့၏အစုရှယ်ယာများအားလုံးကိုဖြစ်စေ၊ အချို့တဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းမျဉ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ်အပ်နှံခြင်းများနှင့်ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆိုပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီကရရန်ရှိသောကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီကပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသောငွေတောင်းခံခြင်းများကို ဖြန်ဖြေရေးခုံသမာဓိထံသို့ ဖြေရှင်းရန် အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများပြုလုပ်ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကိုပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီမဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်း များ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စားမည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည် ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန်မလိုသေးသော ကုမဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထား ရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင် ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမဏီ၏ (လက်ရှိနှင့်နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စား ဖြစ်စေပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုပါရန်။ အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချ နိုင်သည့် အာဏာနှင့်အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက် များပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက်ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်းစသည်တို့ကို ဤ ကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ်သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ်ချုပ်ဆိုခြင်းများကိုပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါဆောင်ရွက်ချက်စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့်စပ်လျဉ်းသော ကိစ္စရပ်များ ကိုလည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက်မည်သည့်ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေး အဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။ သို့ရာတွင် ဒါရိုက်တာအဖွဲ့သည် စည်းမျဉ်းအပိုဒ် ၂၂ နှင့်အညီ လိုအပ်ပါက ဒါရိုက်တာများအားလုံး၏တစ်ညီတစ်ညွတ်တည်းသဘောတူခွင့်ပြုချက်မပါဘဲ ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ ငွေချေးယူခြင်း သို့မဟုတ် စည်းမျဉ်းအပိုဒ် ၂၂ တွင်ရည်ညွှန်း ဖော်ပြထားသော အထက်ပါကိစ္စရပ်တစ်ခုခုကို ဆောင်ရွက်ခြင်းမပြုရ။

## အထွေထွေအစည်းအဝေးကြီးများ

၂၄။ ကုမ္ပဏီကိုဥပဒေအရဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ်အစည်းအဝေး ကြီးကိုကျင်းပရသည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့်အချိန်နှင့်နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ် လျှင်အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့် အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ်အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက်မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင် မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင် အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့်၊ ထည့်ဝင်ပြီးဖြစ်သည့် မ,တည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ခုနစ်ဆယ့်ငါးရာခိုင်နှုန်း (၇၅%) ထက်မနည်း ပိုင်ဆိုင်ကြသည့် အစုရှင်များကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံးဆောင်ရွက်ရန်အတွက် အစည်းအဝေး အထမြောက်သည့် ဦးရေဖြစ်သည်။ နည်းလမ်းတကျခေါ်**၍**ကျင်းပသော အစုရှင်များအစည်းအဝေးတွင် အစည်းအဝေးအထမြောက်သည့်သတ်မှတ်ဦးရေမတက်ရောက်ပါက ထုတ်ဝေထားသည့်၊ ထည့်ဝင်ပြီးဖြစ်သည့် မတည် ရင်းနှီးငွေ အစုရှယ်ယာများ၏ လေးဆယ့်ကိုးရာခိုင်နှုန်း (၄၉%) ထက်မနည်းပိုင်ဆိုင်ကြသည့် အစုရှင်များ ကိုယ်တိုင် သို့မဟုတ် ကိုယ်စားလှယ်ဖြင့် နည်းလမ်းတကျခေါ်**၍**ကျင်းပသော ရွှေ့ဆိုင်းထားသည့် အစုရှင်များအစည်းအဝေးတွင် တက်ရောက်လျှင် အစည်းအဝေးအထမြောက်ရမည်။ နည်းလမ်းတကျခေါ်**၍**ကျင်းပသော အည်းအဝေးထမြောက်သည့် သတ်မှတ်ဦးရေတက်ရောက်သော အစုရှင်များအစည်းအဝေးတွင် ကိစ္စတစ်ခုခုနှင့်စပ်လျဉ်း၍ မဲခွဲဆုံးဖြတ်ရာ၌ ဥပဒေ အရ ပိုမိုမြင့်မားသောအထက်အဆင့်ခွင့်ပြုချက်တစ်ရပ်ကို မလိုအပ်ပါက စုစုပေါင်းထုတ်ဝေထားသည့်၊ ထည့်ဝင်ပြီး ဖြစ်သည့် အစုရှယ်ယာများ၏ အနည်းဆုံး ငါးဆယ့်နှစ် ရာခိုင်နှုန်း (၅၂%) ပိုင်ဆိုင်ကြသည့် အစုရှင်များက လူကိုယ်တိုင်ဖြစ်စေ၊ ကိုယ်စားလှယ်ဖြင့်ဖြစ်စေ ပေးသည့် မဲကို လိုအပ်ပါသည်။

၂၅။ တောင်းခေါ်သည့်ငွေများအားလုံး နှင့် အခြားပေးသွင်းရမည့်ငွေများကို ပေးသွင်းခဲ့ပြီးဖြစ်ပါက အစုရှင်များ၏အထူး အစည်းအဝေးကို ဥက္ကဋ္ဌ သို့မဟုတ် ကုမ္ပဏီ၏ထုတ်ဝေထားသည့် မတည်ရင်းနှီးငွေ အစုရှယ်ယာများ၏ အနည်းဆုံး တစ်ဆယ်ရာခိုင်နှုန်း (၁၀%) ကို ပိုင်ဆိုင်သည့် အစုရှင်များ (တစ်ဦးတည်းဖြစ်စေ၊ ၎င်း၏အဖွဲ့ဝင်များနှင့် အတူ တကွဖြစ်စေ) ကသာ ခေါ်**၍** ကျင်းပနိုင်သည်။

၂၆။ မြန်မာနိုင်ငံ၏ဥပဒေများအရ လိုက်နာရန်လိုအပ်သော လိုအပ်ချက်များ နှင့် စည်းမျဉ်းအပိုဒ် ၂၂ ပါ သီးသန့်ကိစ္စရပ် များကို မထိခိုက်စေလျက် အစုရှယ်ယာ စုစုပေါင်း ခုနစ်ဆယ့်ငါးရာခိုင်နှုန်း (၇၅ %) ထက်မနည်းပိုင်ဆိုင်သည့် ကုမ္ပဏီ၏ အစုရှင် သို့မဟုတ် အစုရှင်များက လက်မှတ်ရေးထိုးထားသည့် စာဖြင့်ရေးသားထားသော သို့မဟုတ် အစုရှင်များအားဖြန့်ချိထားသော အစည်းအဝေးဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျခေါ်**၍**ကျင်းပသောအစည်း အဝေးတွင် လူကိုယ်တိုင်တက်ရောက်လျက်ဆုံးဖြတ်အတည်ပြုထားသည့်ဆုံးဖြတ်ချက်တစ်ရပ်ကဲ့သို့အကျိုးသက်ရောက် စေရမည်။ စာဖြင့်ရေးသားထားသော နှင့် လက်မှတ်ရေးထိုးထားသည့် ဟူသည့်စကားရပ်များတွင် မြန်မာနိုင်ငံ ဥပဒေ များက ခွင့်ပြုထားသည့်အတိုင်း တယ်လီဖက်စ်ဖြင့် ဖြစ်စေ၊ ဒီဂျစ်တယ်လ် သို့မဟုတ် အီလက်ထရောနစ် လက်မှတ်ဖြင့် ဖြစ်စေ ခွင့်ပြုချက် သို့မဟုတ် ထိုကဲ့သို့အခြားခွင့်ပြုသည့်နည်းလမ်း သို့မဟုတ် ခွင့်ပြုကြောင်း ဖော်ပြသည့် နည်းလမ်း တို့ ပါဝင်သည်။

## အမြတ်ဝေစုများ

၂၇။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမဏီ၏အစုရှင်များအားခွဲဝေပေးမည့်အမြတ်ဝေစုကို ကုမ္ပဏီ၏အမြတ်ဝေစုမူဝါဒနှင့်အညီ ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများကထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ် ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၂၈။ ကုမ္ပဏီသည်လုပ်ငန်းရုံးတစ်ခုကိုဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ်ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ခရီးသွားစရိတ်နှင့်အခြားအသုံးစရိတ်များကဲ့သို့သော ညဏ်ပူဇော်ခများနှင့်အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်မားကို သင်းလုံးကျွတ်အစည်းအဝေးကအတည်ပြုရမည်။ အထွေထွေမန်နေဂျာသည်လုပ်ငန်းရေး၏ ထိရောက်စွာလုပ်ငန်းလည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်းဒါရိုက်တာအားတာဝန်ခံ၍ဆောင်ရွက်ရမည်။

## အထွေထွေမန်နေဂျာ

၂၉။ ရင်းနှီးမြှုပ်နှံသူဒါရက်တာသည် ကုမ္ပဏီ၏မူဝါဒများနှင့်အညီ အဆိုပါသတ်မှတ်ချက်များ၊ ညဏ်ပူဇော်ခများဖြင့် ပုဂ္ဂိုလ်တစ်ဦးဦးကို အထွေထွေမန်နေဂျာရာထူးအတွက် အခါအားလျော်စွာ ခန့်အပ်နိုင်သည်။ အဆိုပါ ပုဂ္ဂိုလ်သည် မန်နေဂျင်းဒါရိုက်တာက ၎င်းအား အခါအားလျော်စွာလွှဲပြောင်းပေးအပ်သည့်လုပ်ပိုင်ခွင့်များအားလုံးကို ရရှိစေရမည်။ မြန်မာဒါရိုက်တာများသည် အထွေထွေမန်နေဂျာရာထူးအတွက် ပုဂ္ဂိုလ်တစ်ဦးဦးကို ခန့်အပ်နိုင်သည့် မည်သည့် အခွင့်အရေးမျှ မရှိစေရ။

## ငွေစာရင်းများ

၃၀။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသို ထိန်းသိမ်းဆောင်ရွက်ရမည်။

(၁) ဤကုမ္ပဏီ၏ရငွေ၊ သုံးငွေများ၏ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများဖြစ်ပေါ်ခြင်းနှင့်စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ကုန်ပစ္စည်းများရောင်းချခြင်း နှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ရရန်ပိုင်ခွင့်များ နှင့် ပေးရန်တာဝန်များ။

၃၁။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၃၂။ စာရင်းစစ်များကိုခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏တာဝန်သည် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်းစည်းကမ်းများနှင့် လိုက်လျောညီထွေဖြစ်ရမည်။

**နို့တစ်စာ**

၃၃။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအား ဖြင့်ပေးပို့နိုင်သည်။

**တံဆိပ်**

၃၄။ ဒါရိုက်တာများသည် တံဆိပ်ကိုလုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများ ကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး မြန်မာဒါရိုက်တာတစ်ဦးနှင့် ရင်းနှီး မြှုပ်နှံသူဒါရိုက်တာတစ်ဦးပါဝင်သော အနည်းဆုံးဒါရိုက်တာနှစ်ဦး၏ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် အဆိုပါဒါရိုက်တာများက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၃၅။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆(ဂ)တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲ ဥပဒေပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့် စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၃၆။ ကုမ္ပဏီ၏အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရား ဥပဒေများတွင်ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကန်ုပ်တို့၏အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြပါရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည် နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | Myanmar Petroleum Products Enterprise<br><br>Address: Complex No.6, Nay Pyi Taw, Myanmar<br><br>Presented by:<br>Residential Address: | | 15,612 | |
| 2. | Puma Energy Group Pte Ltd<br>Address: 1 Marina Boulevard # 28 -00, One Marina Boulevard, Singapore 018989<br><br>Presented by:<br>Residential Address: | | 15,000 | |

ရန်ကုန်။ နေ့စွဲ၊ ၂၀ ခုနှစ်၊ လ၊ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် အကျွန်ုပ်တို့၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

THE COMPANIES ACT, CAP. 50

PRIVATE COMPANY LIMITED BY SHARES

MEMORANDUM

AND

ARTICLES OF ASSOCIATION

OF

**PUMA ENERGY GROUP PTE. LTD.**

Incorporated on the 23rd day of October, 2012

**ALLEN & GLEDHILL LLP**
ONE MARINA BOULEVARD #28-00
SINGAPORE 018989

ACCOUNTING AND CORPORATE REGULATORY AUTHORITY (ACRA) bizFILE

Company No: 201226149H

## CERTIFICATE CONFIRMING INCORPORATION OF COMPANY

**This is to confirm that PUMA ENERGY GROUP PTE. LTD. is incorporated under the Companies Act (Cap 50), on and from 23/10/2012 and that the company is a PRIVATE COMPANY LIMITED BY SHARES.**

**GIVEN UNDER MY HAND AND SEAL ON 24/10/2012.**

CHUA SIEW YEN
ASSISTANT REGISTRAR
ACCOUNTING AND CORPORATE REGULATORY AUTHORITY (ACRA)
SINGAPORE

REGISTRAR OF COMPANIES & BUSINESSES
ACRA
ACCOUNTING AND CORPORATE REGULATORY AUTHORITY
SINGAPORE

**Kamaliah Binte Mohtar**

| | |
|---|---|
| **From:** | ACRA Auto Mail <ACRA_BIZFILE@acra.gov.sg> |
| **Sent:** | Tuesday, 23 October 2012 2:19 PM |
| **To:** | Daphne Ang Yee Koon |
| **Subject:** | Email Notification. |

This is a system-generated email.Please do not reply to this email.
If you have any enquiry, please visit our interactive web service at www.acra.gov.sg/askacra for more information.

Dear Sir/Madam

Company No.:201226149H

NOTICE OF INCORPORATION

This is to confirm that PUMA ENERGY GROUP PTE. LTD. is incorporated under the Companies Act(Cap.50), on and from 23/10/2012 and that the Company is a PRIVATE COMPANY LIMITED BY SHARES.

Events@ACRA.

Calendar of events to meet your business essentials.

To find out more, please click here - http://www.acra.gov.sg/News_and_Events/Events.htm

Thank You

Accounting and Corporate Regulatory Authority (ACRA)
10 Anson Road
#05-01/15 International Plaza
Singapore 079903

****************************************************************************

THE COMPANIES ACT, CAP. 50

PRIVATE COMPANY LIMITED BY SHARES

MEMORANDUM OF ASSOCIATION

of

**PUMA ENERGY GROUP PTE. LTD.**

1. **NAME**

The name of the Company is PUMA ENERGY GROUP PTE. LTD.

2. **REGISTERED OFFICE**

The Registered Office of the Company will be situated in the Republic of Singapore.

3. **BUSINESS OR ACTIVITY**

Subject to the provisions of the Companies Act, Cap. 50 and any other written law and the Memorandum and Articles of Association, the Company has:

(a) full capacity to carry on or undertake any business or activity, do any act or enter into any transaction; and

(b) for the purposes of paragraph (a), full rights, powers and privileges.

4. **LIABILITY OF MEMBERS**

The liability of the members is limited.

5. **SHARE CAPITAL**

The Company shall have power to consolidate or subdivide the shares and to issue any additional capital as fully paid or partly paid shares and with any special or preferential rights or privileges or subject to any special terms or conditions, and either with or without any special designation, and also from time to time to alter, modify, commute, abrogate or deal with any such rights, privileges, terms, conditions or designations in accordance with the regulations for the time being of the Company.

We, the person whose name, address and occupation are subscribed, are desirous of being formed into a Company in pursuance of this Memorandum of Association and agree to take the number of share in the capital of the Company set opposite our name:-

| NAME, ADDRESS AND OCCUPATION OF SUBSCRIBER | Number of shares taken by Subscriber. |
|---|---|
| Dominic Patrick Watters<br>7D Hillcrest Road<br>Hillcrest Villa<br>Singapore 286687<br><br>Director<br><br>(authority given under Power of Attorney dated 25 September 2012)<br><br>as attorney, for and on behalf of<br>**PUMA ENERGY HOLDING (MI) 2 LLC**<br>Trust Company Complex, Ajeltake Road, Ajeltake Island, Majuro, Marshall Islands MH 96960 | One (1) Ordinary Share at a subscription price of USD1.00 |
| TOTAL NUMBER OF SHARE TAKEN | One (1) Ordinary Share |

Dated this 23rd day of October 2012

Witness to the above signature:-

Ang Yee Koon Daphne
Practising Chartered Secretary
c/o Allen & Gledhill LLP
One Marina Boulevard #28-00
Singapore 018989

THE COMPANIES ACT, CAP. 50

PRIVATE COMPANY LIMITED BY SHARES

ARTICLES OF ASSOCIATION

of

**PUMA ENERGY GROUP PTE. LTD.**

## PRELIMINARY

1. The regulations contained in Table "A" in the Fourth Schedule to the Act shall not apply to the Company, but the following shall, subject to repeal, addition and alteration as provided by the Act or these Articles, be the regulations of the Company. Table "A" not to apply.

2. In these Articles, if not inconsistent with the subject or context, the words standing in the first column of the Table next hereinafter contained shall bear the meanings set opposite to them respectively in the second column thereof: Interpretation.

| WORDS | | MEANINGS |
|---|---|---|
| "the Act" | .. | The Companies Act, Cap. 50 or any statutory modification, amendment or re-enactment thereof for the time being in force or any and every other act for the time being in force concerning companies and affecting the Company and any reference to any provision of the Act is to that provision as so modified, amended or re-enacted or contained in any such subsequent Companies Act. |
| "these Articles" | .. | These Articles of Association or other regulations of the Company for the time being in force. |
| "the Company" | .. | The abovenamed Company by whatever name from time to time called. |
| "Auditors" | .. | The auditors for the time being of the Company. |
| "Director" | .. | Includes any person acting as a Director of the |

| | | |
|---|---|---|
| | | Company and includes any person duly appointed and acting for the time being as an Alternate Director. |
| "Directors" | .. | The Directors for the time being of the Company or such number of them as have authority to act for the Company. |
| "dividend" | .. | Includes bonus. |
| "Member" | .. | A Member of the Company, except that, where the Act requires, excludes the Company where it is a member by reason of its holding of its shares as treasury shares. |
| "month" | .. | Calendar month. |
| "Office" | .. | The Registered Office of the Company for the time being. |
| "paid up" | .. | Includes credited as paid up. |
| "Register" | .. | The Register of Members. |
| "Seal" | .. | The Common Seal of the Company or in appropriate cases the Official Seal or duplicate Common Seal. |
| "Secretary" | .. | The Secretary or Secretaries appointed under these Articles and shall include any person entitled to perform the duties of Secretary temporarily. |
| "Singapore" | .. | The Republic of Singapore. |
| "Statutes" | .. | The Act and every other act for the time being in force concerning companies and affecting the Company. |
| "S$" | .. | The lawful currency of Singapore. |
| "writing" and "written" | .. | Includes printing, lithography, typewriting and any other mode of representing or reproducing words in a visible form. |
| "year" | .. | Calendar year. |

Words denoting the singular number only shall include the plural and vice versa.

Words denoting the masculine gender only shall include the feminine gender.

Words denoting persons shall include corporations.

A reference in these Articles to "holders" of shares or a class of shares shall, except where otherwise provided, exclude the Company in relation to shares held by it as treasury shares.

A reference in these Articles to the Directors shall, in the case where the Company has only one Director, be construed as a reference to that Director.

A reference in these Articles to the doing of any act by two or more Directors shall, in the case where the Company has only one Director, be construed as the doing of that act by that Director.

Any reference in these Articles to any enactment is a reference to that enactment as for the time being amended or enacted.

Save as aforesaid, any word or expression used in the Act and the Interpretation Act, Cap. 1 shall, if not inconsistent with the subject or context, bear the same meaning in these Articles.

The headnotes and marginal notes are inserted for convenience only and shall not affect the construction of these Articles.

## BUSINESS

3. Subject to the provisions of the Act, any business which the Company is expressly or by implication empowered to undertake may be undertaken by the Directors at such time or times as they shall think fit, and further may be suffered by them to be in abeyance, whether such business may have been actually commenced or not, so long as the Directors may deem it expedient not to commence or proceed with such business.

Any business either expressly or by implication empowered to be undertaken may be undertaken by Directors.

## PRIVATE COMPANY

4. The Company is a private company, and accordingly:

Limited number of members and restrictions on the transfer of shares.

(a) the number of the Members (not including persons who are in the employment of the Company or of its subsidiary and persons who having been formerly in the employment of the Company or of its subsidiary were while in the employment and have continued after the determination of that employment to be Members) shall be limited to fifty. Provided that for the purposes of this provision where two or more persons hold one or more shares in the Company jointly they shall be treated as a single Member; and

(b) the right to transfer the shares of the Company shall be restricted in the manner hereinafter appearing.

## SHARES

5. (A) Save to the extent permitted by the Act, none of the funds of the Company or of any subsidiary thereof shall be directly or indirectly employed in the purchase or subscription of or in loans upon the security of the Company's shares. Prohibition against financial assistance.

(B) Notwithstanding the provisions of Article 5(A) but subject to the Act, the Company may purchase or otherwise acquire its issued shares on such terms and in such manner as the Company may from time to time think fit. If required by the Act, any share that is so purchased or acquired by the Company shall, unless held in treasury in accordance with the Act, be deemed to be cancelled immediately on purchase or acquisition by the Company. On the cancellation of a share as aforesaid, the rights and privileges attached to that share shall expire. In any other instance, the Company may hold or deal with any such share which is so purchased or acquired by it in such manner as may be permitted by, and in accordance with, the Act.

6. Save as provided by Section 161 of the Act, no shares may be issued by the Directors without the prior approval of the Company in General Meeting but subject thereto and to the provisions of these Articles, the Directors may allot and issue shares or grant options over or otherwise dispose of the same to such persons on such terms and conditions and at such time as the Company in General Meeting may approve. Issue of Shares.

7. The rights attached to shares issued upon special conditions shall be clearly defined in the Memorandum of Association of the Company or these Articles. Without prejudice to any special right previously conferred on the holders of any existing shares or class of shares but subject to the Act and these Articles, shares in the Company may be issued by the Directors and any such shares may be issued with such preferred, deferred, or other special rights or such restrictions, whether with regard to dividend, voting, return of capital or otherwise as the Directors may determine. Special Rights.

8. The Company shall not exercise any right in respect of treasury shares other than as provided by the Act. Subject thereto, the Company may deal with its treasury shares in the manner authorised by, or prescribed pursuant to, the Act. Treasury Shares.

9. If at any time the share capital is divided into different classes, the rights attached to any class (unless otherwise provided by the terms of issue of the shares of that class) may, subject to the provisions of the Act, whether or not the Company is being wound up, be varied or abrogated with the sanction of a Special Resolution passed at a separate General Meeting of the holders of shares of the class and to every such Special Resolution the provisions of Section 184 of the Act shall with such adaptations as are necessary apply. To every such separate General Meeting the provisions of these Articles relating to General Meetings shall mutatis mutandis apply. Provided Always That: Variation of rights.

(a) the necessary quorum shall be two persons at least

holding or representing by proxy or by attorney one-third of the issued shares of the class and that any holder of shares of the class present in person or by proxy or by attorney may demand a poll, but where the necessary majority for such a Special Resolution is not obtained at the Meeting, consent in writing if obtained from the holders of three-fourths of the issued shares of the class concerned within two months of the Meeting shall be as valid and effectual as a Special Resolution carried at the Meeting; or

(b) where all the issued shares of the class are held by one person, the necessary quorum shall be one person and such holder of shares of the class present in person or by proxy or by attorney may demand a poll.

10. The rights conferred upon the holders of the shares of any class issued with preferred or other rights shall, unless otherwise expressly provided by the terms of issue of the shares of that class or by these Articles as are in force at the time of such issue, be deemed to be varied by the creation or issue of further shares ranking equally therewith.

Creation or issue of further shares with special rights.

11. The Company may pay commissions or brokerage on any issue of shares at such rate or amount and in such manner as the Directors may deem fit. Such commission or brokerage may be satisfied by the payment of cash or the allotment of fully or partly paid shares or partly in one way and partly in the other.

Power to pay commission and brokerage.

12. If any shares of the Company are issued for the purpose of raising money to defray the expenses of the construction of any works or the provisions of any plant which cannot be made profitable for a long period, the Company may, subject to the conditions and restrictions mentioned in the Act pay interest on such of the shares (excluding treasury shares) as is for the time being paid up and may charge the same to capital as part of the cost of the construction or provision.

Power to charge interest on capital.

13. Except as required by law, no person shall be recognised by the Company as holding any share upon any trust and the Company shall not be bound by or compelled in any way to recognise (even when having notice thereof) any equitable, contingent, future or partial interest in any share or any interest in any fractional part of a share or (except only as by these Articles or by law otherwise provided) any other rights in respect of any share, except an absolute right to the entirety thereof in the registered holder.

Exclusion of equities.

14. If two or more persons are registered as joint holders of any share, any one of such persons may give effectual receipts for any dividend payable in respect of such share and the joint holders of a share shall, subject to the provisions of the Act, be severally as well as jointly liable for the payment of all instalments and calls and interest due in respect of such shares. Such joint holders shall be deemed to be one Member and the delivery of a certificate for a share to one of several joint holders shall be sufficient delivery to all such holders.

Joint holders.

ထိုဥပဒေနှင့် အလားတူ အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သော ဥပဒေကို ဆိုလိုခြင်းဖြစ်သည်။

"မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ" ဆိုသည်မှာ အခါအားလျော်စွာပြင်ဆင်နိုင်သည့် မြန်မာနိုင်ငံ၏ ကုမ္ပဏီများအက်ဥပဒေကို ဆိုလိုသည်။

"ထိခိုက်နစ်နာမှုမရှိသောစာချုပ်ချုပ်ဆိုသူ"ဆိုသည်မှာ အပိုဒ် ၁၈.၁ တွင် သတ်မှတ်ထားသည့် အဓိပ္ပာယ်သတ်မှတ်ချက်အတိုင်း ဖြစ်သည်။

"ကမ်းလှမ်းခြင်းခံရသည့်ရှယ်ယာရှင်"ဆိုသည်မှာ အပိုဒ် ၈.၄ တွင် သတ်မှတ်ထားသည့် အဓိပ္ပာယ် သတ်မှတ်ချက်အတိုင်း ဖြစ်သည်။

"ကမ်းလှမ်းသည့်ရှယ်ယာရှင်"ဆိုသည်မှာ အပိုဒ် ၈.၄ တွင် သတ်မှတ်ထားသည့်အဓိပ္ပာယ် သတ်မှတ်ချက်အတိုင်း ဖြစ်သည်။

"လုပ်ငန်းဆောင်ရွက်သည့်လိုင်စင်"ဆိုသည်မှာရှယ်ယာဝယ်ယူမှုနောက်ဆုံး သတ်မှတ်ရက်မှ စတင်၍ ကုမ္ပဏီ၏ လုပ်ငန်းအားထိရောက်စွာလည်ပတ်စေနိုင်ရေးအတွက် လိုအပ်သော MIC နှင့် အခြားသော သက်ဆိုင်ရာ အာဏာပိုင်မှန်သမျှတို့က ထုတ်ပေးထားကြသည့် လုပ်ငန်းဆောင်ရွက်သည့် လိုင်စင်တစ်ခုစီကို ဆိုလိုခြင်းဖြစ်သည်။ အရှုပ်အရှင်းကင်းရှင်းစေရန်အတွက် အဆိုပါစကားရပ်တွင် စီမံကိန်းနှင့်စီးပွားရေးလုပ်ငန်းများနှင့် စပ်လျဉ်းသည့် ကိစ္စအားလုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်အခွင့်အရေးလည်း ပါဝင်သည်။

"လုပ်ငန်းဆောင်ရွက်ခြင်းဆိုင်ရာကိစ္စရပ်များ" ဆိုသည်မှာ အပိုဒ် ၈.၁ နှင့်အညီ အခါအားလျော်စွာ ပြင်ဆင်နိုင်သည့် နောက်ဆက်တွဲ ဃ တွင် သတ်မှတ်ထားသော ကိစ္စရပ်များကို ဆိုလိုသည်။

"ကုန်သွယ်ခွင့် ခွင့်ပြုမိန့်" ဆိုသည်မှာ မြန်မာနိုင်ငံတွင် နိုင်ငံခြား ရင်းနှီးမြှုပ်နှံထားသည့် ကုမ္ပဏီ တစ်ခု အနေနှင့် ကုမ္ပဏီ က ဆက်လက်ဆောင်ရွက်ရေး အတွက် DICA က ထုတ်ပေးထားသည့် အမြဲတမ်း အထွေထွေ လုပ်ငန်း လိုင်စင် ကို ဆိုလိုခြင်း ဖြစ်သည်။

"ပုဂ္ဂိုလ်" ဆိုသည်မှာ တစ်စုံတစ်ဦး၊ တစ်ဦးတစ်ယောက် ကိုဆိုလိုပြီး အဆိုပါစကားရပ်တွင် ကုမ္ပဏီ၊ အသင်းအဖွဲ့၊ စာချုပ်ချုပ်ဆိုသူ၊ အဖွဲ့တို့ပါဝင်သည်။

"စီမံကိန်း" ဆိုသည်မှာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ကုမ္ပဏီ တည်ထောင်ခြင်း၊ စာချုပ်ချုပ်ဆိုသူများက ကုမ္ပဏီတွင် ထုတ်ပေးထားသည့် ရှယ်ယာ တန်ဖိုးမတည်ငွေကို ထည့်ဝင် ခြင်းနှင့် လုပ်ငန်းဆောင်ရွက်ရန် လိုအပ်သည့် ပြုဖွယ် ဆောင်တာများအား စတင်ခြင်းနှင့် လုပ်ငန်း လည်ပတ်ခြင်း တို့ကို ဆိုလိုခြင်း ဖြစ်သည်။

"စီမံကိန်းဆိုင်ရာသဘောတူစာချုပ်များ" ဆိုသည်မှာ အပိုဒ် ၂.၅ တွင်သတ်မှတ်ထားသည့် အဓိပ္ပာယ် သတ်မှတ်ချက်အတိုင်း ဖြစ်သည်။

"Puma ၏မတည်ငွေထည့်ဝင်မှု" ဆိုသည်မှာ အပိုဒ် ၄.၃ တွင်သတ်မှတ်ထားသည့် အဓိပ္ပာယ် သတ်မှတ်ချက်အတိုင်း ဖြစ်သည်။

"Puma ဒါရိုက်တာ" ဆိုသည့်စကားရပ်သည် အပိုဒ် ၇.၁.၂ တွင် ဖော်ပြထားသည့် အနက်အဓိပ္ပာယ် ရှိသည်။

"လက်ခံရရှိသည့် စာချုပ်ချုပ်ဆိုသူ" ဆိုသည်မှာ အသိပေးသည့် စာချုပ်ချုပ်ဆိုသူထံမှ လျှို့ဝှက်သတင်းအချက်အလက်များအား လက်ခံရရှိသည့် စာချုပ်ချုပ်ဆိုသူကို ဆိုလိုခြင်း ဖြစ်သည်။

"သက်ဆိုင်သည့် အာဏာပိုင်များ" ဆိုသည်မှာ မြန်မာနိုင်ငံတွင် ပြုလုပ်သည့် မည်သည့် လုပ်ရပ်မဆို သို့မဟုတ် ဆောင်ရွက်သည့် မည်သည့်ပြုဖွယ်ဆောင်တာမဆို တို့နှင့် ပတ်သက်၍ထိုသို့သောလုပ်ရပ်ကိုပြုမူခြင်း သို့မဟုတ် ထိုသို့သော ပြုဖွယ်ဆောင်တာကို ဆောင်ရွက်ခြင်းတို့အပေါ် တာဝန်သော်လည်းကောင်း၊ ထိန်းသိမ်းရန် အာဏာအပ်နှင်းထားသည့်အာဏာ သို့မဟုတ် ထိန်းချုပ်မှုသော်လည်းကောင်း၊ သို့မဟုတ် နစ်ရပ်စလုံး သော်လည်းကောင်းပိုင်ဆိုင်ထားသည့်မြန်မာနိုင်ငံရှိအစိုးရအဖွဲ့အစည်းဆိုင်ရာ အာဏာပိုင် (သို့မဟုတ် အာဏာပိုင်များ) သို့မဟုတ် ဝန်ကြီးဌာန (သို့မဟုတ် ဝန်ကြီး ဌာနများ) ကို ဆိုလိုခြင်း ဖြစ်သည်။

"ကိုယ်စားပြုသည့် စာချုပ်ချုပ်ဆိုသူ" ဆိုသည့် စကားရပ်သည် အပိုဒ် ၅ တွင် ဖော်ပြထားသည့် အနက်အဓိပ္ပာယ် ရှိသည်။

"ဒုတိယကြိုတင်စည်းကမ်းသတ်မှတ်ချက်များ" ဆိုသည်မှာ အပိုဒ် ၄.၄ နှင့်အညီ Puma ၏ မတည်ငွေထည့်ဝင်မှုပြုလုပ်ရာတွင်ကျန်ရှိသောမတည်ငွေပမာဏကိုထည့်ဝင်ရန်အတွက် သတ်မှတ်သည့် အောက်ပါစည်းကမ်းသတ်မှတ်ချက်များကိုဆိုသည်။

(က) အပိုဒ် ၄.၅ နှင့်အညီ ဖြည့်ဆည်းဆောင်ရွက်ရန်စွန့်လွှတ်ထားသော ပထမ ကြိုတင်စည်းကမ်း သတ်မှတ်ချက်များကို ဖြည့်ဆည်းဆောင်ရွက်ခြင်း၊ နှင့်

(ခ) စီးပွားရေးလုပ်ငန်းနှင့်စပ်လျဉ်း၍ အရေးပါသောပြောင်းလဲမှုဖြစ်ရပ်တစ်ခုခု မပေါ်ပေါက်ခြင်း။

"အစုရှယ်ယာများ" ဆိုသည်မှာကုမ္ပဏီ၏ မတည်ငွေတွင် ရှိသည့် သာမန် အစု ရှယ်ယာများ ကို ဆိုလိုခြင်းဖြစ်ပြီး၊ ရှယ်ယာ ဆိုသည်မှာ မည်သည့် အစုရှယ်ယာကိုမဆို ခေါ်ဆိုခြင်း ဖြစ်သည်။

"ပိုင်ဆိုင်သည့် အစုရှယ်ယာပမာဏ ရာခိုင်နှုန်း" ဆိုသည့် စကားရပ်သည် အပိုဒ် ၄.၄.၁ တွင် ဖေါ်ပြထားသည့် အနက်အဓိပ္ပာယ် ရှိသည်။

"လက်အောက်ခံကုမ္ပဏီ" ဆိုသည်မှာ အပိုဒ် ၁.၇ တွင် ဖေါ်ပြထားသည့် အနက်အဓိပ္ပာယ် ရှိသည်။

"ထောက်ပံ့မှုဆိုင်ရာသဘောတူစာချုပ်"ဆိုသည်မှာ Puma Energy (သို့မဟုတ် Puma Energy ၏ အဖွဲ့ဝင်) က လုပ်ငန်းနှင့်စပ်လျဉ်းသည့် လောင်စာ လိုအပ်ချက်များအားလုံးကို ထောက်ပံ့ ပေးရန်အတွက် ကုမ္ပဏီနှင့် Puma Energy (သို့မဟုတ် Puma Energy ၏အဖွဲ့ဝင်) တို့အကြား လွတ်လပ်စွာ ချုပ်ဆိုသော စီးပွားရေးဆိုင်ရာသဘောတူစာချုပ်ကို ဆိုသည်။

"သက်တမ်း" ဆိုသည်မှာ အပိုဒ် ၂.၂ တွင် ဖော်ပြထားသည့် အနက်အဓိပ္ပာယ် အတိုင်း ဖြစ်သည်။

"မထည့်ဝင်ရသေးသောအစုရှယ်ယာများ" ဆိုသည်မှာ အပိုဒ် ၄.၄.၅ တွင် ဖော်ပြထားသည့် အနက်အဓိပ္ပာယ်အတိုင်းဖြစ်သည်။

၁.၂။ နောက်ဆက်တွဲများသည် ဤ သဘောတူစာချုပ်၏ အစိတ်အပိုင်းအဖြစ် ဖွဲ့စည်းထားပြီး၊ ဤ သဘောတူစာချုပ်၏ အဓိကအစိတ်အပိုင်းတွင် ဖေါ်ပြထားသကဲ့သို့ တူညီသည့် အာဏာနှင့်ထိရောက်မှုရှိရမည်ဖြစ်ပြီး၊ ဤသဘောတူစာချုပ်အတွက် ညွှန်းဆိုချက်တစ်ရပ်တွင် ဤကိစ္စနှင့်ပတ်သက်၍ နောက်ဆက်တွဲမှန်သမျှအတွက် ရည်ညွှန်းချက်တစ်ရပ် ပါဝင်သည်။

၁.၃။ ဤ သဘောတူစာချုပ်တွင် ပါဝင်သည့် ခေါင်းစဉ်များသည် ဤသဘောတူစာချုပ်၏ အနက် ဖွင့်ဆိုမှုကို အကျိုးသက်ရောက်မှု မရှိစေရ။

၁.၄။ ပြဌာန်းဥပဒေအရ ပြဌာန်းချက်တစ်ရပ်နှင့် စပ်လျဉ်းသည့် ရည်ညွှန်းမှု မှန်သမျှတွင် လက်ရှိအချိန်၌ ထိုပြဌာန်းချက်ကို ကျင့်သုံးရေးအတွက် ပြုပြင် ပြောင်းလဲမှု၊ ပေါင်းဆည်းမှု သို့မဟုတ် ပြန်လည်ပြဌာန်းမှု မှန်သမျှနှင့် ပတ်သက်သည့် ရည်ညွှန်းချက်တစ်ရပ် ပါဝင်ရမည် ဖြစ်ပြီး၊ ထို ပြဌာန်းချက်အနေဖြင့် ပြဌာန်းဥပဒေအရ တရားဝင်စာချုပ်စာတမ်းများ သို့မဟုတ် အမိန့်များ အားလုံးတို့နှင့် ကိုက်ညီစေရမည်။

၁.၅။ ဤသဘောတူစာချုပ်တွင် (ယင်း၏ နောက်ဆက်တွဲများ အပါအဝင်) ဆက်စပ်စဉ်းစားရမည့် အကြောင်းအရာသည် တစ်နည်းတစ်ဖုံ လိုအပ်ခဲ့မည် မဟုတ်ပါက၊ ဧကပုစ်နှင့် ဖေါ်ပြသည့် စကားလုံးများတွင် ဗဟုပုစ် ပါဝင်သလို ဗဟုပုစ်တွင် ဧကပုစ် အပြန်အလှန် ပါဝင်ရမည်ဖြစ်ပြီး လိင်တစ်မျိုးကို ဖေါ်ပြသည့် စကားလုံးတွင် အခြားလိင်ကို လည်း ပါဝင်ရမည်။

၁.၆။ ဤသဘောတူစာချုပ်တွင် "ပေးသွင်းပြီးဖြစ်သည့်" အစုရှယ်ယာများအတွက် ရည်ညွှန်းချက်မှန်သမျှသည် ကုမ္ပဏီ၏သက်ဆိုင်သည့် အစည်းအဝေး အတွက် စည်းဝေးပွဲ ကြေညာသည့် ရက်စွဲတွင် အစုရှယ်ယာများကို ပေးသွင်းရမည်ဆိုသည့် ကုမ္ပဏီက တောင်းဆိုသည့် ပမာဏကို ရည်ညွှန်းရမည်။

၁.၇။ ပုဂ္ဂိုလ်တစ်ဦးသည်

(က) ကုမ္ပဏီတစ်ခုတွင် ပိုင်ဆိုင်သည့်ရှယ်ယာပမာဏအလိုက်မဲပေးနိုင်သည့်အခွင့်အရေး (majority of the voting rights) ကို ပိုင်ဆိုင်ထားလျှင်၊ သို့မဟုတ်

(ခ) အဆိုပါ ကုမ္ပဏီအဖွဲ့ဝင်တစ်ဦးဖြစ်ပြီး ကုမ္ပဏီ၏ဒါရိုက်တာဘုတ်အဖွဲ့ဝင်အများစုအား ခန့်အပ် သို့မဟုတ် ဖယ်ရှားနိုင်သည့် အခွင့်အရေးကို ပိုင်ဆိုင်ထားလျှင်၊ သို့မဟုတ်

(ဂ) အဆိုပါ ကုမ္ပဏီ၏အဖွဲ့ဝင်တစ်ဦးဖြစ်ပြီး အခြားအစုရှယ်ယာရှင်များ သို့မဟုတ် အဖွဲ့များ၏ သဘောတူညီချက်နှင့်အညီ ကုမ္ပဏီအား တစ်ဦးတည်းဦးစီးကွပ်ကဲကာ ပိုင်ဆိုင်သည့် ရှယ်ယာ ပမာဏအလိုက် မဲပေးနိုင်သည့် အခွင့်အရေး (majority of the voting rights) ကို ပိုင်ဆိုင် ထားလျှင်၊ သို့မဟုတ်

(ဃ) အခြားပုဂ္ဂိုလ်တစ်ဦး၏လက်အောက်ခံကုမ္ပဏီ၏ လက်အောက်ခံကုမ္ပဏီဖြစ်လျှင်၊

ကုမ္ပဏီသည် အဆိုပါပုဂ္ဂိုလ် (၎င်း၏ စီမံကွပ်ကဲသည့်ပုဂ္ဂိုလ်) ၏ လက်အောက်ခံ ကုမ္ပဏီဖြစ်သည်။

(င) လက်အောက်ခံကုမ္ပဏီတွင် ပုဂ္ဂိုလ်တစ်ဦးနှင့်အခြားပုဂ္ဂိုလ်တစ်ဦးအပြည့်အဝ ပိုင်ဆိုင်သည့် လက်အောက်ခံကုမ္ပဏီများမှအပ အခြားမည်သည့်အဖွဲ့ဝင်မှမရှိလျှင် အဆိုပါ လက်အောက်ခံ ကုမ္ပဏီသည် အဆိုပါပုဂ္ဂိုလ်အပြည့်အဝပိုင်ဆိုင်သော လက်အောက်ခံ ကုမ္ပဏီဖြစ်သည်။

## ၂။ ဖက်စပ်လုပ်ငန်းဆိုင်ရာ နယ်ပယ်နှင့် လုပ်ငန်း၏ရည်ရွယ်ချက်

၂.၁။ ဤစာချုပ်တွင် ဖော်ပြထားသည့် စည်းမျဉ်းများနှင့် သတ်မှတ်ချက်များ အရ နှင့် စာချုပ်ချုပ်ဆိုသူများသည် စီးပွားရေးလုပ်ငန်းဆောင်ရွက်ရန်ရည်ရွယ်လျက် စီမံကိန်းကို ဆောင်ရွက်လိုပါသည်။ ဤသဘောတူစာချုပ်နှင့်အညီ ပြုစုကာ လက်ခံကျင့်သုံးရမည့် ကိုယ်ပိုင်မူဝါဒများ၊ လုပ်ထုံးလုပ်နည်းများနှင့် ပုဂ္ဂလိကလုပ်ငန်းအဖြစ် သီးခြား လွတ်လပ်စွာ ရပ်တည်သည့်အဖွဲ့အစည်းကို တည်ထောင်ဆောင်ရွက်ရန် စာချုပ်ချုပ်ဆိုသူများက ရည်ရွယ်ထားပါသည်။ MPPE သို့မဟုတ် MPPE အဖွဲ့ဝင်က ကုမ္ပဏီ၏ အစုရှယ်ယာကို ပိုင်ဆိုင်ထားသောကြောင့် ကုမ္ပဏီသည် မြန်မာနိုင်ငံ၏ နိုင်ငံပိုင်စီးပွားရေးလုပ်ငန်းများ

လိုက်နာရမည့် မူဝါဒများ၊ လုပ်ထုံးလုပ်နည်းများ သို့မဟုတ် လိုအပ်ချက်များကို လိုက်နာဆောင်ရွက်ရန် မလိုအပ်ကြောင်း MPPE က ကိုယ်စားပြုလျက် အာမခံပါသည်။

၂.၂။ ကုမ္ပဏီ၏သက်တမ်းသည် ဤသဘောတူစာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့ရက်မှ စတင်၍ နှစ်ပေါင်း သုံးဆယ် (၃၀) အထိဖြစ်သည်။ သက်တမ်းကုန်ဆုံးချိန်တွင် ကုမ္ပဏီသည် MIC ခွင့်ပြုမိန့်သက်တမ်းတိုးရန်အတွက် လျှောက်ထားဆောင်ရွက်မည်ဖြစ်ကြောင်း နှင့် အခြား သဘောတူခွင့်ပြုချက်များအားလုံးကို အနည်းဆုံး ထပ်မံ ၁၀ နှစ်ကာလ သက်တမ်းရရှိရန် (သက်တမ်းတိုးကာလ) အတွက် ကြိုးပမ်းဆောင်ရွက်မည်ဖြစ်ကြောင်း စာချုပ်ချုပ်ဆိုသူများကသဘောတူကြပါသည်။ ခွင့်ပြုမိန့်အားထပ်မံသက်တမ်းတိုးခွင့် မရရှိပါက စာချုပ်ချုပ်ဆိုသူများသည် ဤသဘောတူစာချုပ်အား ဖျက်သိမ်းရန်၊ ကုမ္ပဏီအား ဖျက်သိမ်းရန် နှင့် ဖက်စပ်လုပ်ငန်းဘောတူစာချုပ်အသစ်ချုပ်ဆိုခြင်းနှင့်စပ်လျဉ်း၍ သဘောရိုးနှင့် ညှိနှိုင်းဆောင်ရွက်ရန် နှင့် စီးပွားရေးလုပ်ငန်းနှင့်စပ်လျဉ်း၍ MIC ၏ခွင့်ပြုမိန့်အတွက် လျှောက်လွှာ အသစ် တင်သွင်းရန် သဘောတူကြပါသည်။

၂.၃။ ကုမ္ပဏီသည် MIC ၏ ခွင့်ပြုချက်နှင့် ကုန်သွယ်ခွင့် ခွင့်ပြုမိန့်တို့ဖြင့် ၂၀၁၂ ခုနှစ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေအပါအဝင် မြန်မာနိုင်ငံ၏ဥပဒေများနှင့်အညီ ဖွဲ့စည်းတည်ထောင်သည့် ကုမ္ပဏီတစ်ခု ဖြစ်ရမည်။ စာချုပ်ချုပ်ဆိုသူများက ယင်းတို့၏ ရည်ရွယ်ချက်များအား အကောင်အထည်ပေါ်စေရန်နှင့် ကုမ္ပဏီ၏အရေးကိစ္စရပ်များ နှင့် ကုမ္ပဏီ၏အစုရှယ်ယာရှင်များအနေနှင့် သဘောတူညီချက်များနှင့်ပတ်သက်၍ ယင်းတို့၏ သက်ဆိုင်ရာရပိုင်ခွင့်များနှင့်ကုမ္ပဏီ၏အရေးကိစ္စများကိုဤသဘောတူစာချုပ်၏စည်းမျဉ်းများနှင့်သတ်မှတ်ချက်များနှင့်အညီ မှတ်တမ်းတင်ရန်နှင့် စည်းမျဉ်းစည်းကမ်းဖြင့် ထိန်းချုပ်ရန် ဤသဘောတူစာချုပ်ကို ချုပ်ဆိုကြကြောင်း သဘောတူကြပါသည်။

၂.၄။ကုမ္ပဏီသည်စီးပွားရေးလုပ်ငန်းဆောင်ရွက်ရေးရာကိုသာ၎င်း၏အဓိကရည်ရွယ်ချက်အဖြစ် သတ်မှတ်ထားကြောင်း စာချုပ်ချုပ်ဆိုသူများက သဘောတူကြပါသည်။

၂.၅။ ကုမ္ပဏီကို ဤစာချုပ်၏ အပိုဒ် ၃.၂ ပါ သက်ဆိုင်သည့် စည်းမျဉ်းများနှင့် သတ်မှတ်ချက်များနှင့်အညီ တည်ထောင်ရာတွင် အစုရှယ်ယာရှင်များသည် ကုမ္ပဏီက လုပ်ငန်းနှင့်စပ်လျဉ်း၍ စာချုပ်ချုပ်ဆိုသူများသတ်မှတ်ထားသော ချုပ်ဆိုရန်လိုအပ်သည့် သဘောတူစာချုပ် (များ) (၄င်းတို့ကိုစုပေါင်း၍ "စီမံကိန်းသဘောတူစာချုပ်များ" ဟု ခေါ်မည်) အား ချက်ချင်းချုပ်ဆိုရန် ဆောင်ရွက်ရမည်။ အဆိုပါစီမံကိန်းသဘောတူစာချုပ် (များ)တွင် သက်ဆိုင်ရာအာဏာပိုင်များ နှင့် စာချုပ်ချုပ်ဆိုသူများ (ကုမ္ပဏီ၏ကိုယ်စား) အကြား နောက်ဆုံးညှိနှိုင်းရန်နှင့်သဘောတူဆောင်ရွက်ရမည့်လုပ်ငန်းဆိုင်ရာ နောက်ဆုံး သတ်မှတ်ချက်များ၊ စည်းကမ်းသတ်မှတ်ချက်များ၊ ပြဋ္ဌာန်းချက်များကို သတ်မှတ်ဖော်ပြ

ရမည်။ သဘောတူသတ်မှတ်ထားသည့် စီမံကိန်းသဘောတူစာချုပ်များ စာရင်းကို နောက်ဆက်တွဲ (ခ)ကို ရှုပါ။

၃။ ကုမ္ပဏီကို တည်ထောင်ခြင်း

၃.၁။ ကုမ္ပဏီ၏ ဖွဲ့စည်းပုံ

ကုမ္ပဏီ၏ ဖွဲ့စည်းပုံသည် အောက်ပါအတိုင်း ဖြစ်ရမည်။

| | |
|---|---|
| (က) ဖွဲ့စည်းပုံ | အစုရှယ်ယာများနှင့် ကန့်သတ်ထား သည့် ကုမ္ပဏီ (အကန့်အသတ်နှင့် ပေးရန်တာဝန်ရှိသည့် ကုမ္ပဏီ) |
| (ခ) အမည် | National Energy and Puma Aviation Services Co., Ltd |
| (ဂ) မှတ်ပုံတင်ထားသည့်ရုံး | စာချုပ်ချုပ်ဆိုသူများက သဘောတူထားသည့်အတိုင်း မြန်မာနိုင်ငံရှိအဆိုပါနေရာတွင် |
| (ဃ) အခြေခံ ရည်မှန်းချက်နှင့် ရည်ရွယ်ချက် | စီးပွားရေးလုပ်ငန်းကို ဆောင်ရွက်ရန် |
| (င) ခွင့်ပြု မတည်ငွေ | US$ 51,020,408 ရှယ်ယာတစ်ခုကို US$1,000.00 (USD ONE THOUSAND) နှင့် ညီမျှသည့် မြန်မာကျပ် နှင့်တန်းတူ မူရင်းတန်ဖိုး တစ်ရပ် ရှိသည့် အစု ရှယ်ယာ တစ်ခုစီ အပေါ် အခြေပြု၍ ထိုသို့သော ရှယ်ယာ အရေအတွက်ကို ခွဲဝေထား သည်။ ( (၁) ရှိသည့် ငွေလဲနှုန်းကို အခြေခံ၍ US$1.00 ဒေါ်လာ နှင့် ညီမျှသည့် မြန်မာကျပ်။) |
| (စ) စည်းမျဉ်းများ | ဤသဘောတူစာချုပ်၏ ပြဋ္ဌာန်းချက်များနှင့် ကိုက်ညီရမည့်အပြင် ပုံသဏ္ဍာန်နှင့် အနှစ်သာရတွင် အဖွဲ့အစည်းများ ကျေနပ်မည့် မူကြမ်းကို ရေးဆွဲရမည်။ |
| (ဆ) ကနဦး ရင်းနှီးမြှုပ်နှံမှု | US$ 51,020,408 နှင့် |
| (ဇ) ကနဦး ရှယ်ယာမတည်ငွေ | US$ 51,020,408 |

၃.၂။ ကုမ္ပဏီ ဖွဲ့စည်းခြင်း

စာချုပ်ချုပ်ဆိုသူများသည် လက်တွေ့ဆောင်ရွက်နိုင်သည်နှင့် တစ်ပြိုင်နက် ကုမ္ပဏီ တည်ထောင်ခြင်းနှင့် ဖွဲ့စည်းခြင်းတို့ကို ဆက်လက်ဆောင်ရွက်ရမည်။ လုပ်ငန်း လည်ပတ်ရေး လိုင်စင်(များ)၊ ကုန်သွယ်ခွင့် ခွင့်ပြုမိန့်၊ ကုမ္ပဏီ ဖွဲ့စည်းတည်ထောင် ခြင်းဆိုင်ရာ လက်မှတ်၊ ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်ခြင်းဆိုင်ရာ နောက်ဆုံး လက်မှတ်နှင့် MIC ခွင့်ပြုချက် စသည်တို့ကို လျှောက်ထားရမည်။

၃.၃။ ဒေသခံ မှတ်ပုံတင်ခြင်းဆိုင်ရာ လိုအပ်ချက်များကို လေးစားလိုက်နာခြင်း

ကုန်သွယ်ခွင့် ခွင့်ပြုမိန့်နှင့် အခြားသော ကုမ္ပဏီ ဖွဲ့စည်းခြင်းနှင့် တည်ထောင်ခြင်း ဆိုင်ရာ လိုအပ်သည့် သဘောတူညီချက်များအား ရယူရေးအတွက် လိုအပ်ချက်များနှင့် လုပ်ထုံး လုပ်နည်းများကို လိုက်နာရန်နှင့်၊ မြန်မာနိုင်ငံတွင် ဖွင့်လှစ်ထားသည့် ဘဏ်စာရင်းတစ်ရပ် (သတ်မှတ်ထားသည့် ငွေစာရင်း) အတွင်းသို့ကုမ္ပဏီ ဖွဲ့စည်းခြင်းဆိုင်ရာ လက်မှတ် ထုတ်ပေးသည့် နေ့မှ ရက်ခြောက်ဆယ် (၆၀) အတွင်း (အကယ်၍ အခြားနည်းဖြင့် စာချုပ်ချုပ်ဆိုသူများက သဘောမတူခဲ့မှသာ ထိုသို့သောနေ့သည် ပထမကြိုတင် စည်းကမ်းသတ်မှတ်ချက်များကိုဖြည့်ဆည်းဆောင်ရွက်ပြီးသည့် သို့မဟုတ် စွန့်လွှတ်သည့် ရက်စွဲထက် မစောစေရ) DICA သို့လွှဲပြောင်းပေး ငွေပမာဏကို ပေးပို့ရန် (ယင်းကိစ္စနှင့် ပတ်သက်၍ ဘဏ်စာရင်း ပိုင်ဆိုင်သူသည် ကုမ္ပဏီ ဖြစ်ရမည် ဖြစ်ပြီး ဘဏ်စာရင်းအား ခွင့်ပြုထားသည့် လက်မှတ်ရေးထိုးသူများ ကို ဘုတ်အဖွဲ့က ဆုံးဖြတ်ရမည်။ သို့ရာတွင် အဆိုပါခွင့်ပြုထားသည့် လက်မှတ်ရေးထိုးသူ အနည်းဆုံးတစ်ဦးသည် Puma Energy ဒါရိုက်တာ ဖြစ်ရမည်ဖြစ်ပြီး အဆိုပါခွင့်ပြုထား သည့် လက်မှတ်ရေးထိုးသူတစ်ဦးသည် MPPE ဒါရိုက်တာဖြစ်ရမည်ဖြစ်ကာ ၎င်းတို့ နှစ်ဦးစလုံး၏လက်မှတ်များသည် မပါမဖြစ် လိုအပ်သည် ။) စသည်တို့ အပါအဝင် စာချုပ် ချုပ်ဆိုသူများသည် စိတ်ရင်း စေတနာ မှန်ဖြင့် အချင်းချင်း ဆွေးနွေးတိုင်ပင်၍ ပူးပေါင်း ဆောင်ရွက်ရမည်။ ပထမကြိုတင် စည်းကမ်း သတ်မှတ်ချက်များကိုဖြည့်ဆည်း ဆောင်ရွက်ပြီးသည့် သို့မဟုတ် စွန့်လွှတ် သည့် ရက်စွဲကျရောက်ပြီးနောက် လက်တွေ့ ဆောင်ရွက်နိုင်သည်နှင့်တစ်ပြိုက်နက်၊ ကုမ္ပဏီဖွဲ့စည်းမှုဆိုင်ရာ နောက်ဆုံးလက်မှတ် ရရှိရေးအတွက် လိုအပ်ချက်များနှင့် လုပ်ထုံးလုပ်နည်းများအားလုံးကို လိုက်နာရန် စာချုပ်ချုပ်ဆိုသူများသည် စိတ်ရင်းစေတနာ မှန်ဖြင့် အချင်းချင်း ပူးပေါင်းဆောင်ရွက်ရမည်။

၃.၄။ ကုမ္ပဏီမဖွဲ့စည်းမီ အသုံးစရိတ်များနှင့် အခြား ကုန်ကျစရိတ်များနှင့် အသုံးစရိတ်များ

စာချုပ်ချုပ်ဆိုသူများသည်အောက်ပါကုမ္ပဏီမဖွဲ့စည်းမီအသုံးစရိတ်များကို၎င်းတို့ပိုင်ဆိုင် သည့် အစု ရှယ်ယာပမာဏရာခိုင်နှုန်းနှင့်အချိုးညီစွာ ပေးဆောင်ရမည်။

(၁) ကုမ္ပဏီ တည်ထောင်ခြင်းနှင့် ဖွဲ့စည်းခြင်း နှင့် MIC ခွင့်ပြုချက် ရယူခြင်းအပြင်၊ အခြား သက်ဆိုင်သည့်အာဏာပိုင်များ တို့ထံမှ လိုအပ်သည့် ခွင့်ပြုချက်များနှင့် ပါမစ်များအားလုံး တို့နှင့် ပတ်သက်သည့် ကုန်ကျစရိတ်များနှင့် အသုံးစရိတ် များ နှင့်

(၂) စာချုပ်ချုပ်ဆိုသူများက ကြိုတင်၍ စာဖြင့်ရေးသားသဘောတူထားခဲ့သည့် ဤစာချုပ်တွင် ဖော်ပြမထားသော အခကြေးငွေမှန်သမျှ

ဤသဘောတူစာချုပ်နှင့်စပ်လျဥ်းသည့် ဇေ့စပ်ဆွေးနွေးမှုများ၊ ပြင်ဆင်မှု များနှင့် အတည်ပြုဆောင်ရွက်ခြင်းတို့နှင့်ပတ်သက်၍ ကျခံရသည့် မိမိကိုယ်ပိုင် ကုန်ကျစရိတ်များနှင့် အသုံး စရိတ်များတို့အတွက် စာချုပ်ချုပ်ဆိုသူတစ်ဦးစီက တာဝန်ယူရမည်။

၃.၅။ ကုမ္ပဏီ၏အမည်

ကုမ္ပဏီ၏ အမည်သည် National Energy and Puma Aviation Services Co., Ltd သို့မဟုတ် စာချုပ်ချုပ်ဆိုသူများ အပြန်အလှန် သဘောတူထားပြီး သက်ဆိုင်သည့် အာဏာပိုင်က ခွင့်ပြုထား သည့် အခြားအမည်ဖြစ်ရမည်။

၃.၆။ အမြတ်ဝေစုခွဲဝေခြင်း

ဘဏ္ဍာနှစ်တစ်နှစ်စီတွင် ဘုတ်အဖွဲ့ နှင့် အစုရှယ်ယာရှင်များက သင်းလုံးကျွတ်အစည်းအဝေးတွင် အခြားနည်းသဘောတူထားခြင်းမရှိလျှင် မြန်မာနိုင်ငံ၏သက်ဆိုင်ရာ ဥပဒေများနှင့်အညီ ကုမ္ပဏီသည် သီးသန့်ရန်ပုံငွေ (Statutory reserves) အား သီးသန့်ချန်ထားပြီးနောက်ကုမ္ပဏီ၏အခွန်ပေးဆောင်ပြီး ကျန်ရှိသည့်အသားတင်အမြတ်ငွေ၏ ခုနစ်ဆယ့်ငါးရာခိုင်နှုန်း (၇၅ %) ခန့်၏ အမြတ်ဝေစုကို အစုရှယ်ယာရှင်များအားလုံးအား ခွဲဝေပေးမည့် အမြတ်ဝေစုအဖြစ် ကြေညာရန် ဆောင်ရွက်ရမည်။ သို့ရာတွင် ငွေကြေးစီးဆင်းမှု၊ ကုမ္ပဏီ၏မတည်ငွေလိုအပ်ချက်များ၊ အကြွေးများအားလုံးပြန်လည် ပေးဆပ်နိုင်မှုနှင့်အခြားတာဝန်များလိုက်နာဆောင်ရွက်နိုင်မှုတို့ကဲ့သို့သောအချက်များကိုထည့်သွင်းစဥ်းစားလျက် အစုရှယ်ယာရှင်များကို အမြတ်ဝေစုများပေးအပ်ရန် ကုမ္ပဏီတွင် ငွေကြေးအလုံအလောက်ရှိသည်ဟု ဒါရိုက်တာဘုတ်အဖွဲ့က သတ်မှတ်ရမည်။ အမြတ်ဝေစုအားလုံးကို အဆိုပါအမြတ်ဝေစုများအားကြေညာသည့်အချိန်တွင် အစုရှယ်ယာရှင်များအား ၄င်းတို့၏ သက်ဆိုင်ရာပိုင်ဆိုင်သည့် အစုရှယ်ယာပမာဏ ရာခိုင်နှုန်းအလိုက်ချက်ချင်းပေးချေရမည်ဟု အစုရှယ်ယာရှင်များအားလုံးက တညီတညွတ်တည်း သဘောမတူထားကြလျှင် အမြတ်ဝေစုအားလုံးအား ပေးချေရာတွင် မြန်မာနိုင်ငံ၏ သက်ဆိုင်ရာဥပဒေများနှင့်အညီ ကုမ္ပဏီက ပေးဆောင်ရန်လိုအပ်သည့် အခွန်များကို နုတ်ရမည်။

၄။ ကနဦး ရှယ်ယာတန်ဖိုး ရင်းနှီးမြှုပ်နှံမှုနှင့် ရှယ်ယာမတည်ငွေ

၄.၁။ ကနဦး ရှယ်ယာတန်ဖိုး ရင်းနှီးမြှုပ်နှံမှု

စီမံကိန်းအတွက် လိုအပ်သည့် ကနဦးရှယ်ရာတန်ဖိုး ရင်းနှီးမြှုပ်နှံမှုသည် US$ 51,020,408 (Fifty one million, twenty thousand, four hundred and eight

အမေရိကန် ဒေါ်လာ) (**ကနဦး ရင်းနှီးမြှုပ်နှံမှု**) ဖြစ်ကြောင်း စာချုပ်ချုပ်ဆိုသူများက အသိအမှတ်ပြုကြသည်။ အဆိုပါရင်းနှီးမြှုပ်နှံမှု တွင် အပိုဒ် ၄.၂ နှင့် ၄.၃ တွင်အသေးစိတ်ဖော်ပြထားသည့်အတိုင်း MPPE နှင့် Puma Energy တို့ ထည့်ဝင်ကြမည့် သိသာထင်ရှားသောငွေကြေးထည့်ဝင်မှုတို့ ပါဝင်ပါသည်။

သတ်မှတ်မတည်ငွေရင်းသည် US$ 51,020,408 (Fifty one million, twenty thousand, four hundred and eight အမေရိကန် ဒေါ်လာ) ဖြစ်ရမည်။

ကနဦးရှယ်ယာမတည်ငွေသည် US$ 51,020,408 (Fifty one million, twenty thousand, four hundred and eight အမေရိကန် ဒေါ်လာ) ဖြစ်ရမည်။ ကနဦးရှယ်ယာမတည်ငွေသည် စာချုပ်ချုပ်ဆိုသူများ၏ ကနဦးပေးသွင်းသည့် မတည် ပိုင်ဆိုင်မှုပစ္စည်း သို့မဟုတ် ငွေသား နှင့်ညီမျှ ရမည်။

၄.၂။ MPPE က ထည့်ဝင်ခြင်း

၄.၂.၁။ အပိုဒ် ၄.၅ အရ MPPE သည် ဤစာချုပ်၏ အပိုဒ် ၄.၄ နှင့်အညီ ယခင်ပေးရန်တာဝန်များမပါဝင်ဘဲ (ကုမ္ပဏီသို့ အခြေပစ္စည်းများ လွှဲပြောင်းပေးအပ်ခြင်းနှင့် မြေငှားစာချုပ်များချုပ်ဆိုရန် ကြိုးပမ်းဆောင်ရွက်ခြင်းတို့အပါအဝင်) US$ 26,020,408 တန်ဖိုးရှိ လက်ရှိစီးပွားရေးလုပ်ငန်း၏ အခြေပစ္စည်းများအား ကုမ္ပဏီတွင် ထည့်ဝင်မည် ဖြစ်ပြီး မြေအသုံးချခွင့်ကိုလည်း ကုမ္ပဏီအားပေးအပ်မည် ဖြစ်သည်။ ၄င်း၏ ထည့်ဝင်မှု အတွက် MPPE သည် အပြည့်အဝထည့်ဝင်ပြီးရှယ်ယာအဖြစ် ကနဦးရှယ်ယာမတည်ငွေ၏ ၅၁ % ကိုပိုင်ဆိုင်ရမည်။ မြေငှားစာချုပ်များနှင့်အညီ ကုမ္ပဏီက ပေးချေရမည့် မြေငှားရမ်းခများကို ကုမ္ပဏီနှင့် မြေပေါ်အခွင့်အရေးပိုင်ဆိုင်ထားသူအကြား ညှိနှိုင်း ဆောင်ရွက်ရမည်။

၄.၂.၂။ MPPE သည် အထက်ပါအပိုဒ် ၄.၂.၁ အရ အခြေပစ္စည်းများလွှဲပြောင်းပေးအပ်ခြင်း နှင့် ၄င်းတို့၏ တာဝန်ဝတ္တရားများကိုဆောင်ရွက်ခြင်းဆိုင်ရာ အခွန်အခများအားလုံးနှင့် ကုန်ကျစရိတ်များအားလုံးကို တစ်ဦးတည်းကျခံဖြေရှင်းဆောင်ရွက်ရမည်။

၄.၂.၃။ MPPE သည် ကုမ္ပဏီ သို့မဟုတ် Puma Energy သို့မဟုတ် ၄င်း၏အဖွဲ့ဝင် ကုမ္ပဏီတစ်ခုခုအား အဆိုပါထည့်ဝင်ထားသောအခြေပစ္စည်းများနှင့် စပ်လျဉ်း၍ အဆိုပါ အခြေပစ္စည်းများအားကုမ္ပဏီသို့လွှဲပြောင်းခြင်းမပြုမီ ဖြစ်ပွားလျက်ရှိသော (သမိုင်းကြောင်း ဆိုင်ရာ တောင်းဆိုချက်) တတိယပုဂ္ဂိုလ်အဖွဲ့အစည်းများက တောင်းဆိုခြင်း (အခွန် တောင်းခံချက်များ အပါအဝင်) အတွက် Puma Energy အား လျော်ကြေး ပေးရမည်။

၄.၂.၄။ ကုမ္ပဏီ သို့မဟုတ် Puma Energy သည် သမိုင်းကြောင်းဆိုင်ရာ တောင်းဆိုချက် တစ်ရပ်ရပ်အားသိရှိပါက သမိုင်းကြောင်းဆိုင်ရာတောင်းဆိုချက် တစ်ရပ်နှင့် စပ်လျဉ်းသည့်

အရေးပါသောဖြစ်ရပ်အားလုံးအား MPPE သို့အကြောင်းကြားရမည်ဖြစ်ကာ MPPE က ကျိုးကြောင်းဆီလျော်မှုမရှိဘဲပေးရန်ငြင်းဆန်မည်မဟုတ်သောသို့မဟုတ်ပေးရန်နှောင့်နှေးမည်မဟုတ်သော စာဖြင့်ရေးသားထားသည့် သဘောတူညီချက်မပါဘဲ အဆိုပါ သမိုင်းကြောင်းဆိုင်ရာ တောင်းဆိုချက် နှင့် စပ်လျဉ်းသည့် ပေးရန်တာဝန်ရှိကြောင်း ဝန်ခံခြင်း၊ သဘောတူညီချက်ပြုလုပ်ခြင်း သို့မဟုတ် ညှိနှိုင်းဆောင်ရွက်မှုတို့ မပြုလုပ်ရ။

၄.၃။ Puma Energy က ထည့်ဝင်သည့်ငွေ

၄.၃.၁ ။ အပိုဒ် ၄.၅ အရ Puma Energy သည် ဤ စာချုပ်၏ အပိုဒ် ၄.၄ နှင့်အညီ ထည့်ဝင်ငွေပေးသည့် အချိန်တွင် လက်ရှိဖြစ်နေသည့် ငွေလဲနှုန်း အရ US$ 25,000,000 (Twenty five million United States Dollars) အမေရိကန် ဒေါ်လာ) နှင့်ညီမျှသည့် ငွေသား ထည့်ဝင်ငွေတစ်ရပ် (Puma Energy ၏ ထည့်ဝင်သည့်ငွေ) အား ကုမ္ပဏီသို့ နစ်ရစ်ခွဲ၍ ထည့်ဝင်ရမည်။ Puma Energy သည် အမေရိကန်ဒေါ်လာ 15,000,000 နှင့်ညီမျှသည့် ၎င်း၏ ကနဦးမတည်ရင်းနှီးမြှုပ်နှံငွေထည့်ဝင်မှုအတွက် အပြည့်အဝထည့်ဝင်ပြီး ရှယ်ယာအဖြစ် ကနဦးရှယ်ယာမတည်ငွေ၏ ၄၉ % ကို ပိုင်ဆိုင်ရမည်။

၄.၃.၂။ DICA သို့လွှဲပြောင်းပေးငွေပမာဏမှအပ ငွေသား ထည့်ဝင်သည့်ငွေများကို ကုမ္ပဏီက ပုံမှန်လုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့် စင်ကာပူနိုင်ငံရှိငွေလွှဲငွေစာရင်း (သတ်မှတ်ထားသည့်စင်ကာပူငွေစာရင်း) တွင် ထားရှိရမည်။

၄.၄။ ကနဦး ရှယ်ယာ မတည်ငွေနှင့် နောက်ဆက်တွဲ ရှယ်ယာ ထုတ်ရောင်း ခြင်းများ

၄.၄.၁။ အောက်ပါ အပိုဒ် ၄.၅ အပါအဝင် MIC ခွင့်ပြုချက်၊ မြန်မာနိုင်ငံ ၏ ဥပဒေများ နှင့် ဤသဘောတူစာချုပ် စသည်တို့နှင့်စပ်လျဉ်းသည့် စည်းကမ်းချက်များအပေါ် မူတည်၍ စာချုပ်ချုပ်ဆိုသူများသည်ရှယ်ယာထည့်ဝင်မှုနောက်ဆုံးသတ်မှတ်ရက်တွင် အောက်ဖော်ပြပါ ယင်းတို့၏သက်ဆိုင်ရာအမည်များနှင့် စီစဉ်ထားသည့် သက်ဆိုင်ရာ အရေအတွက်ရှိသော အပြည့်အဝထည့်ဝင်ပြီး ရှယ်ယာများအတွက် ပေးဆောင်ရမည်။

| စာချုပ်ချုပ်ဆိုသူ | ရှယ်ယာအရေအတွက် | ပိုင်ဆိုင်သည့်ရှယ်ယာ ပမာဏ ရာခိုင်နှုန်း |
|---|---|---|
| Puma Energy မတည်ငွေ | (25,000) | ကနဦး ရှယ်ယာ မတည်ငွေ၏ (49%) |
| MPPE နှင့်/သို့မဟုတ် MPPE က ရွေးချယ်ခန့်အပ်ထားသူ (များ) | (26,020) | ကနဦး ရှယ်ယာ မတည်ငွေ၏ (51%)<br>(တစ်စုတစ်စည်းတည်းအနေနှင့် ကနဦး ရှယ်ယာ မတည်ငွေ၏ အနိမ့်ဆုံး ၅၁%) |

(စာချုပ်ချုပ်ဆိုသူတစ်ဦးချင်းတွင်၊ ပိုင်ဆိုင်သည့် အစုရှယ်ယာပမာဏ ရာခိုင်နှုန်း ရှိပြီး၊ စာချုပ်စတင် အသက်ဝင်သည့်ရက် ကျရောက်ပြီးသည့်နောက် အချိန်မရွေး သို့မဟုတ်

အခါအားလျော်စွာ ရှယ်ယာရှင် တစ်ဦးက ပိုင်ဆိုင်ထားသည့် ကုမ္ပဏီ၏ ရှယ်ယာများ၏ ရာခိုင်နှုန်းတွင် တစ်စုံတစ်ရာ ပြောင်းလဲမှု ရှိမည် ဆိုပါက၊ ဤ သဘောတူစာချုပ်တွင် ပိုင်ဆိုင်သည့် အစုရှယ်ယာ ပမာဏ ရာခိုင်နှုန်း ဆိုသည့် ဝေါဟာရ/အသုံးအနှုန်းသည် အစုရှယ်ယာရှင်တစ်ဦးက ပိုင်ဆိုင်ထားသည့် ကုမ္ပဏီ၏ ထိုအချိန်တွင် ရှိနေသည့် ရှယ်ယာများ၏ ရာခိုင်နှုန်းကို ဆိုလိုခြင်း သို့မဟုတ် ရည်ညွှန်းခြင်း ဖြစ်ရမည်ဖြစ်ပြီး အနီးစပ်ဆုံး ဒသမနေရာ နှစ်နေရာယူရမည်။) စာချုပ် ချုပ်ဆိုသူများသည် အထက် ဖေါ်ပြပါ အစုရှယ်ယာများအတွက် ထည့်ဝင်ငွေအား တစ်ချိန် တည်း အပြီးသတ်ပေးဆောင်ခြင်းမရှိခဲ့ပါက၊ ရှယ်ယာထည့်ဝင်မှုနောက်ဆုံးသတ်မှတ်ရက် အတိုင်း ဆက်လက် ဆောင်ရွက်ရန် တာဝန်မရှိစေရ။

၄.၄.၂။ အပိုဒ် ၄.၆ နှင့်အညီ ဆောင်ရွက်ပြီးစီးကြောင်းတရားဝင်အထောက်အထားစာ ပေးပို့သည့် နေ့မှစ၍ လုပ်ငန်းဆောင်ရွက်သည့်ရက်ပေါင်း (၁၀) ရက်ပြည့်သည့်နေ့သည် ရှယ်ယာ ဝယ်ယူမှု နောက်ဆုံးသတ်မှတ်ရက် (နောက်ဆုံးသတ်မှတ်ရက်စွဲ) ဖြစ်ရမည်။

၄.၄.၃။ နောက်ဆုံးသတ်မှတ်ရက် (သို့) နောက်ဆုံးသတ်မှတ်ရက်ထက်စောလျှင် သောရက်တွင်

(က) အပိုဒ် ၄.၄.၇ နှင့်အညီ Puma Energy သည် စုစုပေါင်းအမေရိကန်ဒေါ်လာ 15,000,000 (အမေရိကန်ဒေါ်လာ တစ်ဆယ့်ငါးသန်း) ကို Puma စုစုပေါင်း မတည်ငွေ ထည့်ဝင်မှု၏ ကနဦးမတည်ငွေထည့်ဝင်မှုအဖြစ် သတ်မှတ်ထားသော စင်ကာပူနိုင်ငံ ငွေစာရင်းသို့ လွှဲပြောင်းပေးမည်ဖြစ်ပြီး အဆိုပါမတည်ငွေထည့်ဝင်မှုအတွက် Puma Energy သည် အပြည့်အဝထည့်ဝင်ပြီးရှယ်ယာအဖြစ် ကနဦးရှယ်ယာမတည်ငွေ၏ ၄၉ % နှင့်ညီမျှသော ရှယ်ယာကို ပိုင်ဆိုင်မည်ဖြစ်ပါသည်။

(ခ) MPPE သည် အပိုဒ် ၄.၂.၁ ပါ ၎င်း၏တာဝန်ဝတ္တရားများကို လိုက်နာဆောင်ရွက်ရမည် ဖြစ်ပြီး (ကုမ္ပဏီအား အခြေပစ္စည်းများ ပိုင်ဆိုင်မှုလွှဲပြောင်းပေးအပ်ခြင်းနှင့်စပ်လျဉ်းသော ပိုင်ဆိုင်မှု လွှဲပြောင်းပေးအပ်သောစာချုပ် နှင့် ချုပ်ဆိုထားသော မြေငှားစာချုပ်များ အပါ အဝင်) စာဖြင့်ရေးသားထားသော စာရွက်စာတမ်းအထောက်အထားများကို Puma Energy ကစိတ်ကျေနပ်မှုရရှိစေရန်အတွက် တင်ပြရမည် သို့သော်ကန့်သတ်ထားခြင်းမရှိ။ အဆိုပါထည့်ဝင်ဆောင်ရွက် မှုအတွက် MPPE သည် အပြည့်အဝထည့်ဝင်ပြီးရှယ်ယာအဖြစ် ကနဦးရှယ်ယာမတည်ငွေ ၏ ၅၁ % နှင့်ညီမျှသော ရှယ်ယာကို ပိုင်ဆိုင်မည်ဖြစ်ပါသည်။

၄.၄.၄။ ဒုတိယကြိုတင်စည်းကမ်းသတ်မှတ်ချက်များကို ဖြည့်ဆည်းဆောင်ရွက်ခြင်း သို့မဟုတ် စွန့်လွှတ် ခြင်းတို့နှင့်အညီ Puma Energy ထည့်ဝင်မတည်ငွေ၏ကျန်ရှိသည့် US$ 10,000,000 (Ten million United States Dollars) (ဒုတိယအကြိမ် မတည်ငွေထည့်ဝင်မှု) ကို နောက်ဆုံးသတ်မှတ်ရက်စွဲမှ တစ်ဆယ့်ရှစ် (၁၈) လအတွင်း

(သို့မဟုတ် စာချုပ်ချုပ်ဆိုသူများအကြား သဘောတူသတ်မှတ်နိုင်သည့် နေ့ရက်) တွင် ကုမ္ပဏီသို့ အောက်ပါအတိုင်းပေးချေရမည်။

(က) Puma Energy က ကုမ္ပဏီအား ဒုတိယကြိုတင်စည်းကမ်းသတ်မှတ်ချက်များကို ဖြည့်ဆည်း ဆောင်ရွက်ခြင်း သို့မဟုတ် စွန့်လွှတ်ခြင်း ကို စာဖြင့် ရေးသား အကြောင်း ကြားသည့်နေ့ရက် (ဒုတိယအကြိမ်ပြီးမြောက်အောင် ဖြည့်ဆည်း ဆောင်ရွက်ရမည့် ရက်စွဲ) မှစတင်၍ ၊ အဆိုပါနေ့ရက်မပါဝင်ဘဲ ရုံးဖွင့်ရက် ရက်ပေါင်း (၁၀) ရက်အတွင်းတွင် ဒုတိယအရစ် မတည်ငွေထည့်ဝင်မှု(ဒုတိယအကြိမ် ပြီးမြောက်အောင် ဖြည့်ဆည်းဆောင်ရွက်ခြင်း) ကို ပြီးမြောက်အောင် ဆောင်ရွက်ရမည်။

(ခ) ဒုတိယအကြိမ်ပြီးမြောက်အောင် ဖြည့်ဆည်းဆောင်ရွက်ရာတွင်

(၁) Puma Energy သည် အစုရှယ်ယာတစ်ခု ထပ်မံထည့်ဝင်ရမည်ဖြစ်ပြီး အဆိုပါ ရှယ်ယာအတွက် သတ်မှတ်ထားသည့်ဒုတိယအကြိမ်မတည်ငွေထည့်ဝင်မှုနှင့် ညီမျှသော ငွေသားပမာဏကို သတ်မှတ်ထားသော စင်ကာပူငွေစာရင်းသို့ လွှဲပြောင်း ရမည်။

(၂) ကုမ္ပဏီသည် ဒုတိယအကြိမ်မတည်ငွေထည့်ဝင်မှုနှင့်ညီမျှသောထည့်ဝင်ငွေတန်ဖိုးရှိ ထပ်မံအစုရှယ်ယာ တစ်ခုကို Puma Energy သို့ ထုတ်ရောင်းရမည်။ နောင်တွင်ယုံမှားသံသယကင်းရှင်းစေရန် ထိုသို့ ထပ်မံထုတ်ရောင်းသောအစုရှယ် တစ်ခုကြောင့် စာချုပ်ချုပ်ဆိုသူများ၏ ရှယ်ယာပိုင်ဆိုင်မှု ရာခိုင်နှုန်း အသီးသီးအား ဤစာချုပ်အရထိခိုက်ခြင်းမရှိစေရ။

၄.၄.၅။ အကယ်၍ အစုရှယ်ယာရှင်များသည် အပိုဒ် ၈.၁ နှင့်အညီ အခြားနည်းဖြင့် စာရေးသားကာ သဘောတူညီမှုမရှိခဲ့ပါက၊ ကုမ္ပဏီက ထုတ်ရောင်းမည့် မည်သည့်အစုရှယ်ယာကိုမဆို ဤအပိုဒ် ၄.၄.၅ နှင့်အညီ ကုမ္ပဏီတွင် ယင်းတို့၏ ထိုအချိန်တွင် ရှိနေသည့် ပိုင်ဆိုင် ထားသည့် ရှယ်ယာပမာဏ၏ရာခိုင်နှုန်းနှင့် အချိုးညီရှယ်ယာများကို အစုရှယ်ယာရှင် များအား ထုတ်ရောင်းရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ အပိုဒ် ၈.၁ အရ အမျိုးအစားများ ကွဲပြားခြားနားသည့် အစုရှယ်ယာများကို ထုတ်ရောင်း နိုင်သည်။ သို့ရာတွင် စာချုပ်ချုပ်ဆိုသူများသည် ကုမ္ပဏီတွင် ၎င်းတို့လက်ရှိပိုင်ဆိုင်ထားသည့် ရှယ်ယာရာခိုင်နှုန်းပမာဏနှင့်အချိုးညီသည့်ရှယ်ယာများကိုဝယ်ယူရန် ဦးစားပေးအခွင့် အရေးကို ရရှိစေရမည်။ အစုရှယ်ယာတစ်ဦးသည် အပိုဒ် ၄.၄.၅ နှင့်အညီ ကုမ္ပဏီက ထုတ်ရောင်းသော အစုရှယ်ယာအားလုံး သို့မဟုတ် တစ်စု (မထည့်ဝင်ရသေးသော အစုရှယ်ယာ) ကို ဝယ်ယူထည့်ဝင်ရန် ပျက်ကွက်ပါက သို့မဟုတ် ဝယ်ယူ မထည့်ဝင် လိုပါက အခြားအစုရှယ်ယာရှင်များ၏အခွင့်အရေးများ နှင့် သက်သာခွင့်များကို မထိခိုက် စေဘဲ အဆိုပါမထည့်ဝင်ရသေးသော အစုရှယ်ယာများကို အခြား အစု ရှယ်ယာရှင်များ သို့မဟုတ် (အခြားအစုရှယ်ယာရှင်များက တောင်းဆိုပါက) အခြား အစုရှယ်ယာရှင်များ၏

အဖွဲ့ဝင်များသို့ ထုတ်ရောင်းရန် ဦးစွာကမ်းလှမ်းရမည်။ အဆိုပါကမ်းလှမ်းမှုအား အခြား အစုရှယ်ယာရှင်များ သို့မဟုတ် အခြား အစုရှယ်ယာရှင် များ၏အဖွဲ့ဝင်များက ငြင်းပယ်ခဲ့လျှင် သို့မဟုတ် အဆိုပါမထည့်ဝင်ရသေးသော အစု ရှယ်ယာ အားလုံး မဟုတ်ဘဲ တစ်ချို့တစ်ဝက်အားဝယ်ယူထည့်ဝင်ရန်လက်ခံခဲ့လျှင် အဆိုပါမထည့်ဝင်ရသေးသောအစု ရှယ်ယာများသည် မထည့်ဝင်သေးသော အခြေအနေ အဖြစ် ဆက်လက်ရှိနေပြီး ၎င်းအစုရှယ်ယာများကို ဘုတ်အဖွဲ့က သင့်လျော်သည်ဟု ထင်မြင်သည့်အတိုင်း အပိုဒ် ၄.၄.၅ ၏အောက်တွင်ဖော်ပြထားသော ကန့်သတ်ချက် များနှင့်အညီ ပုဂ္ဂိုလ်များ သို့မဟုတ် အဖွဲ့အစည်းများသို့ ရောင်းချရမည်။ ကုမ္ပဏီသည် အစုရှယ်ယာရှင်များ (တစ်ဦးတည်း ဖြစ်စေ၊ စုပေါင်း၍ဖြစ်စေ အစုရှယ်ယာ ၅၀ % ကျော်ကိုပိုင်ဆိုင်ထားသော အစု ရှယ်ယာရှင်များ) ၏ မဲအရေအတွက် အနည်းအများဖြင့် ဆုံးဖြတ်ချက်ချမှတ်ချိန်တွင် အစုရှယ်ယာပိုင်ဆိုင်သူတစ်ဦးဦးမှ မဝယ်ယူရသေးသည့် သို့မဟုတ် ဝယ်ယူရန် သဘောမတူရသေးသည့် မထည့်ဝင်ရသေးသော အစုရှယ်ယာများကို ပယ်ဖျက်နိုင်သည်။ အရှုပ်အရှင်းကင်းရှင်းစေရန်အတွက် အစုရှယ်ယာရှင်များသည် အဆိုပါမထည့်ဝင်ရ သေးသော အစုရှယ်ယာများကို တတိယပုဂ္ဂိုလ်အဖွဲ့အစည်း (တတိယ ပုဂ္ဂိုလ်အဖွဲ့အစည်း ဆိုသည်မှာ အစုရှယ်ယာရှင် သို့မဟုတ် အစု ရှယ်ယာရှင်၏အဖွဲ့ဝင် မဟုတ်သောသူ ကို ဆိုသည်။) သို့ မရောင်းချရန် သဘောတူပါသည်။

၄.၄.၆။ Puma Energy သည် ဤအပိုဒ် ၄ တွင် Puma Energy ၏ငွေပေးချေမှု တာဝန်ဝတ္တရားများအရ Puma Energy ကပေးရမည့်ငွေပမာဏများမှ အင်္ဂလိပ်ရိုးရာ ဥပဒေအရ နုတ်ယူမှုများ ဆောင်ရွက်ရန် သို့မဟုတ် ဆုံးရှုံးမှုများ၊ ကုန်ကျစရိတ်များ၊ တောင်းဆိုမှုများ၊ တောင်းဆိုချက်များ နှင့် အခြား ပေးရန်တာဝန်များ (အရေးကြီးသည် ဖြစ်စေ၊ အသေးအဖွဲဖြစ်စေ) အားနုတ်မည့် ၎င်း၏အခွင့်အရေးများအားလုံးကို စွန့်လွှတ်ပါသည်။

၄.၄.၇။ Puma Energy သည် ဤအပိုဒ် ၄ နှင့်အညီ ပထမအကြိမ်မတည်ငွေထည့်ဝင်မှုကို ပထမကြိုတင်စည်းကမ်းချက်များကို ဖြည့်ဆည်းဆောင်ရွက်ပြီးသည့် သို့မဟုတ် စွန့်လွှတ်သည့် ရက်စွဲတွင် ပေးချေရမည့် သို့မဟုတ် ဒုတိယအကြိမ်မတည်ငွေထည့်ဝင်မှုကို ဒုတိယ အကြိမ်ပြီးမြောက်အောင် ဖြည့်ဆည်းဆောင်ရွက်သည့်ရက်စွဲတွင် ပေးချေရမည့် ၎င်း၏ တာဝန်ဝတ္တရားများကို လိုက်နာဆောင်ရွက်ရန်ပျက်ကွက်ပြီး အဆိုပါပျက်ကွက်မှုကို ပထမကြိုတင်စည်းကမ်းချက်များကို ဖြည့်ဆည်းဆောင်ရွက်ပြီးသည့် သို့မဟုတ် စွန့်လွှတ်သည့် ရက်စွဲ သို့မဟုတ် ဒုတိယအကြိမ်ပြီးမြောက်အောင် ဖြည့်ဆည်းဆောင်ရွက်သည့် ရက်စွဲမှ ရက်ပေါင်း ၄၅ ရက်အတွင်း ဖြည့်ဆည်းပြင်ဆင်ဆောင်ရွက်မှုမရှိပါက Puma Energy သည် ပျက်ကွက်မှုကိုဖြည့်ဆည်းဆောင်ရွက်နိုင်သည့်သတ်မှတ်ကာလ ၄၅ ရက် ထက် ကျော်လွန်သော အချိန်ကာလအတွက် ပထမအကြိမ်မတည်ငွေထည့်ဝင်မှု

သို့မဟုတ် ဒုတိယအကြိမ်မတည်ငွေထည့်ဝင်မှု၏ ၈ % နှင့်ညီမျှသော ပမာဏကို တစ်နှစ်စာအတွက်တွက်ချက်လျက် အချိုးကျစနစ်ဖြင့် ပေးချေရမည်။ သံသယကင်းရှင်းစေရန်အတွက် ပထမကြိုတင်စည်းကမ်းသတ်မှတ်ချက်များ သို့မဟုတ် ဒုတိယကြိုတင်စည်းကမ်းသတ်မှတ်ချက်များကို ဖြည့်ဆည်းဆောင်ရွက်နိုင်ခြင်းမရှိသောကြောင့် ရှယ်ယာထည့်ဝင်ရန်နောက်ဆုံးရက်သတ်မှတ်ရက် သို့မဟုတ် ဒုတိယအကြိမ်ပြီးမြောက်အောင်ဆောင်ရွက်ခြင်းတို့ကို ဆက်လက်ဆောင်ရွက်ရန် ပျက်ကွက်ခြင်းတစ်စုံတစ်ရာသည် ဤအပိုဒ် ၄.၄.၇ တွင်ဖော်ပြထားသောရည်ရွယ်ချက်များအတွက် ငွေကြေးဖြည့်ဆည်းရန် ပျက်ကွက်ခြင်း မဖြစ်စေရ။

၄.၅။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

စာချုပ်ချုပ်ဆိုသူတစ်ဦးစီက အထက်ပါ အပိုဒ် ၄.၄.၁ တွင်ဖော်ပြထားသည့် အစုရှယ်ယာများအတွက် ထည့်ဝင်မှုနှင့် ပေးချေမှုတို့ကို ဆက်လက်ဆောင်ရွက်ရန် တာဝန်သည် (Puma Energy နှင့် ညှိနိုင်းတိုင်ပင်၍ MPPE က ဦးစီးကာ MIC လျှောက်လွှာကို ပြင်ဆင်ခြင်းအပါအဝင်) MIC ၏ တောင်းဆိုချက်များနှင့် စာချုပ်ချုပ်ဆိုသူများက အောက်ဖော်ပြပါစည်း ကမ်းသတ်မှတ်ချက် တစ်ခုချင်းစီကို ဖြည့်ဆည်းဆောင်ရွက်သည့် သို့မဟုတ် စွန့်လွှတ်သည့် အခြေအနေအရ စာချုပ်ချုပ်ဆိုသူများက လိုအပ်သည့်စာရွက်စာတမ်းများအား ပြီးစီးအောင် ပြင်ဆင်ခြင်းဖြစ်သည်။

၄.၅.၁။ သဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာ

စာချုပ်ချုပ်ဆိုသူတစ်ဦးစီသည် ဤသဘောတူစာချုပ် (လိုအပ်သည့်အတိုင်း) က ရည်ရွယ်ထားသည့် လုပ်ငန်းများနှင့် စပ်လျဉ်း၍ ပါဝင်မှုနှင့် ဆောင်ရွက်မှုတို့အတွက် အခွင့်အာဏာပေးထားသည့် အခြားစာချုပ်ချုပ်ဆိုသူ၏ သဘောတူညီချက်များနှင့် ပတ်သက်၍ မှန်ကန်ကြောင်း ထောက်ခံထားသည့် မိတ္တူတစ်စောင်ကို အခြားစာချုပ်ချုပ်ဆိုသူထံမှ ရရှိပြီးဖြစ်ရမည်။(သံသယကင်းရန်အတွက်၊ စာချုပ်ချုပ်ဆိုသူတစ်ဦးစီက ဤသတ်မှတ်ချက်ကို ဖြည့်ဆည်းရမည်။ ထိုသို့ ဖြည့်ဆည်းမည်ဖြစ်ကြောင်း ဤသဘောတူစာချုပ်အတွက် ယင်းတို့၏ လက်မှတ်ထိုး အတည် ပြုထားသည့် စာမျက်နှာ ပါရှိ မည်။)

၄.၅.၂။ လုပ်ငန်းဆောင်ရွက်မှု လိုင်စင်(များ) ကို ရရှိအောင်ဆောင်ရွက်ခြင်း

MPPE သည် သက်ဆိုင်ရာအာဏာပိုင်များက ကုမ္ပဏီအား စာချုပ်ချုပ်ဆိုသူများ လက်ခံနိုင်သည့် စည်းကမ်းချက်များနှင့်အညီ လုပ်ငန်းဆောင်ရွက်မှုလိုင်စင် (များ) ရရှိရန် နှင့် အဆိုပါလိုင်စင်များအား သက်ဆိုင်ရာအာဏာပိုင်များက ဖျက်သိမ်းထားခြင်း၊ ပယ်ဖျက်ထားခြင်းမပြုရန် ကန့်ကွက်ရန်မရှိကြောင်း စာများထုတ်ပေးရန် ဆောင်ရွက်ရမည်။

၄.၅.၃။ တင်ဒါဖိတ်ခေါ်မှုအရလိုအပ်သောအခကြေးငွေများအားလုံးကို ပေးချေခြင်း

MPPE သည် တင်ဒါဖိတ်ခေါ်မှုဆိုင်ရာစည်းမျဉ်းစည်းကမ်းများအရ လိုအပ်သော အခကြေးငွေများ အားလုံးအားပေးချေပြီးဖြစ်သည့် ခိုင်လုံသောအထောက်အထားများအား စာဖြင့်ရေးသားထားသော ငွေရပြေစာများ နှင့် MPPE ကတောင်းခံထားသော အခြားစာရွက်စာတမ်း များပုံစံဖြင့် Puma Energy ထံမှ လက်ခံရရှိထားပြီး ဖြစ်သည်။

၄.၅.၄။ MIC ၏သဘောတူခွင့်ပြုချက်

စာချုပ်ချုပ်ဆိုသူတစ်ဦးချင်းစီသည်( နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီရရှိသောအခွန်သက်သာခွင့်များ နှင့် ကင်းလွတ်ခွင့်များရရှိထားခြင်းအပါအဝင်) ကုမ္ပဏီသို့ ထုတ်ပေးထားပြီးဖြစ်သည့် ကုမ္ပဏီတည်ထောင်ခြင်း နှင့် လုပ်ငန်းဆောင်ရွက်လုပ်ကိုင်ခြင်းအား ခွင့်ပြုပြီး ဖျက်သိမ်းထားခြင်း၊ ပယ်ဖျက်ထားခြင်းမရှိသည့် MIC ၏သဘောတူခွင့်ပြုချက်ကို စာချုပ်ချုပ်ဆိုသူများလက်ခံနိုင်သော စည်းမျဉ်းစည်းကမ်းများနှင့်အညီ ရယူရမည်။

၄.၅.၅။ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် နှင့် ကုန်သွယ်ခွင့် ခွင့်ပြုမိန့်ရရှိရန် ဆောင်ရွက်ခြင်း

စာချုပ်ချုပ်ဆိုသူများလက်ခံနိုင်သောစည်းကမ်းချက်များနှင့်အညီ ကုမ္ပဏီသို့ထုတ်ပေးထားပြီးဖြစ်သည့် ကုမ္ပဏီမှတ်ပုံတင်လက်မှတ် နှင့်ကုန်သွယ်ခွင့် ခွင့်ပြုမိန့်ကို MPPE က ရရှိရန် နှင့် ဖျက်သိမ်းထား ခြင်း၊ ပယ်ဖျက်ထားခြင်းမပြုရန် ဆောင်ရွက်ရမည်။

၄.၅.၆။ သတ်မှတ်ထားသည့် ဘဏ်စာရင်းသို့ DICA သို့ လွှဲပြောင်းငွေပမာဏကို ထည့်သွင်းခြင်း

အကယ်၍ သတ်မှတ်ထားသည့် ဘဏ်စာရင်းအတွင်းသို့ DICA ငွေလွှဲပမာဏကို လွှဲပေးရန်တာဝန်အားဖြည့်ဆည်းမှုအတွက်နောက်ဆုံးရက်သည်ပထမကြိုတင်စည်းကမ်းသတ်မှတ်ချက် များကို ဖြည့်ဆည်းဆောင်ရွက်ပြီးသည့် သို့မဟုတ် စွန့်လွှတ်သည့် ရက်စွဲ၏ တစ်ရက် အကြိုတွင် ကျရောက်ခဲ့မည်ဆိုပါက၊ DICA က သတ်မှတ်ပြဋ္ဌာန်းထားသည့် အချိန်ကာလအတွင်း သတ်မှတ်ထားသည့် ဘဏ်စာရင်းအတွင်းသို့ DICA ငွေလွှဲပမာဏကို စာချုပ်ချုပ်ဆိုသူများက ပေးသွင်းခဲ့ပြီး ဖြစ်ရမည်။

၄.၅.၇။ ကနဦးရသုံးမှန်းခြေစာရင်း နှင့် ကနဦးလုပ်ငန်းအစီအစဉ်

ကနဦးရသုံးမှန်းခြေစာရင်းနှင့်ကနဦးလုပ်ငန်းအစီအစဉ်၏စည်းကမ်းချက်များသည် စာချုပ်ချုပ်ဆိုသူများအကြားသဘောတူထားသည့်အတိုင်းဖြစ်ရမည်ဖြစ်ပြီး သဘောတူထားသည့်ပုံစံအတိုင်း ဖြစ်ရမည်။

၄.၅.၈။ စီမံကိန်းသဘောတူစာချုပ်များ

စီမံကိန်းသဘောတူစာချုပ်များကို စာချုပ်ချုပ်ဆိုသူများက သဘောတူထားသည့်ပုံစံဖြင့် သဘောတူထားကြပြီး ဖြစ်ပါသည်။

၄.၅.၉။ ထောက်ပံ့မှုဆိုင်ရာသဘောတူစာချုပ်ချုပ်ဆိုခြင်း

ကုမ္ပဏီ နှင့် Puma Energy တို့သည် စာချုပ်ချုပ်ဆိုသူများ လက်ခံသည့်ပုံစံဖြင့် ထောက်ပံ့မှုဆိုင်ရာသဘောတူစာချုပ်ကိုချုပ်ဆိုခဲ့ပြီးဖြစ်သည်။ သို့မဟုတ် ကုမ္ပဏီ မတည်ထောင်မီက ချုပ်ဆိုခဲ့သောစာချုပ်ဖြစ်ပါက အဆိုပါထောက်ပံ့မှုဆိုင်ရာသဘောတူစာချုပ်၏ စည်းမျဉ်းစည်းကမ်းများကို စာချုပ်ချုပ်ဆိုသူများအကြား အပြီးသတ်ညှိနှိုင်းဆောင်ရွက်ပြီး ထောက်ပံ့မှုဆိုင်ရာစာချုပ်သည် သဘောတူထားသည့် ပုံစံအတိုင်းဖြစ်ရမည်။

၄.၅.၁၀။ အရေးပါသော ပြောင်းလဲမှုဖြစ်ရပ်မပေါ်ပေါက်ခြင်း

လုပ်ငန်းနှင့်စပ်လျဉ်း၍ မည်သည့်အရေးပါသောပြောင်းလဲမှုဖြစ်ရပ်မှ မပေါ်ပေါက်ခဲ့ပါ။

၄.၅.၁၁။ လုပ်ငန်းဆောင်ရွက်ချက်အား ဟန့်တားသည့်ဖြစ်ရပ်မပေါ်ပေါက်ခြင်း

ဤစာချုပ်က ရည်ရွယ်ထားသည့် လုပ်ငန်းများ သို့မဟုတ် ဤစာချုပ်တွင် ပါရှိသည့် စာချုပ်ချုပ်ဆိုသူများ၏ ပါဝင်ဆောင်ရွက်မှုမှန်သမျှကို ချုပ်ထိန်း၊ ဟန့်တား သို့မဟုတ် ပျက်ပျယ်ရန် ကြိုးပမ်းမည့် မည်သည့် တရားရုံး သို့မဟုတ် အခြားအစိုးရဌာနဆိုင်ရာ စာချုပ်ချုပ်ဆိုသူ သို့မဟုတ် ကိုယ်စားလှယ် ရုံးမှန်သမျှ က၊ တွင် သို့မဟုတ် ရှေ့မှောက်တွင် အမှန်တကယ် သို့မဟုတ် ခြိမ်းခြောက်သည့် မည်သည့် လုပ်ရပ် သို့မဟုတ် အရေး ယူဆောင်ရွက်မှုမှု မရှိစေရ။

၄.၅.၁၂။ ကတိကဝတ်များနှင့်အညီ ဆောင်ရွက်ခြင်း

MPPE သည် ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်၊ သန်လျင်ရေနံချက်စက်ရုံတို့နှင့် စပ်လျဉ်း၍ MPPE လက်ရှိအသုံးပြုလျက် ရှိသည့်မြေများ၊ MPPE သုံးစွဲသည့် သန်လျင်ရေနံချက်စက်ရုံဝင်းအတွင်းရှိလေယာဉ်ဆီသိုလှောင်ကန်များအားလုံးအပါအဝင်မြေငှားရမ်းခြင်းများ၊ မြေအသုံးချခွင့်များ၊ စီးပွားရေးလုပ်ငန်းရည်ရွယ်ချက်များအတွက် အခြားအခြေပစ္စည်းများကို ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုသည့်နေ့တွင် ကုမ္ပဏီ သို့ လွှဲပြောင်းပေးအပ်ခြင်းအပါအဝင် နောက်ဆက်တွဲ (ဂ)၏အပိုဒ် ၄ တွင် သတ်မှတ်ထားသော ကတိကဝတ်များအားလုံးကို လိုက်နာဆောင်ရွက်ခဲ့ပြီးဖြစ်ပါသည်။

၄.၆ ။ ကြိုတင်စည်းကမ်းချက်များဖြည့်ဆည်းဆောင်ရွက်မှုကို အတည်ပြုခြင်း

ပထမကြိုတင်စည်းကမ်းချက်များကို ဖြည့်ဆည်းဆောင်ရွက်ဖြစ်ပါက သို့မဟုတ် ဖြည့်ဆည်းဆောင်ရွက်ရန် စွန့်လွှတ်ပါက၊ စာချုပ်ချုပ်ဆိုသူတစ်ဦးသည် ဤသဘောတူစာချုပ်နှင့်အညီ ပထမကြိုတင်စည်းကမ်းချက်များကို ဖြည့်ဆည်းဆောင်ရွက်ခဲ့ပြီး သို့မဟုတ် ဖြည့်ဆည်းဆောင်ရွက်ရန် စွန့်လွှတ်ခဲ့ပြီးဖြစ်ကြောင်း သဘောတူလျက်အတည်ပြုထားသည့် တရားဝင်အထောက်အထားစာကို အခြားစာချုပ်ချုပ်ဆိုသူတစ်ဦးထံသို့ ပေးပို့ရမည်။

အဆိုပါအထောက်အထားစာကို အခြားစာချုပ်ချုပ်ဆိုသူက မှန်ကန်ကြောင်း ထောက်ခံလက်မှတ်ရေးထိုးရမည်။ (ဆောင်ရွက်ပြီးစီးကြောင်း တရားဝင်အထောက်အထားစာ) အဆိုပါဆောင်ရွက်ပြီးစီးကြောင်း တရားဝင်အထောက်အထားစာကို စာချုပ်ချုပ်ဆိုသူတစ်ဦးက နောက်ဆုံးလက်မှတ်ရေးထိုးခဲ့သည့်ရက်စွဲကို အဆိုပါစာ၏ရက်စွဲအဖြစ် ရက်စွဲတပ်နိုင်သည်။ (အဆိုပါလက်မှတ်များသည် မူရင်းခွဲမိတ္တူများတွင် ရေးထိုးသော လက်မှတ်များ ဖြစ်နိုင်သည်)

၄.၇။ ကြိုတင်သတ်မှတ်ချက်များကို ဖြည့်ဆည်းဆောင်ရွက်ရန် ပျက်ကွက်မှုအတွက် ရပ်စဲခြင်း။

စာချုပ်ချုပ်ဆိုသူများသည် အပိုဒ် ၄.၅ အရ ဖြည့်ဆည်းမဆောင်ရွက်ရသေးသည့် ကြိုတင်သတ်မှတ်ချက်တစ်ခုစီကိုကြိုတင်သတ်မှတ်ချက်များဖြည့်ဆည်းဆောင်ရွက်ရန်သတ်မှတ်ထားသည့်ကာလမကုန်ဆုံးမီ အမြန်ဆုံးဖြည့်ဆုံးဆောင်ရွက်နိုင်ရန် အကောင်းဆုံး လုံ့လစိုက်ထုတ်လျက် ကြိုးစားဆောင်ရွက်ကြရမည်။ စာချုပ်ချုပ်ဆိုသူများက ကြိုတင်သတ်မှတ်ချက်များ ဖြည့်ဆည်းဆောင်ရွက်ရန်သတ်မှတ်ထားသည့်ကာလမကုန်ဆုံးမီ ပထမကြိုတင်စည်းကမ်းသတ်မှတ်ချက်များကို ဖြည့်ဆည်းမဆောင်ရွက်ပါက သို့မဟုတ် အခြားနည်းစွန့်လွှတ်ခြင်းမရှိပါက စာချုပ်ချုပ်ဆိုသူတစ်ဦးစီတွင် အခြားစာချုပ်ချုပ်ဆိုသူတစ်ဦးအား စာဖြင့်ရေးသားအကြောင်းကြားလျက် ဖျက်သိမ်းသည့်နေ့ရက်မတိုင်မီ ရက်ပေါင်း ၆၀ ကြိုတင် အကြောင်းကြားခြင်းဖြင့် ဤသဘောတူစာချုပ်ကို ဖျက်သိမ်းနိုင်သည့် အခွင့်အရေးရှိသည်။ သို့ရာတွင် စာချုပ်ချုပ်ဆိုသူများ ဖြည့်ဆည်းဆောင်ရွက်ရန် ကျန်ရှိနေသည့်ပထမကြိုတင်စည်းကမ်းသတ်မှတ်ချက်များကိုဖြည့်ဆည်းဆောင်ရွက်နိုင်ရန်အတွက် MPPE သည် ၎င်း၏ဆန္ဒအလျောက် သင့်လျော်သောအချိန်ကာလအထိ ကြိုတင်သတ်မှတ်ချက်များ ဖြည့်ဆည်းဆောင်ရွက်ရန်သတ်မှတ်ထားသည့်ကာလကို (ခြောက် (၆) လ ထက်မပိုဘဲ) တိုးမြှင့်နိုင်သည်။ ကြိုတင်သတ်မှတ်ချက်များ ဖြည့်ဆည်းဆောင်ရွက်ရန် သတ်မှတ်ထားသည့်ကာလ (MPPE က တိုးမြှင့်ထားသော သက်တမ်းကာလအပါအဝင်) ကုန်ဆုံးချိန်တွင် စာချုပ်ချုပ်ဆိုသူတစ်ဦးက ဤသဘောတူစာချုပ်အားဖျက်သိမ်းရန် အကြောင်းကြားစာအားပေးပို့ထားပြီးဖြစ်လျှင် နှင့် ကုမ္ပဏီက ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အား ရရှိထားပြီးဖြစ်လျှင် စာချုပ်ချုပ်ဆိုသူများသည် သတ်မှတ်ကာလကုန်ဆုံးပြီးနောက် ကုမ္ပဏီအား စာရင်းရှင်းလင်းဖျက်သိမ်းရန်လိုအပ်သောလုပ်ငန်းများအားလုံးအား ပူးပေါင်းဆောင်ရွက်ကြရမည်။

၄.၈။ ကုမ္ပဏီ စာရင်းရှင်းလင်းဖျက်သိမ်းခြင်း

အပိုဒ် ၄.၆ နှင့်အညီ ဤ သဘောတူစာချုပ်ကို ဖျက်သိမ်းသည့် ဖြစ်ရပ်တွင် မြန်မာနိုင်ငံ၏ ဥပဒေများနှင့်အညီ ဖြစ်သည့်အပြင် ကုမ္ပဏီ၏တာဝန်ဝတ္တရားများအားလုံး၊ တတိယ

ပုဂ္ဂိုလ်အဖွဲ့အစည်းများဆိုင်ရာကုမ္ပဏီ၏တာဝန်ဝတ္တရားများကို ဖြည့်ဆည်းရေးအတွက် ကုမ္ပဏီ၏အရေးကိစ္စများအားရှင်းလင်းဆောင်ရွက်ရန်လိုအပ်နိုင်သည့်အတွက်ထိုသို့သော ငွေကြေးများအားထောက်ပံ့ရန်စာချုပ်ချုပ်ဆိုသူတစ်ဦးစီသည် တာဝန်ဆက်လက်ရှိနေမည် ဖြစ်သည်။ အပိုဒ် ၄.၄.၁ တွင် သတ်မှတ်ထားသော စာချုပ်ချုပ် ဆိုသူတစ်ဦးစီ၏ ကုမ္ပဏီတွင်ပိုင်ဆိုင်သည့် အစုရှယ်ယာရာခိုင်နှုန်းအရ စာချုပ်ချုပ်ဆိုသူ၏ တာဝန်သည် ပေးသွင်းပြီးသည့်ကနဦးအစုရှယ်ယာ မတည်ငွေနှင့်စပ်လျဥ်း၍ စာချုပ်ချုပ်ဆိုသူ၏ သက်ဆိုင်ရာအချိုးကျအစုရှယ်ယာအတွက် ကန့်သတ်ထားသည်။ ထိုသို့သော တာဝန် ဝတ္တရားအားလုံးကိုဖြည့်ဆည်းပြီးသည့်အပြင် MIC သဘောတူညီချက်ကိုလည်း ဖျက်သိမ်း ပြီးသည်နှင့် တစ်ပြိုင်နက်၊ ကုမ္ပဏီသည် အပိုဒ် ၃.၃ သို့မဟုတ် အပိုဒ် ၄.၄.၁ နှင့်အညီ ယင်း၏ကျန်ရှိနေသည့်ငွေသားကို စာချုပ်ချုပ်ဆိုသူများအား စာချုပ်ချုပ်ဆိုသူများက ငွေကြေးထောက်ပံ့ထားသည့် သက်ဆိုင်ရာငွေပမာဏ နှင့် အချိုးညီခွဲဝေပေးရမည်။ ဤ အပိုဒ် ၄.၈ ၏ ပြဋ္ဌာန်းချက်သည် ဤ သဘောတူစာချုပ်ကို ရပ်စဲသည်အထိ အသက်ဝင် နေရမည်။

၄.၉။ ကြွေးမြီတာဝန်ကင်းစွာ ထုတ်ရောင်းထားသည့် အစုရှယ်ယာများ

ဤသဘောတူစာချုပ်တွင် သို့မဟုတ် စည်းမျဥ်းများတွင် ဖော်ပြထားချက်များမှအပ၊ အာမခံပစ္စည်းအဖြစ်ထားရှိခြင်း၊ ကြွေးမြီတာဝန်များ၊ ပေါင်နှံခြင်း၊ သတ်မှတ်ချက်များ သို့မဟုတ် ကန့်သတ်ချက်များ မည်သည့်အမျိုးအစား၊ ပုံစံ အားလုံးမဆို ကင်းရှင်းစွာဖြင့် အစုရှယ်ယာအားလုံးကို ထုတ်ရောင်းရမည်။

၄.၁၀။ အစုရှယ်ယာများနှင့် စပ်လျဥ်းသည့် မဲပေးပိုင်ခွင့်များ

အစုရှယ်ယာအားလုံးတွင် အညီအမျှ မဲပေးပိုင်ခွင့်နှင့် အခြား ရပိုင်ခွင့်များ ရှိရမည်။ အစုရှယ်ယာ တစ်စုစီအတွက် ယင်း၏ အစုရှယ်ယာရှင်သည် မဲတစ်မဲ ပေးခွင့်ရှိရမည်။

၄.၁၁။ အစုရှယ်ယာ လက်မှတ်များ

မြန်မာနိုင်ငံ၏ ဥပဒေများနှင့် အညီ ဘုတ်အဖွဲ့က ဆုံးဖြတ်ပြဋ္ဌာန်းမည့်အတိုင်း ထိုသို့သော ပုံစံရှိသည့်ယင်း၏သက်ဆိုင်ရာ၊ရှယ်ယာတန်ဖိုးအပြည့် ပေးပြီးဖြစ်သည့် အစုရှယ်ယာများ အတွက် ကုမ္ပဏီ၏အစုရှယ်ယာများကိုကိုယ်စားပြုထားည့် အစုရှယ်ယာလက်မှတ်များအား စာချုပ်ချုပ်ဆိုသူ တစ်ဦးစီသို့ ထုတ်ရောင်းရမည်။ ယင်း၏ စတော့ရှယ်ယာ အမျိုးအစား မှန်သမျှ၏ ရှယ်ယာတစ်စု သို့မဟုတ် အစုရှယ်ယာများအား ကိုယ်စားပြုထားသည့် လက်မှတ်တစ်ခုစီအပေါ်တွင် ကုမ္ပဏီက အောက်ပါစာကို ရေးသားစေရန် စာချုပ်ချုပ် ဆိုသူများက သဘောတူကြသည်။

" Puma Energy နှင့် MPPE သို့မဟုတ်/ နှင့် MPPE ကရွေးချယ်ခန့်ထားသူ(များ) တို့အကြားတွင် ၂၀၁၅ ခုနှစ်၊ ( ) ရက်မှစ၍ ဖက်စပ်လုပ်ငန်း သဘောတူစာချုပ်၏ သတ်မှတ်ချက်များနှင့် ပြဋ္ဌာန်းချက်များတို့နှင့်အညီသာ ဤလက်မှတ်အား လွှဲပြောင်း၊ အပ်နှင်း၊ သို့မဟုတ် အာမခံနိုင်မည် ဖြစ်သည်။"

၄.၁၂။ သင်းဖွဲ့မှတ်တမ်းများ နှင့် စည်းမျဉ်းများ

၄.၁၂.၁။ မြန်မာနိုင်ငံ၏ဥပဒေများက ပြဋ္ဌာန်းထားသည့် အချိန်ကာလအတွင်း စာချုပ်ချုပ်ဆိုသူများသည် သင်းဖွဲ့မှတ်တမ်းများနှင့် သင်းဖွဲ့စည်းမျဉ်းများတို့အား DICA တွင် အတည်ပြု ဆောင်ရွက်မှတ်ပုံတင်ပါမည်ဟု အာမခံကြရမည်။

၄.၁၂.၂။ သင်းဖွဲ့မှတ်တမ်းများ နှင့် သင်းဖွဲ့စည်းမျဉ်းများသည် ဤသဘောတူစာချုပ်၏ ပြဋ္ဌာန်းချက်များနှင့် ဖြစ်နိုင်သမျှ အတိုင်းအတာအထိ ညီညွတ်မှုရှိရမည့်အပြင် ယင်းတို့ကို ထည့်သွင်းဖေါ်ပြထားရမည်။ ဤသဘောတူစာချုပ်မှ ပြဋ္ဌာန်းချက်များနှင့် မှတ်တမ်းများနှင့် စည်းမျဉ်းများတို့ အကြား တစ်စုံတစ်ရာ ကွဲလွဲမှု သို့မဟုတ် မညီညွတ်မှု ပေါ်ပေါက်ခဲ့ပါက၊ ဤ သဘောတူစာချုပ်မှပြဋ္ဌာန်းချက်များနှင့် သင်းဖွဲ့မှတ်တမ်းများ နှင့် သင်းဖွဲ့စည်းမျဉ်းများ လိုက်လျော ညီထွေမှုရှိစေရန် နှင့် ဤသဘောတူစာချုပ်က သက်သေပြုထားသည့်အပြင် မြန်မာနိုင်ငံ၏ ဥပဒေ များကလည်း ခွင့်ပြုထားသည့်အတိုင်း စာချုပ်ချုပ်ဆိုသူများ၏ မူရင်းရည်ရွယ်ချက်ကို အဖြစ်နိုင်ဆုံးအတိုင်းအတာဖြင့် အကျိုးသက်ရောက်စေရန် အလို့ငှာ၊ မှတ်တမ်းများနှင့်စည်းမျဉ်းများတို့အား အနက်ဖွင့်ဆိုရန်နှင့် ကြောင်းကျိုး ဆီလျော်စွာ လိုအပ်မှုရှိသည့်အတိုင်း (မှတ်တမ်းများနှင့် စည်းမျဉ်းများအား ပြင်ဆင်ခြင်း အပါအဝင်) ဆောင်ရွက်ရန် စာချုပ်ချုပ်ဆိုသူများ က သဘောတူကြသည်။

၄.၁၂.၃။ စာချုပ်ချုပ်ဆိုသူတစ်ဦးစီသည် မြန်မာနိုင်ငံ၏သက်ဆိုင်ရာဥပဒေများက ခွင့်ပြုထားသည့် အတိုင်းအတာအထိ၊ မှတ်တမ်းများ နှင့်စည်းမျဉ်းများတွင် ပါရှိသည့် ကွဲလွဲနေသောပြဋ္ဌာန်းချက်တစ်ရပ်အား ပြင်ဆင်၊ စွန့်လွှတ် သို့မဟုတ် ဆိုင်းငံ့ နိုင်ရန် အတွက်၊ မဲပေးခြင်းနှင့် စီမံခန့်ခွဲမှု အခွင့်အာဏာ ဆိုင်ရာ အခွင့်အရေးများအပြင်၊ အခြားသောရပိုင်ခွင့်များနှင့် အခွင့်အာဏာမှန်သမျှနှင့်ပတ်သက်သည့် ယင်း၏ အခွင့် အာဏာကို လိုအပ်ခဲ့ပါက အသုံးချရမည်။ သို့မှသာ ဤသဘောတူစာချုပ်ပါ စည်းကမ်း သတ်မှတ်ချက်များနှင့်အညီ ဤသဘောတူစာချုပ်ကို အကောင်အထည်ဖော်ဆောင်ရွက် နိုင်မည် ဖြစ်သည်။ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းတွင် မည်သို့ပင်ပါရှိစေကာမူ စာချုပ်ချုပ်ဆိုသူများသည် ဤသဘောတူစာချုပ်နှင့်လျော်ညီစွာ သဘောတူစာချုပ်အား အကောင်းဆုံးအကျိုးသက်ရောက်မှုရှိစေသည့် နည်းလမ်းများအတိုင်း အမြဲတစေ ဆောင်ရွက်ကြရမည်။

၅။ ကိုယ်စားပြုခြင်းများနှင့် အာမခံချက်များ

စာချုပ်ချုပ်ဆိုသူတစ်ဦးစီသည် တစ်ဦးချင်းအနေဖြင့် လည်းကောင်း ယင်းကိုယ်၌အား ကိုယ်စားပြုမှုသက်သက်အားဖြင့်လည်းကောင်း(တစ်ဦးစီသည်ကိုယ်စားပြုသည့်စာချုပ်ချုပ်ဆိုသူ ဖြစ်သည်) အခြားသော စာချုပ်ချုပ်ဆိုသူအား အောက်ပါအတိုင်း ကိုယ်စားပြုပြီး အာမခံသည်။

၅.၁။ အာဏာတည်နိုင်မှုနှင့် အခွင့်အာဏာ

ဤသဘောတူစာချုပ်သည် တရားဝင်၊ ခိုင်လုံမှုရှိပြီး လိုက်နာရမည့် တာဝန်တစ်ရပ်ဖြစ်ပြီး၊ ကိုယ်စားပြုသည့် စာချုပ်ချုပ်ဆိုသူက မှန်ကန်စွာ လုပ်ပိုင်ခွင့်ပြုထားပြီး သဘောတူထားသည့် စည်းကမ်းသတ်မှတ်ချက်များ၊ အတည်ပြုဆောင်ရွက်ခြင်းများ၊ ပေးအပ်ခြင်းများနှင့် ဆောင်ရွက်ချက်များ စသည်တို့ နှင့် လျော်ညီစွာ အာဏာတည်နိုင်မှု ရှိသည်။

၅.၂။ သဘောတူညီမှုများနှင့် ခွင့်ပြုမှုများ

ဤသဘောတူညီချက်အား အတည်ပြုဆောင်ရွက်ခြင်း၊ ပေးအပ်ခြင်း၊ ဆောင်ရွက်ခြင်း နှင့် ဤသဘောတူညီချက်အားဖြင့်ရည်ရွယ်ထားသည့်လုပ်ငန်းရပ်များအားပြီးမြောက်စေရန် ဆောင်ရွက်ခြင်းသည် (၁) တတိယပုဂ္ဂိုလ်အဖွဲ့အစည်းတစ်ခု သို့မဟုတ် ယင်းထက်ပိုသည့် တတိယပုဂ္ဂိုလ် အဖွဲ့အစည်းတစ်ခုခု (အခြားစာချုပ်ချုပ်ဆိုသူ၊ MIC သို့မဟုတ် အခြားသက်ဆိုင်ရာအာဏာပိုင် တစ်ဦးဦးမှအပ မည်သည့်ပုဂ္ဂိုလ်၊ ကော်ပိုရေးရှင်း၊ အစုစပ်လုပ်ငန်း၊ ဖက်စပ်လုပ်ငန်း သို့မဟုတ် အခြားစီးပွားရေးလုပ်ငန်း သို့မဟုတ် အသင်းအဖွဲ့ ) ၏ သဘောတူမှု၊ ခွင့်ပြုမှု သို့မဟုတ် ခွင့်ပြုချက် တို့မလိုအပ်ပါ။ (၂) ကိုယ်စားပြုသည့် စာချုပ်ချုပ်ဆိုသူနှင့် သက်ဆိုင်သည့် ဥပဒေ ပြဋ္ဌာန်းချက် များကို ကြိုတင်သတိပေးခြင်းနှင့် အချိန်အတိုင်းအတာကာလတစ်ခုပေးခြင်း သို့မဟုတ် နှစ်ရပ်စလုံး ပေးခြင်းတို့ ဆောင်ရွက်သည်ဖြစ်စေ မဆောင်ရွက်သည်ဖြစ်စေ ချိုးဖောက်မည်မဟုတ်ပါ။ (၃) ကိုယ်စား ပြုသည့် စာချုပ်ချုပ်ဆိုသူ၏အခြေပစ္စည်းအပေါ်တွင် အကြောင်းကြားခြင်း သို့မဟုတ် အချိန်အတိုင်းအတာကာလတစ်ခုပေးခြင်း သို့မဟုတ် နှစ်ရပ်စလုံးတို့ကိုဆောင်ရွက်သည်ဖြစ်စေ မဆောင်ရွက်သည်ဖြစ်စေ ကိုယ်စားပြုသည့် စာချုပ်ချုပ်ဆိုသူ၏ပိုင်ဆိုင်မှုများနှင့် ပစ္စည်းများအား အာမခံထားရှိခြင်း၊ ပေါင်နှံခြင်း သို့မဟုတ် ကြွေးမြီတာဝန်ဖန်တီးခြင်းတို့ ဆောင်ရွက်ရာတွင် ဖောက်ဖျက်မှု၊ ရပ်စဲမှု၊ ပျက်ကွက်မှုကို ဖြစ်စေမည် မဟုတ်ပါ။ (ယင်းစာချုပ်ချုပ်ဆိုသူ၏ ကုမ္ပဏီအတွင်းတွင် ကြိုတင်မျှော်မှန်းသော ပိုင်ဆိုင်မှု အကျိုးခံစားခွင့်အား ကန့်သတ်မှုမရှိစေခြင်းအပါအဝင်) ယင်းကိုယ်စားပြုသည့် စာချုပ်ချုပ်ဆိုသူ၏ သင်းဖွဲ့စည်းမျဉ်းသို့မဟုတ် ဥပဒေ တစ်ခုခု၊ သဘောတူစာချုပ်၊ အပေါင်စာချုပ်၊ ယုံမှတ်အပ်နှံခြင်းဆိုင်ရာစာချုပ်၊ အငှားစာချုပ်၊ ပဋိညာဉ်စာချုပ်၊ သဘောတူစာချုပ် သို့မဟုတ် အခြား စာရွက်စာတမ်း သို့မဟုတ် အမိန့်၊ စီရင်ချက်၊ ဆုံးဖြတ်ချက်၊ ဒီကရီ၊ လွှတ်တော်မှအတည်ပြုသည့် ဥပဒေ၊ အမိန့်ပြန်တမ်း၊ နည်းဥပဒေ သို့မဟုတ်

အခြားအမျိုးအစားသို့မဟုတ် ပုံစံနှင့် ကန့်သတ်ချက်တစ်ခုခုတွင် ယင်းကိုယ်စားပြု စာချုပ်ချုပ်ဆိုသူသည် စာချုပ်ချုပ်ဆိုသူသို့မဟုတ် ထိုကန့်သတ်ချက်များအရ ယင်းစာချုပ်ချုပ် ဆိုသူ၏ပိုင်ဆိုင်မှု နှင့် ပစ္စည်းများသည် ပါဝင်အကျုံးဝင်နိုင်ပါသည်။

၅.၃။ တတိယပုဂ္ဂိုလ်ဆိုင်ရာ သဘောတူစာချုပ်များ

ကုမ္ပဏီ၏အစုရှယ်ယာ သို့မဟုတ် အစုရှယ်ယာများအား ထုတ်ရောင်းရန်ခွင့်ပြုခြင်း၊ ထုတ်ရောင်း ခြင်း သို့မဟုတ် လွှဲပြောင်းပေးအပ်ခြင်းတို့ဆောင်ရွက်ရန် အတွက် ပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်း သို့မဟုတ် အဖွဲ့အစည်းအစုအပေါင်းတစ်ခုသို့မဟုတ်အဖွဲ့အစည်း အစုအပေါင်းများအားအခွင့်အရေးပေးအပ်ထားသည့်ကိုယ်စားပြုသည့်စာချုပ်ချုပ်ဆိုသူသိရှိသော စတင်အကျိုးသက်ရောက်ပြီးဖြစ်သည့် သို့မဟုတ် ညှိနှိုင်းဆဲဖြစ်သည့် ဤသဘောတူစာချုပ်မှ အပ အခြားသဘောတူစာချုပ်မရှိပါ။

၅.၄။ တရားစွဲဆိုခြင်း

မည်သည့်တရားရုံး၊ အစိုးရဌာနဆိုင်ရာ သို့မဟုတ် အုပ်ချုပ်မှုဆိုင်ရာ စာချုပ်ချုပ်ဆိုသူ၊ အာဏာပိုင် သို့မဟုတ် ကော်မရှင်၊ ခုံသမာဓိ၊ သမာသမတ်ကျသည့် ဖြန်ဖြေရေးအဖွဲ့ သို့မဟုတ် အခြားနည်းလမ်းရှေ့မှောက်တွင် ယင်းသို့သော ကိုယ်စားပြုသည့် စာချုပ်ချုပ်ဆိုသူအား ဖြစ်လာမည့် သို့မဟုတ် ခြိမ်းခြောက်သည့် တောင်းဆိုခြင်း၊ ပိတ်ပင်ခြင်း၊ တရားစွဲဆိုခြင်း၊ ခုံဖွဲ့စီရင် ဆုံးဖြတ်ခြင်း၊ တရားရုံးတွင်အမှုဆိုင်ခြင်း သို့မဟုတ် အခြားတရားစွဲဆိုခြင်း ဆိုင်ရာ အမျိုးအစားမှန်သမျှ မရှိသလို၊ ထိုသို့သော တရားစွဲဆိုမှုများအား တစ်ဦးချင်းသို့မဟုတ် စုပေါင်း၍ ဆင်ခြင်သုံးသပ်ရာတွင် ဤသဘောတူစာချုပ်က ရည်ရွယ်ထားသည့် ဖက်စပ်လုပ်ငန်းဆိုင်ရာ ဆက်ဆံရေးအား ရုပ်ပိုင်းဆိုင်ရာ ဆိုးဆိုးဝါးဝါး အကျိုးသက်ရောက်မည်ဟုကြောင်းကျိုးဆီလျော်စွာမျှော်လင့်နိုင်စရာရှိသည့် အကြောင်းရင်း တစ်စုံတစ်ရာကိုမျှ ကိုယ်စားပြုသည့် စာချုပ်ချုပ်ဆိုသူက သတိမပြုမိပါ။

၅.၅။ စီရင်ချက်များနှင့် ဖြေရှင်းဆောင်ရွက်ခြင်းများ

ဤသဘောတူစာချုပ်က ရည်ရွယ်ထားသည့် ဖက်စပ်လုပ်ငန်းဆိုင်ရာ ဆက်ဆံရေးအား ထိခိုက်သည့် သို့မဟုတ် ရုပ်ပိုင်းဆိုင်ရာ ဆိုးဆိုးဝါးဝါး အကျိုးသက် ရောက်မည်ဟု ကြောင်းကျိုးဆီလျော်စွာ မျှော်လင့်နိုင်စရာရှိသည့် တရားရုံး၊ အစိုးရဆိုင်ရာဌာန သို့မဟုတ် အုပ်ချုပ်မှု ဆိုင်ရာ အဖွဲ့အစည်းမှန်သမျှနှင့် ပတ်သက်၍ တရားစွဲဆိုမှုနှင့် သက်ဆိုင်သည့် ဖြေရှင်းဆောင်မှုဆိုင်ရာ သဘောတူညီချက် သို့မဟုတ် စာချုပ်စာတမ်း သို့မဟုတ် စီမံဆောင်ရွက်နေမှု၊ သို့မဟုတ် စီရင်ချက်၊ ညွှန်ကြားချက်၊ အမိန့်စာချွန်၊ သတိပေးချက်၊ အမိန့် သို့မဟုတ် ကြီးကြပ်မှုဆိုင်ရာ သဘောတူညီချက် သို့မဟုတ် စာချုပ်စာတမ်း သို့မဟုတ် စီမံဆောင်ရွက်နေမှု မှန်သမျှနှင့် စပ်လျဉ်းသည့် ပျက်ကွက်မှု၊ သို့မဟုတ်

စီရင်ချက်၊ ညွှန်ကြားချက်၊ အမိန့်စာချွန်၊ သတိပေးချက်၊ အမိန့် သို့မဟုတ် ကြီးကြပ်မှု ဆိုင်ရာ သဘောတူညီချက် သို့မဟုတ် ကြိုတင်ပြင်ဆင် ချက်၊ သဘောတူညီမှု သို့မဟုတ် အခြားနည်းလမ်း မှန်သမျှနှင့် စပ်လျဉ်းသည့် ပျက်ကွက်မှု မှန်သမျှ စသည်တို့တွင် ထိုသို့သော ကိုယ်စား ပြုသည့် စာချုပ်ချုပ်ဆိုသူသည် ပါဝင်ပတ်သက်ခြင်း၊ သက်ဆိုင်ခြင်း သို့မဟုတ် ဩဇာလွှမ်းမိုးခံရခြင်း မရှိပေ။

၅.၆။ အရေးပါသောပြောင်းလဲမှုဖြစ်ရပ် ဖြစ်ပွားမှုမရှိခြင်း

ဤသဘောတူစာချုပ်နှင့်စပ်လျဉ်းသည့်၊ ဤသဘောတူစာချုပ်တွင် ဖေါ်ပြထားခြင်း မရှိသည့် သို့မဟုတ် အခြား စာချုပ်ချုပ်ဆိုသူထံ စာဖြင့်ရေးသားကာ အခြား နည်းလမ်းဖြင့် ဖေါ်ပြထားသည့် ယင်း၏ဆောင်ရွက်မှုကို ရုပ်ပိုင်းဆိုင်ရာထိခိုက်စေမည်ဟု ကြောင်းကျိုး ဆီလျော်စွာ မျှော်လင့်နိုင်စရာရှိသည့် အတွက်၊ ထိုသို့သော စာချုပ်ချုပ်ဆိုသူ၏ လုပ်ငန်း၊ စီမံဆောင်ရွက်မှုများ သို့မဟုတ် ပိုင်ဆိုင်ပစ္စည်းများ အရေးပါ သောပြောင်းလဲမှုဖြစ်ရပ်မျိုး ပေါ်ပေါက်ခဲ့သည် ဆိုသည့် အကြောင်းအချက် သို့မဟုတ် ပေါ်ပေါက်လာမည်ဟု ကိုယ်စားပြုသည့်စာချုပ်ချုပ်ဆိုသူက သတိပြုမိခြင်းမရှိပါ။

၅.၇။ ယုံကြည်စိတ်ချရမှု၊ ထိရောက်မှုနှင့် ဆက်လက်တည်တံ့နေမှု

ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ ကိုယ်စားပြုသည့် စာချုပ်ချုပ်ဆိုသူတစ်ဦးစီက ပြုလုပ် ခဲ့သည့် ကိုယ်စားပြုမှုများ၊ အာမခံမှုများ၊ ဖော်ထုတ်ပြုလုပ်သည့်သဘောတူချက်နှင့် သဘောတူညီချက်များအားလုံးသည်၊ ဤ အပိုဒ် ၅ တွင် ပါဝင်သည်ဖြစ်စေ သို့မဟုတ် ဤ စာချုပ် တစ်နေရာရာတွင် အချက်အလက်အဖြစ် ပါဝင်သည် ဖြစ်စေ၊ MPPE သို့မဟုတ် Puma Energy တို့အတွက် ဤ သဘောတူစာချုပ်တွင် ပါဝင်ချုပ်ဆိုရန် ယုံကြည် လက်ခံစေမှုများ (အခြေအနေပေါ် မူတည်၍) ဖြစ်ကြသည့်အပြင်၊ ပထမကြိုတင် စည်းကမ်းသတ်မှတ်ချက်များကို ဖြည့်ဆည်းဆောင်ရွက်ပြီးသည့် သို့မဟုတ် စွန့်လွှတ်သည့် ရက်စွဲတွင် ပြန်လည်ပြင်ဆင်ရန်ကိုလည်း ထည့်သွင်း စဉ်းစားရမည်ဖြစ်သည်။ ထို့အပြင် အပိုဒ် ၅ တွင်ပါဝင်သည့် ကိုယ်စားပြုမှုများနှင့် အာမခံလက်မှတ်များတို့သည် ဤသဘောတူစာချုပ်၏ပထမကြိုတင်စည်းကမ်းသတ်မှတ်ချက်များကို ဖြည့်ဆည်း ဆောင်ရွက် ပြီးသည့် သို့မဟုတ် စွန့်လွှတ်သည့် ရက်စွဲတွင် ဆက်လက်၍ အသက်ဝင် နေမည် ဖြစ်သည်။ ဤ သဘောတူစာချုပ်တွင် ကိုယ်စားပြုသည့် အဖွဲ့ အစည်းတစ်ခု၏ သိရှိမှု သို့မဟုတ် အလားတူ အကျိုးသက်ရောက်မှု အဖြစ် ဖေါ်ပြထားသည့် ကိုယ်စားပြုမှု နှင့် အာမခံမှု တစ်ရပ် သို့မဟုတ် နှစ်ခုစလုံး၊ ရှိသည့် မည်သည့်အချိန်တွင်မဆို၊ ကိုယ်စားပြုသည့် စာချုပ်ချုပ် ဆိုသူ နှင့် ယင်း၏ ကုမ္ပဏီဆိုင်ရာ အရာရှိ(များ) သို့မဟုတ် ဒါရိုက်တာ(များ) မှန်သမျှ သို့မဟုတ် နှစ်ခုစလုံး တို့က ပထမကြိုတင်စည်းကမ်း သတ်မှတ်ချက်များကို ဖြည့်ဆည်းဆောင်ရွက်ပြီးသည့် သို့မဟုတ် စွန့်လွှတ်သည့် ရက်စွဲ မတိုင်မီ မည်သည့် အချိန်တွင်မဆို (၁) အမှန်တကယ် သိသည့် သို့မဟုတ် သိခဲ့သည့် သို့မဟုတ် (၂) ကျိုးကြောင်းသင့်စွာ သိထားသင့်သည့် သတင်းအချက်အလက်များ အား ဖွင့်ဆို သို့မဟုတ် ဖေါ်ပြရန် ယင်းသို့သော ဝေါဟာရကို ရည်ရွယ်ထားသည်။ ဤ

သဘောတူ စာချုပ်အောက်ရှိ ကိုယ်စားပြုမှု သို့မဟုတ် အာမခံမှုအား ယင်းကိုယ်တိုင်က မှားယွင်းစွာတင်ပြခြင်းသို့မဟုတ်လိုက်နာရန်ပျက်ကွက်ခြင်းတစ်ရပ်ကိုသိရှိသည့်မည်သည့် စာချုပ်ချုပ်ဆိုသူကမဆို ယင်းနှင့် သက်ဆိုင်သည့် စာဖြင့်ရေးသားထားသော သတိပေးချက်အား အခြား စာချုပ်ချုပ်ဆို သူသို့ ချက်ချင်း ပေးပို့ရမည်။

၆။ အစုရှယ်ယာရှင်များ

၆.၁။ အစည်းအဝေးများ၊ အစည်းအဝေးထမြောက်ရန် လူဦးရေနှင့် ဆန္ဒမဲ ပေးခြင်း

၆.၁.၁။ အစုရှယ်ယာရှင်များ၏ သင်းလုံးကျွတ် အစည်းအဝေးသည် အစုရှယ်ယာရှင်များက အခါအားလျော်စွာ ဆုံးဖြတ်နိုင်သည့်အတိုင်း၊ ယင်းသို့သော နေ့ရက်တွင် နှင့် ယင်းသို့သော နေရာဌာန၌ တစ်နှစ်လျှင် တစ်ကြိမ် ထက်မနည်း သင်းလုံးကျွတ် အစည်းအဝေးအား အစုရှယ်ယာရှင်များက ကျင်းပရမည်။ သို့ရာတွင် မည်သည့် အခြေအနေတွင်မဆို၊ ပြက္ခဒိန် နှစ် တစ်နှစ်စီ ၏ ဇန်နဝါရီလ ၃၁ ရက်ထက် နောက်မကျစေရ။

၆.၁.၂။ အစုရှယ်ယာရှင်များနှင့် သက်ဆိုင်သည့် ကုမ္ပဏီ၏ နှစ်ပတ်လည် အစည်းအဝေးမှအပ၊ အခြားသော အစည်းအဝေးမှန်သမျှအား အထူးသင်းလုံးကျွတ်အစည်းအဝေးဖြစ်သည်ဟု မှတ်ယူ ရမည်။ ဥက္ကဌ သို့မဟုတ် ခေါ်ငွေများအားလုံးနှင့် ထိုအချိန်တွင် ပေးရန်ရှိသည့် အခြားငွေများကို ပေးဆပ်ပြီးသည့် ကုမ္ပဏီ၏ ရောင်းချပြီးသော ရှယ်ယာမတည်ငွေ၏ အနည်းဆုံး ဆယ် (၁၀) ရာခိုင်နှုန်းကိုပိုင်ဆိုင်ထားသည့်အစုရှယ်ယာရှင်များ (တစ်ဦးတည်းသော်လည်းကောင်း ယင်းတို့၏အဖွဲ့ဝင်များနှင့်အတူတကွ သော် လည်းကောင်း) ကသာလျှင် အစုရှယ်ယာရှင်များ၏ အထူး သင်းလုံးကျွတ်အစည်းအဝေး များကို ခေါ်ဆိုနိုင်သည်။ ဤ သဘောတူစာချုပ်၏ ပြဋ္ဌာန်းချက်များနှင့်အညီ နှင့် အစုရှယ်ယာရှင်အားလုံးအတွက် အထူးသင်းလုံးကျွတ် အစည်းအဝေးကျင်းပသည့် ရက်မတိုင်မီ အနည်းဆုံးရက်ပေါင်း တစ်ဆယ့်လေး (၁၄) ရက် ကြိုတင်၍ အထူးသင်းလုံးကျွတ် အစည်းအဝေးအားကြိုတင်အကြောင်းကြားရမည်ဖြစ်ပြီး၊ ထိုသို့သော အစည်းအဝေးအတွက် အချိန်၊ နေရာနှင့် လုပ်ငန်းစဉ် စသည်တို့ကို အတိအကျ ဖေါ်ပြရမည်။

၆.၁.၃။ ထုတ်ရောင်းပြီး၍ ထည့်ဝင်ပြီးဖြစ်သည့် အစုရှယ်ယာများ၏ ခုနစ်ဆယ့်ငါး (၇၅) ရာခိုင်နှုန်း ထက်မနည်းအား ပိုင်ဆိုင်ထားသည့် ရှယ်ယာရှင် လူကိုယ်တိုင် သို့မဟုတ် ရှယ်ယာရှင်များ၏ကိုယ်စားလှယ်တက်ရောက်မှုသည်စာချုပ်ချုပ်ဆိုသူများ၏အစည်းအဝေးမှန်သမျှတွင် လုပ်ငန်းဆောင်ရွက်မှုအတွက် သတ်မှတ်ဦးရေ ဖြစ်သည်။ နည်းလမ်းတကျ ခေါ်ဆိုထားသည့်အစည်းအဝေးတစ်ရပ်တွင် သတ်မှတ်ဦးရေ မရှိခဲ့ပါက၊ ထိုအစည်းအဝေးအား ရုပ်သိမ်းရမည် ဖြစ်ပြီး၊ သတ်မှတ်လူဦးရေတစ်ရပ် မရှိသည့် အစည်းအဝေး နောက်ပိုင်း ပြက္ခဒိန်ရက် ခုနစ် (၇) ရက် အတွင်း စာချုပ်ချုပ်ဆိုသူများ၏ အစည်းအဝေး တစ်ရပ် (ရွှေ့ဆိုင်းထားသည့်အစုရှယ်ယာရှင်အစည်းအဝေး) ကို ဥက္ကဌက ခေါ်ယူရမည်။

ထုတ်ရောင်းပြီး၍ ထည့်ဝင်ပြီးဖြစ်သည့် အစုရှယ်ယာများ၏ လေးဆယ့် ကိုး (၄၉) ရာခိုင်နှုန်း ထက်မနည်းအား ပိုင်ဆိုင်ထားသည့် ရှယ်ယာရှင် လူကိုယ်တိုင် သို့မဟုတ် ရှယ်ယာရှင်များ၏ ကိုယ်စားလှယ်တက်ရောက်မှုသည် ထိုသို့သော စာချုပ်ချုပ်ဆိုသူများ၏ နောက်ဆက်တွဲ အစည်းအဝေး အတွက် သတ်မှတ်ဦးရေ တစ်ရပ် ဖြစ်ရမည်။

၆.၁.၄။ ဆန္ဒမဲပေးခွင့်ရှိသည့် ထုတ်ရောင်းပြီး၍ ထည့်ဝင်ပြီးဖြစ်သည့် အစုရှယ်ယာတစ်စု စီသည် စာချုပ်ချုပ်ဆိုသူများ၏ အစည်းအဝေးတစ်ရပ်တွင် မဲတစ်မဲ အဆိုပြုသည့် ကိစ္စရပ် တစ်ခုစီနှင့် စပ်လျဉ်း၍ မဲတစ် (၁) မဲ ပေးပိုင်ခွင့် ရှိသည်။ ပို၍ အဆင့်တစ်ရပ် မြင့်သည့် ခွင့်ပြုချက်ကို လိုအပ်ပါက၊ သတ်မှတ်လူဦးရေ တက်ရောက်သည့် စာချုပ်ချုပ်ဆိုသူ များ၏ အစည်းအဝေးတစ်ရပ်တွင် ကိုယ်စားပြုပြီး မဲပေးသည့် အစုရှယ်ယာများ၏ အနည်းဆုံး မဲငါးဆယ့်နှစ် ရာခိုင်နှုန်း (၅၂%) သည် စာချုပ်ချုပ်ဆိုသူများ၏ ဆောင်ရွက်ချက် ဖြစ်ရမည် နှင့် ဖြစ်သည့်အပြင်၊ နှစ်ပတ်လည် သင်းလုံးကျွတ်အစည်းအဝေးနှင့် အထူး သင်းလုံးကျွတ် အစည်းအဝေး မှန်သမျှတွင် စာချုပ်ချုပ်ဆိုသူများ ရှေ့မှောက်၌ ကိစ္စရပ် အားလုံးအား ဆောင်ရွက်မှု မှန်သမျှနှင့် ပတ်သက်၍လည်း လိုအပ်မည် ဖြစ်သည်။

၆.၂။ ကိုယ်စားလှယ်များ

အစုရှယ်ယာရှင်တစ်ဦးစီသည် မှန်ကန်စွာခွင့်ပြုထားသည့် ကိုယ်စားလှယ် သို့မဟုတ် ကိုယ်စားလှယ် ရှေ့နေ တစ်ဦးမှတဆင့် ယင်း၏ အစုရှယ်ယာများအတွက် ဆန္ဒမဲ ပေးနိုင်သည်။ အလားတူ အရေးယူဆောင်ရွက်နေသည့် စာချုပ်ချုပ်ဆိုသူက အချိန် အတိုင်းအတာတစ်ခုကို ဆက်လက်အသက်ဝင်နေစေရန်အတွက် ဤနေရာတွင် သတ်မှတ်မထားခဲ့ပါက သို့မဟုတ် သက်ဆိုင်ရာ အစည်းအဝေး တစ်ရပ်အတွက် ယင်း၏ခန့်အပ်မှုကို ကန့်သတ်မထားခဲ့ပါက၊ ခန့်အပ်သည့် ရက်မှ ဆယ့်နှစ် (၁၂) လ ကုန်ဆုံးပြီးသည့်နောက်တွင်ကိုယ်စားလှယ်တစ်ဦးအားခန့်အပ်မှုသည်တရားဝင်သက်တမ်း ကုန်ဆုံးသည်။ သို့ရာတွင် ယင်းကို အရေးယူဆောင်ရွက်ပြီးသည့် ရက်မှ သုံး (၃) နှစ် ပြည့်ပြီးသည့်နောက်တွင် မည်သည့် ကိုယ်စားလှယ် ခန့်အပ်မှုမှ တရားဝင် တော့မည် မဟုတ်။

၆.၃။ အစည်းအဝေးကျင်းပခြင်းမရှိဘဲ စာချုပ်ချုပ်ဆိုသူများ၏ ဆောင်ရွက်မှု

မြန်မာနိုင်ငံ၏ ဥပဒေများဆိုင်ရာ စည်းမျဉ်းပြဌာန်းချက်အရ မဖြစ်မနေ လိုအပ်ချက်များ နှင့် အပိုဒ် ၈ (သီးသန့်ကိစ္စရပ်များ) အပေါ် မူတည်၍ စုပေါင်း အစုရှယ်ယာပိုင်ဆိုင်မှု ရာခိုင်နှုန်း ခုနစ်ဆယ့်ငါး (၇၅%) ထက်မနည်း ရှိသည့် အစုရှယ်ယာရှင်တစ်ဦး သို့မဟုတ် အစု ရှယ်ယာရှင်များက လက်မှတ်ထိုးထားသည့် စာဖြင့်ရေးသားထားသော ဆုံးဖြတ်ချက် တစ်ရပ် သို့မဟုတ် အစုရှယ်ယာရှင်များ၏ ဆုံးဖြတ်ချက်နှင့် စပ်လျဉ်း သည့် စာတစ်စောင် သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသည့် အစည်းအဝေးတစ်ရပ်တွင် ချမှတ်ခဲ့ပြီး

ဖြစ်သည့် ဆုံးဖြတ်ချက်တစ်ခုအလား တရားဝင် ဖြစ်ရမည်။ "စာဖြင့်ရေးသားထားသော" နှင့် "လက်မှတ်ထိုးထားသည့်" ဆိုသည့် အသုံးအနှုန်းများတွင် တယ်လီဖက်(စ)၊ ဒီဂျီတယ်လ် သို့မဟုတ် အီလက်ထရောနစ်စနစ်ဖြင့် ထိုးမြဲလက်မှတ် သို့မဟုတ် ထိုသို့သောစာချုပ်ချုပ်ဆိုသူ မှန်သမျှက မြန်မာနိုင်ငံ၏ ဥပဒေများအရ ခွင့်ပြုချက် သို့မဟုတ် ရည်ညွှန်းချက်ဆိုင်ရာ အခြားနည်းလမ်းမျိုးနှင့် ပတ်သက်သည့် ခွင့်ပြုချက် ပါဝင်သည်။

၆.၄။ လူကိုယ်တိုင်တက်ရောက်ခြင်းမဟုတ်သည့်အစည်းအဝေးတက်ရောက်ခြင်း

မည်သည့်စာချုပ်ချုပ်ဆိုသူမဆို အစုရှယ်ယာရှင်များ၏အစည်းအဝေး မှန်သမျှအား အစည်းအဝေးသို့တက်ရောက်သူများအားလုံးကြားနိုင်သည့်၊ အဆိုပါအစည်းအဝေးသို့ တက်ရောက်သူ များအားလုံးကို လည်းကြားနိုင်သည့် နည်းလမ်းဖြင့် အစည်းအဝေးတစ်ရပ် သို့ အခြားဒါရိုက်တာများ လူကိုယ်တိုင်တက်ရောက်ချိန်တွင် လူကိုယ်တိုင်ဖြစ်စေ၊ တယ်လီဖုန်းမှတစ်ဆင့် ဖြစ်စေ၊ videoconferencing စနစ်ဖြင့်ဖြစ်စေ၊ အခြား ရုပ်မြင်သံကြားဆက်သွယ်ရေးစနစ်တစ်ခုဖြင့်ဖြစ်စေ တက်ရောက်နိုင်သည်။ အဆိုပါ စာချုပ်ချုပ်ဆိုသူအား အစည်းအဝေးတက်ရောက်သည်ဟုမှတ်ယူရမည်ဖြစ်ပြီး အဆိုပါအစည်းအဝေး အထမြောက်ရန် အတွက်လိုအပ်သည့် လူဦးရေတွင်လည်း ထည့်သွင်းရေတွက်ရမည်။

၆.၅။ ဘာသာစကား

အစုရှယ်ယာရှင်များ၏ အစည်းအဝေးအားလုံးကို အင်္ဂလိပ် ဘာသာစကားဖြင့် ဆောင်ရွက်ရမည်။

၇။ ဒါရိုက်တာများ၏ ဘုတ်အဖွဲ့

၇.၁။ အရေအတွက်၊ ခန့်အပ်မှုနှင့် တာဝန်များ

၇.၁.၁။ ကုမ္ပဏီ၏ ဘုတ်အဖွဲ့ကို ဖွဲ့စည်းထားသည့် ဒါရိုက်တာများ၏ အရေအတွက်သည် ဒါရိုက်တာ ငါး (၅) ဦး ရှိရမည်။ ဒါရိုက်တာ နှစ် (၂) ဦးကို MPPE က ခန့်အပ်ရမည်။ Puma Energy က ဒါရိုက်တာ နှစ် (၂) ဦးကို ခန့်အပ်ရမည်။ အစုရှယ်ယာရှင်တစ်ဦးသည် ၎င်း၏တရားဝင်လွှဲပြောင်းပေးအပ်ခြင်းခံရသူများနှင့်အတူအခါအားလျော်စွာရှယ်ယာအများ ဆုံးပိုင်ဆိုင်ထားလျှင် အဆိုပါအစုရှယ်ယာရှင်သည် ဒါရိုက်တာတစ် (၁) ဦးအား ထပ်မံ အမည်စာရင်းတင်သွင်းခွင့်ရှိသည်။

၇.၁.၂။ စာချုပ်ချုပ်ဆိုသူသည် ဒါရိုက်တာတစ်ဦးအား အမည်စာရင်းတင်သွင်းခွင့်ရှိသည့် အလျောက် Puma Energy က အမည်စာရင်းတင်သွင်းသည့်ဒါရိုက်တာတစ်ဦးချင်းစီကို

Puma ဒါရိုက်တာဟု လည်းကောင်း၊ MPPE က အမည်စာရင်းတင်သွင်းသည့် ဒါရိုက်တာတစ်ဦးချင်းစီကို MPPE ဒါရိုက်တာ ဟု ခေါ်ဆိုရမည်။

၇.၁.၃။ ဒါရိုက်တာတစ်ဦးစီက အလှည့်ကျ ဒါရိုက်တာများ (တစ်ဦးစီတွင် အလှည့်ကျ တစ်ဦး) အား စည်းမျဉ်းများနှင့် သက်ဆိုင်ဥပဒေ တို့၏ ပြဋ္ဌာန်းချက်များနှင့်အညီ ခန့်အပ်ပိုင်ခွင့် ရှိရမည်။ ယင်းသို့ခန့်အပ်ထားသည့် အလှည့်ကျသူ တစ်ဦးဘုတ်အဖွဲ့၏ အစည်းအဝေးအားလုံးနှင့် သက်ဆိုင်သည့် ကြေညာချက်ကို ရရှိရန်နှင့် တက်ရောက်ရန် အပြင် ယင်းအား ခန့်အပ်သည့် ဒါရိုက်တာ ကိုယ်တိုင် မတက်ရောက်သည့် အစည်းအဝေးတွင် ဆန္ဒမဲပေးပိုင်ခွင့် ရှိသည့်အပြင်၊ ယေဘုယျအားဖြင့် သူ၏ ခန့်အပ်သူ မရှိ သည့်အချိန်တွင် သူ၏ ခန့်အပ်သူက လုပ်ဆောင်ရန် အခွင့်ရှိသည့် သို့မဟုတ် လုပ်ပိုင်ခွင့်အာဏာရထားသည့် ကိစ္စရပ်အားလုံးကို ဆောင်ရွက် ရန် အခွင့်ရှိသည်။ သူ၏ ခန့်အပ်သူမရှိသည့်အချိန်တွင် သီးခြားဒါရိုက်တာတစ်ဦး ဖြစ်သည့် အလှည့်ကျသူ တစ်ဦးသည်

(က) သူ၏ ကိုယ်ပိုင် မဲအပြင် သူ၏ခန့်အပ်သူကိုယ်စား သီးခြား မဲတစ်မဲ ပေးပိုင် ခွင့်ရှိသည်။ ထို့အပြင်

(ခ) သူကိုယ်တိုင်အတွက် နှင့် ဒါရိုက်တာအတွက် သူကအလှည့်ကျသူ အနေနှင့် ဘုတ်အဖွဲ့၏ အစည်းအဝေးထမြောက်ရန် လိုအပ်သည့် လူဦးရေ၏ အဖွဲ့ဝင်အဖြစ် ရေတွက်ခံပိုင်ခွင့်ရှိသည်။

အကယ်၍ ထိုသို့သော အလှည့်ကျသူသည် ဒါရိုက်တာတစ်ဦး ထက်ပို၍ ကိုယ်စားပြု ခဲ့မည်ဆိုပါက၊ ထိုသို့ဆိုလျှင် ယင်းသို့သော အလှည့်ကျသူသည် သူကိုယ်စားပြုသည့် ဒါရိုက်တာ တစ်ဦးစီအတွက် မဲတစ် (၁) မဲ ရပိုင်ခွင့်ရှိ သည်။

၇.၁.၄။ ဘုတ်အဖွဲ့သို့ စာချုပ်ချုပ်ဆိုသူများ၏ သက်ဆိုင်ရာ အဆိုပြုခံရသူများအား ရွေးကောက် တင်မြှောက်ရေးနှင့် စပ်လျဉ်း၍ စာချုပ်ချုပ်ဆိုသူ တစ်ဦးစီသည် ဤစာချုပ်နှင့် ညီညွတ်မှုရှိသည့် နည်းလမ်းအတိုင်း မဲပေးရမည်။

၇.၁.၅။ ဒါရိုက်တာ တစ်ဦးစီသည် တစ် (၁) နှစ်တာ ကာလအတွက် သို့မဟုတ် သူ၏ ကွယ်လွန်ခြင်း၊ နုတ်ထွက်ခြင်း၊ အနားယူယူခြင်း၊ ဖယ်ရှားခြင်း သို့မဟုတ် အရည် အချင်းမပြည့်မီခြင်းတို့ဖြစ်ပွားသည့်တိုင်အောင်တာဝန်ယူရမည်။ဘုတ်အဖွဲ့၏နှစ်ပတ်လည် သင်းလုံးကျွတ် အစည်းအဝေးတစ်ရပ်စီတွင် ဒါရိုက်တာများ၏ သုံးပုံတစ်ပုံ (သို့မဟုတ် သုံးပုံတစ်ပုံနှင့် အနီးစပ်ဆုံး အရေအတွက်)သည် တာဝန်မှ အနားယူရသည်။ အနား ယူသည့် ဒါရိုက်တာတစ်ဦးသည် ယင်းသို့သော ဒါရိုက်တာအား ခန့်အပ်ခဲ့သည့် အစု ရှယ်ယာရှင်က ဘုတ်အဖွဲ့ထံ အဆိုပြုသည့် ပြန်လည်ရွေးကောက်ခြင်းနှင့် ပြန်လည်

ခန့်အပ်ခြင်း တို့အတွက် အခွင့်အရေးရှိရမည်။ အကယ်၍ တစ်ချိန်တည်းတွင် ဒါရိုက်တာဖြစ်လာကြသူများ၊ အနားယူတော့မည့် ပုဂ္ဂိုလ်များအကြား (ယင်းတို့အကြား အခြားနည်းလမ်းနှင့် သဘောတူမှု မရှိခဲ့ပါက) မဲနှိုက်ခြင်း အားဖြင့် ဆုံးဖြတ်ရမည် ဆိုပါက၊ နှစ်စဉ်အနားယူမည့် ဒါရိုက်တာများသည် ယင်းတို့အား နောက်ဆုံး ရွေးချယ် တင်မြှောက်ပြီးသည့်အချိန်မှစ၍ အကြာဆုံးတာဝန်ယူခဲ့ကြသည့်ပုဂ္ဂိုလ်များဖြစ်ရမည်။ အစုရှယ်ယာရှင်တစ်ဦးက ခန့်အပ်ထားသည့် ဒါရိုက်တာ တစ်ဦးသည် အကြောင်းတစ်စုံတစ်ရာကြောင့် ဒါရိုက်တာ အဖြစ်မှ ရပ်နားသွားခဲ့ပါက၊ ထို အစုရှယ်ယာရှင်သည် အခြား ဒါရိုက်တာကို ချက်ချင်း ခန့်အပ်ရန် အခွင့် ရှိရမည်။ အပိုဒ် ၇ အရ အစုရှယ်ယာရှင် တစ်ဦးအား အပ်နှင်းထားသည့်ခန့်အပ်ခြင်းဆိုင်ရာ လုပ်ပိုင်ခွင့်တွင်၊ ယင်းသို့သော ပုဂ္ဂိုလ်က ဒါရိုက်တာတာဝန်ကိုထမ်းဆောင်နေရမည့်ကာလအား မည်သည့်အချိန်မဆိုနှင့် မကြာခဏဆိုသလိုသတ်မှတ်ပြဌာန်းရန် ထိုအစုရှယ်ယာရှင်၏လုပ်ပိုင်ခွင့် ပါဝင်ရမည်။

၇.၁.၆။ စာချုပ်ချုပ်ဆိုသူတစ်ဦး နှင့် ၎င်း၏တရားဝင်လွှဲပြောင်းပေးအပ်ခြင်းခံရသူများက ပိုင်ဆိုင်ထားသည့် အစုရှယ်ယာအားလုံးကို ရောင်းချခြင်း၊ လွှဲအပ်ခြင်း သို့မဟုတ် အခြားနည်းလမ်းဖြင့်စီမံဆောင်ရွက်ခြင်း သို့မဟုတ် အစုရှယ်ယာများ ထုတ်ရောင်းခြင်း မှန်သမျှပြီးမြောက်သည့်ကာလတွင်၊ အဆိုပါစာချုပ်ချုပ်ဆိုသူ နှင့် ၎င်း၏ တရားဝင် လွှဲပြောင်းပေးအပ်ခြင်းခံရသူများ၏အစုရှယ်ယာပိုင်ဆိုင်မှုသည် ၎င်းခန့်အပ်မည့် ဒါရိုက်တာ များအားအမည်စာရင်းတင်သွင်းရန် (အပိုဒ် ၇.၁.၁ နှင့်အညီ ထပ်မံအမည် စာရင်း တင်သွင်းသော ဒါရိုက်တာတစ်ဦး အပါအဝင်) လိုအပ်သည့် အစုရှယ်ယာပမာဏ သို့မဟုတ် ရှယ်ယာပိုင်ဆိုင်မှုရာခိုင်နှုန်းအောက်လျော့နည်းနေပါက(သို့မဟုတ် အစုရှယ်ယာ ပိုင်ဆိုင်မှု ရာခိုင်နှုန်းလျော့နည်းနေပါက) အဆိုပါရှယ်ယာများအား လွှဲပြောင်းပေးအပ်သည့် အချိန်တွင် စာချုပ်ချုပ်ဆိုသူတစ်ဦးနှင့်၎င်း၏တရားဝင်လွှဲပြောင်းပေးအပ်ခြင်းခံရသူများ ပိုင်ဆိုင်သည့် သက်ဆိုင်ရာအစုရှယ်ယာများအားလုံးကို ရောင်းချခြင်း၊ လွှဲအပ်ခြင်း သို့မဟုတ် အခြားနည်းလမ်းစီမံဆောင်ရွက်ခြင်းမှန်သမျှ ပြီးမြောက်သည့်ကာလမှစတင်၍ သို့မဟုတ် အစုရှယ်ယာအသစ်များ ထုတ်ရောင်းခြင်း ကြောင့် အဆိုပါစာချုပ်ချုပ်ဆိုသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုရာခိုင်နှုန်းများလျော့ကျသော ကာလမှစတင်၍ အဆိုပါစာချုပ်ချုပ်ဆိုသူက ဘုတ်အဖွဲ့ထံအမည်စာရင်းတင်သွင်းထားသော ဒါရိုက်တာတစ်ဦးချင်းစီ ရာထူးမှ နုတ်ထွက်ရန် ဆောင်ရွက်ရမည့် အပြင်၊ ဒါရိုက်တာ အနေနှင့် သူ သို့မဟုတ် သူမ၏ တာဝန်မှ ဖယ်ရှားခံရခြင်း သို့မဟုတ် လက်လွှတ်ရခြင်းကြောင့် ပေါ်ပေါက်လာသည့် မတရား သို့မဟုတ် တရားမျှတမှုမရှိသော အလုပ်မှထုတ်ပယ်ခြင်း သို့မဟုတ် အလုပ်လက်မဲ့ဖြစ်ရခြင်း သို့မဟုတ် အခြားသော နစ်နာကြေးများအတွက် သူ သို့မဟုတ် သူမက တောင်းဆိုမှု မှန်သမျှကို လုံးဝစွန့်လွှတ်ရန် သဘောတူရန်လည်း ဆောင်ရွက်ရမည်။

၇.၁.၇။ ကုမ္ပဏီ၏ ဒါရိုက်တာများသည် ယင်းတို့၏ ဒါရိုက်တာများအဖြစ် ဆောင်ရွက်မှုအတွက် မည်သည့် အခကြေးငွေကိုမျှ ခံစားပိုင်ခွင့် ရှိမည် မဟုတ်ပါ။

၇.၂။ ဥက္ကဋ္ဌ

ဘုတ်အဖွဲ့၏ဥက္ကဋ္ဌရာထူးအား အခါအားလျော်စွာ ရှယ်ယာပိုင်ဆိုင်မှုအများဆုံးဖြစ်သည့် အစုရှယ်ယာပိုင်ရှင်က ဒါရိုက်တာများထဲမှ ရွေးချယ်ဆုံးဖြတ်ရမည်။ (ဤနည်းဖြင့် ခန့်အပ်ထားသူသည် ဥက္ကဋ္ဌ ဖြစ်သည်) ဘုတ်အဖွဲ့၏သင်းလုံးကျွတ်အစည်းအဝေး၌ ဆုံးဖြတ်ချက်တစ်ခု နှင့်စပ်လျဉ်း၍ မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက ဥက္ကဋ္ဌသည် မဲတစ်မဲထပ်မံပေးခွင့်မရှိပါ။

၇.၃။ အစည်းအဝေးများ၊ အစည်းအဝေးဖြစ်မြောက်ရန်လိုအပ်သည့် လူဦးရေ၊ ဆန္ဒမဲပေးခြင်း

၇.၃.၁။ ဘုတ်အဖွဲ့၏အစည်းအဝေးများအား ဘုတ်အဖွဲ့က အခါအားလျော်စွာ ဆုံးဖြတ်သတ်မှတ်၍ ဖေါ်ပြထားသည့်အတိုင်း၊ ယင်းသို့သော ရက်နှင့် ယင်းသို့သော နေရာဌာနတွင် တစ်နှစ်လျှင် တစ်ကြိမ်ထက်မနည်းကျင်းပရမည်။ အချိန်၊ နေရာဌာန၊ နှင့် အစည်းအဝေးခေါ်ဆိုရသည့် ရည်ရွယ်ချက် စသည်တို့အား ရေးသားထားသည့်အပြင်၊ ဤသဘောတူစာချုပ်၏ ပြဋ္ဌာန်းချက် များနှင့် အညီ ပေးပို့ထားသည့် အကြောင်းကြားစာဖြင့် ဆယ် (၁၀) ရက် ကြိုတင်၍ မည်သည့် ဒါရိုက်တာ နှစ်ဦး (၂) ဦးကမဆို ဘုတ်အဖွဲ့၏ အစည်းအဝေးများကို ခေါ်ဆိုနိုင်သည်။

၇.၃.၂။ ဘုတ်အဖွဲ့၏ အစည်းအဝေးဖြစ်မြောက်ရန်အတွက်လူဦးရေသည် အနည်းဆုံး ဒါရိုက်တာ နှစ် (၂) ဦး ဖြစ်ရမည်။ သို့ရာတွင် အဆိုပါဒါရိုက်တာ (၂) ဦးထဲတွင် အနည်းဆုံးဒါရိုက်တာတစ် (၁) ဦးသည် MPPE ဒါရိုက်တာတစ်ဦးဖြစ်ရမည်ဖြစ်ပြီး အခြားဒါရိုက်တာတစ်ဦးသည် Puma ဒါရိုက်တာ တစ်ဦးဖြစ်ရမည်။ နည်းလမ်းတကျခေါ်ဆိုထားသည့် အစည်းအဝေးတစ်ရပ်တွင် သတ်မှတ်ဦးရေ မရှိခဲ့ပါက၊ ထိုအစည်းအဝေးအားရုပ်သိမ်းရမည် ဖြစ်ပြီး၊ သတ်မှတ် လူဦးရေ တစ်ရပ် မရှိသည့် အစည်းအဝေး နောက်ပိုင်း ပြက္ခဒိန်ရက် ခုနစ် (၇) ရက် အတွင်း စာချုပ်ချုပ်ဆိုသူများ၏ အစည်း အဝေးတစ်ရပ် (ရွှေ့ဆိုင်းထားသည့်အစုရှယ်ယာရှင်အစည်းအဝေး) ကို ဥက္ကဋ္ဌက ခေါ်ယူ ရမည်။ အဆိုပါ ရွှေ့ဆိုင်းထားသည့်အစုရှယ်ယာရှင်အစည်းအဝေးတွင် မည်သည့်ဒါရိုက်တာနှစ်ဦးမဆို တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။

၇.၃.၃။ ဥက္ကဋ္ဌ အပါအဝင် ဒါရိုက်တာတစ်ဦးစီသည် ဘုတ်အဖွဲ့၏အစည်းအဝေးတစ်ရပ်၌ မဲခွဲ ဆုံးဖြတ်ရန်တင်သွင်းသည့် ကိစ္စရပ်တစ်ခုစီတွင် မဲ တစ် (၁) မဲ ပေးပိုင်ခွင့်ရှိသည်။ (သို့သော်ငြားလည်း ဒါရိုက်တာများသည် ယင်းတို့အား အလှည့်ကျသူတစ်ဦးအဖြစ်လည်း

ခန့်အပ်ထားသည့်အခါတွင် နောက်ထပ်မဲ တစ်(၁) မဲ ပေးပိုင်ခွင့် ရှိသည်။) အောက်တွင်ဖော်ပြပါအတိုင်း တစ်သီးတစ်သန့် လိုအပ်ခဲ့မည် မဟုတ်ပါက၊ (အပိုဒ် ၈ နှင့် အပိုဒ် ၉.၁ တွင် ဖော်ပြထားမှု အပါအဝင်) သတ်မှတ်လူဦးရေအပြည့်တက်ရောက်သည့် ဘုတ်အဖွဲ့၏ အစည်းအဝေး တစ်ရပ်တွင် ဒါရိုက်တာများ သို့မဟုတ် ယင်းတို့၏ အလှည့်ကျသူများ၏ သာမန်အများစုတစ်ရပ်ရှိသည့်ဆန္ဒမဲသည် ဘုတ်အဖွဲ့၏ ဆောင်ရွက်ချက် ဖြစ်ရမည် သို့မဟုတ် ဖြစ်သည့် အပြင်၊ ဘုတ်အဖွဲ့ ရှေ့မှောက်ရှိ အမှုကိစ္စ အားလုံးနှင့် စပ်လျဉ်း၍ ပြဋ္ဌာန်းချက် ဖြစ်ရမည်။

၇.၄။ ဒါရိုက်တာများ၏အကျိုးခံစားခွင့်များ

၇.၄.၁။ ဘုတ်အဖွဲ့မှဆုံးဖြတ်မည့် သို့မဟုတ် မဲခွဲဆုံးဖြတ်မည့်ကိစ္စတစ်ခုသည် ကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးဦး၏အကျိုးခံစားခွင့်နှင့်သက်ဆိုင်နေပါက အဆိုပါဒါရိုက်တာသည် အဆိုပါကိစ္စအားဆုံးဖြတ် သို့မဟုတ် မဲခွဲမဆုံးဖြတ်မီ အဆိုပါအကျိုးခံစားခွင့်ကို ဘုတ်အဖွဲ့ အား ကြေညာရမည်။ ဤသဘော တူစာချုပ်အရ ဖြစ်စေ၊ ဖွဲ့စည်းတည်ထောင်ခြင်းဆိုင်ရာ စာရွက်စာတမ်းများအရဖြစ်စေ၊ စီရင်ဆုံး ဖြတ်ချက်တစ်ရပ်အရဖြစ်စေ အဆိုပါကိစ္စအား အစုရှယ်ယာရှင်များသင်းလုံးကျွတ်အစည်းအဝေး တွင် သဘောတူအတည်ပြုရန်အတွက် အစုရှယ်ယာရှင်များအား လွှဲပြောင်းပေးအပ်ရမည်။ အဆိုပါ ကိစ္စအား အစုရှယ်ယာရှင် အစည်းအဝေးသို့လွှဲပြောင်းပေးအပ်ခြင်းကို ဘုတ်အဖွဲ့က ဆောင်ရွက်ရ မည်။ သို့ရာတွင် အဆိုပါဒါရိုက်တာက အဆိုပါအကျိုးခံစားခွင့်အား ထုတ်ဖော်ကြေညာပါက အဆိုပါ ဒါရိုက်တာသည်အဆိုပါကိစ္စနှင့်စပ်လျဉ်း၍မဲပေးပိုင်ခွင့်ရှိသည်။(အစည်းအဝေး ထမြောက် ရန် လူဦး ရေ ရေတွက်ရာတွင်လည်း ဝင်ရောက်ရေတွက်ခံခွင့်ရှိသည်။)

၇.၄.၂။ ဤသဘောတူစာချုပ်ချုပ်ဆိုပြီးနောက် အစုရှယ်ယာရှင်တစ်ဦးချင်းစီသည် အစုရှယ်ယာရှင်များ၏ မည်သည့်သင်းလုံးကျွတ်အစည်းအဝေးတွင်မဆို ၎င်းတို့၏ အစု ရှယ်ယာ နှင့်စပ်လျဉ်း၍ မဲပေးရမည်။ ဤအပိုဒ် ၇.၄ တွင်သတ်မှတ်ထားသော အကြောင်း ကိစ္စများအတွက် အရေးကြီးအချက်အလက် များပါဝင်သည့် ဘုတ်အဖွဲ့အစည်းအဝေး နှင့်စပ်လျဉ်းသော ပြဋ္ဌာန်းချက်များ ဖွဲ့စည်းတည်ထောင် ခြင်းဆိုင်ရာစာရွက် စာတမ်းများ တွင် ပါဝင်စေရန် လိုအပ်သော အခြားလုပ်ဆောင်ချက်များအားလုံးကို ဆောင်ရွက်ရမည်။

၇.၅။ အစုရှယ်ယာရှင်များ၏အကျိုးခံစားခွင့်များ

၇.၅.၁။ သင်းလုံးကျွတ်အစည်းအဝေးမှ သဘောတူခွင့်ပြုရန်လိုအပ်သည့် ကိစ္စရပ် တစ်ခုခုသည် အစုရှယ်ယာရှင်တစ်ဦးဦး၏အကျိုးခံစားခွင့်နှင့် သက်ဆိုင်နေပါက သို့မဟုတ် အဆိုပါအစုရှယ်ယာရှင်၏သဘောတူခွင့်ပြုချက်ကိုလိုအပ်နေပါက (ဤသဘောတူ စာချုပ်ပါ စည်းမျဉ်းများအရ ဖြစ်စေ၊ အခြားနည်းအရ ဖြစ်စေ) သို့မဟုတ် အဆိုပါကိစ္စသည် သင်းလုံးကျွတ်အစည်းအဝေးတစ်ရပ်ရပ်တွင် ဆွေးနွေးရမည့် အကြောင်းကိစ္စ တစ်ရပ်

ဖြစ်ပါက သို့မဟုတ် အဆိုပါကိစ္စရပ်သည် အစု ရှယ်ယာရှင်များသို့ အကြောင်းကြားရမည့် အကြောင်းကိစ္စတစ်ရပ်ဖြစ်ပါက အဆိုပါအစုရှယ်ယာရှင်သည် ကုမ္ပဏီနှင့် အခြား အစုရှယ်ယာရှင်များသို့အကြောင်းကြားစာပေးပို့ခြင်းဖြင့် အဆိုပါအကျိုးခံစားခွင့်အား ထုတ်ဖော်ကြေညာရမည်။ သို့ရာတွင် ထိုသို့ထုတ်ဖော်ကြေညာပြီးဖြစ်ပါက အဆိုပါ အစုရှယ်ယာရှင်သည် အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ မဲပေးပိုင်ခွင့်ရှိသည်။ (အစည်းအဝေး ထမြောက်ရန် လူဦးရေရေတွက်ရာတွင်လည်း ဝင်ရောက်ရေတွက်ခံခွင့်ရှိသည်။)

၇.၆။ အစည်းအဝေးကျင်းပခြင်းမရှိဘဲ ဆောင်ရွက်မှု

မြန်မာနိုင်ငံ၏ဥပဒေများနှင့် စပ်လျဉ်းသည့် မလုပ်မနေရလုပ်ရမည့် ပြဋ္ဌာန်းချက်များအပေါ် မူတည်၍ ဒါရိုက်တာအများစုတစ်ရပ်၏လက်မှတ်ထိုးထား သည့် စာဖြင့်ရေးသားထားသော ဆုံးဖြတ်ချက်တစ်ရပ် သို့မဟုတ် ဘုတ်အဖွဲ့ဆုံးဖြတ်ချက်ဆိုင်ရာ ဖြန့်ဝေစာ တစ်စောင် သည် နည်းလမ်းတကျ ခေါ်ဆိုထားပြီး လူကိုယ်တိုင် ကျင်းပသည့် ဘုတ်အဖွဲ့၏ အစည်းအဝေးတစ်ရပ်၌ အတည်ပြုထားသည့် ဆုံးဖြတ်ချက်ဖြစ်ပြီးသည့်အလားတရားဝင် ဖြစ်ရမည့်အပြင် အကျိုးသက်ရောက်မှုလည်း ရှိရမည်။ စာဖြင့်ရေးသားထားသော" နှင့် "လက်မှတ်ထိုးထားသည့်" ဆိုသည့် အသုံးအနှုန်းများတွင် တယ်လီဖက်(စ)၊ ဒီဂျီတယ်လ် သို့မဟုတ် အီလက်ထရောနစ်စနစ်ဖြင့် ထိုးမြဲလက်မှတ် သို့မဟုတ် ထိုသို့သောစာချုပ် ချုပ်ဆိုသူ မှန်သမျှက မြန်မာနိုင်ငံ၏ ဥပဒေများအရ ခွင့်ပြုချက် သို့မဟုတ် ရည်ညွှန်းချက်ဆိုင်ရာ အခြားနည်းလမ်းမျိုးနှင့် ပတ်သက်သည့် ခွင့်ပြုချက် ပါဝင်သည်။

၇.၇။ လူကိုယ်တိုင်တက်ရောက်ခြင်းမဟုတ်သည့်အစည်းအဝေးတက်ရောက်ခြင်း

ဒါရိုက်တာတစ်ဦးသည်အစည်းအဝေးသို့တက်ရောက်သူများအားလုံးကြားနိုင်သည့်၊ အဆိုပါအစည်းအဝေးသို့တက်ရောက်သူများအားလုံးကိုလည်းကြားနိုင်သည့် နည်းလမ်းဖြင့် အစည်းအဝေးတစ်ရပ် သို့ အခြားဒါရိုက်တာများ လူကိုယ်တိုင် တက်ရောက်ချိန်တွင် လူကိုယ်တိုင်ဖြစ်စေ၊ တယ်လီဖုန်းမှ တစ်ဆင့် ဖြစ်စေ၊ videoconferencing စနစ်ဖြင့် ဖြစ်စေ တက်ရောက်နိုင်သည်။ အဆိုပါဒါရိုက်တာ အား အစည်းအဝေးတက်ရောက် သည်ဟု မှတ်ယူရမည်ဖြစ်ပြီး အဆိုပါအစည်းအဝေးအထမြောက်ရန်အတွက် လိုအပ်သည့် လူဦးရေတွင်လည်း ထည့်သွင်းရေတွက်ရမည်။

၇.၈။ လျော်ကြေးပေးခြင်း

ကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦး အဖြစ် တာဝန်ထမ်းဆောင်နေသည့် မည်သည့် ပုဂ္ဂိုလ်မဆိုက ကျခံထားသည့်ကုန်ကျစရိတ်နှင့် အသုံးစရိတ်မှန်သမျှနှင့် အားလုံးတို့အတွက် လျော်ကြေး အပြည့်အဝနှင့် လုံးလုံးလျားလျားကို မြန်မာနိုင်ငံ၏ဥပဒေများက ခွင့်ပြုထားသည့် အတိုင်းအတာ ပြည့်ဝသည်အထိ ကုမ္ပဏီက ထောက်ပံ့ရေးနှင့် ပေးအပ်ရေး သေချာစေရန်

စာချုပ်ချုပ်ဆိုသူတစ်ဦးစီက ယင်း၏ အကောင်းဆုံးလုံ့လစိုက်ထုတ်လျက် ဆောင်ရွက်ရမည်။ (ဒါရိုက်တာ၏လက်မခံနိုင်သော လျစ်လျူရှုမှု၊ အကြမ်းဖက်မှု သို့မဟုတ် ရမ်းကားမှု အပေါ် မူတည်၍ ပေါ် ပေါက်သော တောင်းဆိုချက်များမှအပ)

၇.၉။ ဘာသာစကား

ဘုတ်အဖွဲ့၏အစည်းအဝေးအားလုံးတို့ကို ဆောင်ရွက်ရာတွင်လည်းကောင်း၊၊ ဤ သဘောတူညီ ချက်နှင့်အညီ ဘုတ်အဖွဲ့၏မည်သည့်အစီရင်ခံစာများ၊ ကြေညာစာများ၊ အစည်းအဝေးမှတ်တမ်း များနှင့် အခြားသောစာချုပ်စာတမ်းများ စသည်တို့ကိုမဆို ရေးသားရာတွင်လည်းကောင်း အင်္ဂလိပ် ဘာသာစကား ဖြစ်ရမည်။ သက်ဆိုင်သည့် ဥပဒေက အခြားနည်းဖြင့် ပြဌာန်းထားသည့် ကိစ္စတွင် အချက်အလက် တစ်ခုစီ၏ အင်္ဂလိပ်စာ မိတ္တူကို ကုမ္ပဏီက ပြင်ဆင်၍ ထိန်းသိမ်းထားရမည်မှလွဲ၍၊ ကုမ္ပဏီ၏ မှတ်တမ်းမှတ်ရာ အားလုံးအား အင်္ဂလိပ်စာဖြင့် မှတ်တမ်းတင်ရမည်။

၈။ သီးသန့်အကြောင်းကိစ္စများ

၈.၁။ နောက်ဆက်တွဲ (က) တွင်သတ်မှတ်ထားသော အကြောင်းကိစ္စတစ်ရပ်ရပ် (ဘုတ်အဖွဲ့၏သီးသန့်အကြောင်းကိစ္စများ) နှင့်စပ်လျဉ်း၍ ဒါရိုက်တာဘုတ်အဖွဲ့၏ တစ်ညီတညွတ်တည်းသဘောတူထောက်ခံမှုဖြင့်ဆောင်ရွက်ခြင်းမှလွဲ၍ ကုမ္ပဏီမှဖြစ်စေ၊ ဘုတ်အဖွဲ့မှဖြစ်စေ၊ အစုရှယ်ယာရှင်များ ဖြစ်စေ သို့မဟုတ် ကုမ္ပဏီ၏အရာရှိများ သို့မဟုတ် မန်နေဂျာများမှဖြစ်စေ ဆောင်ရွက်ခြင်း၊ ဆုံးဖြတ်ချက်ချမှတ်ခြင်း မပြုလုပ်ပါ ကြောင်းဟု စာချုပ်ချုပ်ဆိုသူများက သဘောတူကတိပြုကြပါ သည်။

၈.၂။ ဘုတ်အဖွဲ့က ဘုတ်အဖွဲ့၏သီးသန့်အကြောင်းကိစ္စတစ်ရပ်ရပ်နှင့်စပ်လျဉ်း၍ လုပ်ငန်း ဆောင်ရွက်သည့်နေ့ ဆက်တိုက် ရက်ပေါင်း (၃၀) ကာလအတွင်း သဘောတူညီမှု မရရှိပါက ဒါရိုက်တာတစ်ဦးဦးသည် အဆိုပါကိစ္စအား ဆုံးဖြတ်ချက်ချမှတ်ရန်အတွက် အတည်ပြုထားသည့်အရာရှိများ ထံသို့ လွှဲအပ်နိုင်သည်။

၈.၃။ အဆိုပါ အတည်ပြုထားသောအရာရှိများသည် အဆိုပါကိစ္စရပ်အား အပိုဒ် ၈.၂ နှင့်အညီ လွှဲအပ်သည့်နေ့မှစတင်၍ လုပ်ငန်းဆောင်ရွက်သည့်နေ့ ဆက်တိုက် ရက်ပေါင်း (၃၀) (အတည်ပြု ထားသောအရာရှိများ၏အချိန်ကာလ) အတွင်း အဆိုပါကိစ္စရပ်အား သဘောရိုးဖြင့် ဖြေရှင်း ဆောင်ရွက်ရမည်။

၈.၄။ အတည်ပြုထားသောအရာရှိများက အပိုဒ် ၈.၂ နှင့်အညီ ၄င်းတို့အား လွှဲအပ်ထားသောဘုတ်အဖွဲ့၏သီးသန့်အကြောင်းကိစ္စတစ်ရပ်ရပ်ကိုဘုတ်အဖွဲ့အတည်ပြု ထားသော အရာရှိများ၏ အချိန်ကာလမကုန်ဆုံးမီ ဖြေရှင်းမဆောင်ရွက်နိုင်သောအခါ သို့မဟုတ် အစုရှယ်ယာရှင်များ ဆုံးဖြတ်ချက်တစ်ရပ်ကို မချမှတ်နိုင်သောအခါ အကျဉ်း

အကျပ် မဲခွဲဆုံးဖြတ်ရမည့်အခြေအနေပေါ်ပေါက်သည်။ အဆိုပါကိစ္စရပ်အား ဖြေရှင်း ဆောင်ရွက်ရန် အဆိုပြုသည့်အစုရှယ်ယာရှင် သို့မဟုတ် သက်ဆိုင်ရာဘုတ်အဖွဲ့ သီးသန့်အကြောင်းကိစ္စအတွက်အဆိုပြုသည့်အဆိုပါအစုရှယ်ယာရှင်က ဤအခြေအနေ အား ဖြေရှင်းဆောင်ရွက်ရန်အတွက် အမည်စာရင်းတင်သွင်းထားသော ဒါရိုက်တာ က အခြေအနေပေါ်မူတည်၍ (ကမ်းလှမ်းသည့် ရှယ်ယာရှင်) က အခြားအစုရှယ်ယာရှင် တစ်ဦးအား (ကမ်းလှမ်းခံရသည့် ရှယ်ယာရှင်)အား ဤသဘောတူစာချုပ်၏ နောက်ဆက်တွဲဇယား (၁) နှင့် အညီ အကျပ်အတည်းဆိုင်ရာအကြောင်းကြားစာကို ပေးပို့နိုင်သည်။

၈.၅။ ဤအပိုဒ် ၈ ပါ ရည်ရွယ်ချက်များအတွက် လူသားဖန်တီးသောအကျပ်အတည်း အခြေအနေတစ်ရပ်ကိုမည်သည့်အခြေအနေတွင်မဆိုမည်သည့်အစုရှယ်ယာရှင်ကမှမဖန် တီးရ (လူသား ဖန်တီးသော အကျပ်အတည်းအခြေအနေ) လူသားဖန်တီးသော အကျပ် အတည်းအခြေအနေ ဆိုသည်မှာ ထိုအချိန်တွင် လက်ငင်း ခွင့်ပြုထားသည့် စီးပွားရေး လုပ်ငန်း စီမံကိန်းနှင့် ရသုံးမှန်း ခြေစာရင်း တို့နှင့်အညီ စီးပွားရေးလုပ်ငန်းကို ကုမ္ပဏီ က မှန်ကန်စွာနှင့် ကျွမ်းကျင်စွာ ဆက်လက်ဆောင်ရွက်နိုင်စေရန်အတွက် အကြောင်းအရာ သို့မဟုတ် အဆိုပြုချက်အား သဘောတူညီမှု လိုအပ်သည့် အစု ရှယ်ယာရှင်၏ သီးသန့် အကြောင်းကိစ္စအတွက် မဲပေးသည့် မည်သည့် အစု ရှယ်ယာရှင် ကမဆို (သို့မဟုတ် ဤနည်းအားဖြင့် ခန့်အပ်ထားသည့် မည်သည့် ဒါရိုက်တာ သို့မဟုတ် ကိုယ်စားလှယ် မဆို) က ဖန်တီးသော အကျပ်အတည်းအခြေအနေ တစ်ရပ် ကို ဆိုလို သည်။

၉။ အုပ်ချုပ်မှုဒါရိုက်တာနှင့် အခြားရာထူးများ

၉.၁။ ပုံမှန်နေ့စဉ်စီမံအုပ်ချုပ်မှု အတွက် တာဝန်ရှိသည့် အုပ်ချုပ်မှုဒါရိုက်တာ

၉.၁.၁။ ရှယ်ယာထည့်ဝင်မှုနောက်ဆုံးသတ်မှတ်ရက်တွင် နှင့် မှစတင်၍ Puma ဒါရိုက်တာတစ်ဦးအား အုပ်ချုပ်မှုဒါရိုက်တာ (**အုပ်ချုပ်မှုဒါရိုက်တာ**) အဖြစ် ခန့်အပ် ရမည်ဖြစ်ပြီး၊ အဆိုပါဒါရိုက်တာအား (က) အပိုဒ် ၈.၁ အရ ကုမ္ပဏီ၏ကိုယ်စား လုပ်ငန်း ဆောင်ရွက်ခြင်းဆိုင်ရာကိစ္စရပ်များအား ကိုယ်စားပြုဆောင်ရွက်ရန်၊ (ခ) ဤသဘောတူ စာချုပ်ပါ စည်းမျဥ်းစည်းကမ်းများနှင့်အညီ အတည်ပြုထားသည့် လုပ်ငန်းအစီအစဉ် နှင့် ရသုံးမှန်းခြေစာရင်းတို့နှင့်အညီ စီးပွားရေး လုပ်ငန်းအား နေ့စဉ် စီမံခန့်ခွဲ ဆောင်ရွက်ရန်၊ (ဂ) ဘုတ်အဖွဲ့က လွှဲပြောင်းပေးအပ်သော သို့မဟုတ် ညွှန်ကြားသောအခြား တာဝန် များနှင့် တာဝန်ဝတ္တရားများကိုဆောင်ရွက်ရန် ဘုတ်အဖွဲ့က အခွင့်အာဏာလွှဲပြောင်း ပေးအပ်ရမည်။

၉.၁.၂။ ဘုတ်အဖွဲ့က အုပ်ချုပ်မှုဒါရိုက်တာအား ၎င်း၏လုပ်ပိုင်ခွင့်အာဏာကို လွှဲပြောင်းပေးအပ်ရာတွင် အုပ်ချုပ်မှုဒါရိုက်တာသည် အကြောင်းကိစ္စအားလုံးနှင့် စပ်လျဥ်း

သည့် ဘုတ်အဖွဲ့၏ဆုံးဖြတ်ချက်ကိုထုတ်ပြန်ရန် ဘုတ်အဖွဲ့အား တောင်းဆိုခွင့်ရှိစေရမည် ဖြစ်ကာ အဆိုပါဘုတ်အဖွဲ့၏ ဆုံးဖြတ်ချက်ကို မည်သည့်ဒါရိုက်တာနစ်ဦးမဆို သဘောတူ အတည်ပြုနိုင်သည်။

၉.၁.၃။ ဤသဘောတူစာချုပ်အရ ဘုတ်အဖွဲ့က မန်နေဂျင်းဒါရိုက်တာကို ဆောင်ရွက်ခွင့် ပြုထားသည့် နောက်ဆက်တွဲ (ဃ) ပါ လုပ်ငန်းဆောင်ရွက်ခြင်းဆိုင်ရာ ကိစ္စရပ်များ သို့မဟုတ် အပ်နှင်းထားသည့် လုပ်ငန်းဆောင်ရွက်ရန်အခွင့်အာဏာများကို အပိုဒ် ၈ နှင့် အညီ သီးသန့်အကြောင်းကိစ္စအဖြစ် ဘုတ်အဖွဲ့က ပြင်ဆင်နိုင်သည်။

၉.၂။ ဘဏ္ဍာရေးဆိုင်ရာ အထွေထွေမန်နေဂျာ

ရှယ်ယာထည့်ဝင်မှုနောက်ဆုံးသတ်မှတ်ရက်တွင် နှင့် မှစတင်၍ ဘဏ္ဍာရေးဆိုင်ရာ တာဝန်ရှိသည့် ပုဂ္ဂိုလ်တစ်ဦး (**ဘဏ္ဍာရေးဆိုင်ရာအထွေထွေ မန်နေဂျာ**) အား Puma Energyက ခန့်အပ်ရမည်ဖြစ်ပြီး၊ အဆိုပါပုဂ္ဂိုလ်သည် Puma Energy က တာဝန်ပေးပြီး ညွှန်ကြားသည့်အတိုင်း လုပ်ငန်းဆောင်ရွက်ခြင်းဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်းသည့် တာဝန်ဝတ္တရားများနှင့် လုပ်ငန်းတာဝန်များကို အပိုဒ် ၉.၁ နှင့်အညီ လုပ်ငန်း ဆောင်ရွက်ခြင်းဆိုင်ရာ ကိစ္စရပ်များနှင့်စပ်လျဉ်း၍ ဘုတ်အဖွဲ့က မန်နေဂျင်းဒါရိုက်တာကို အပ်နှင်းထားသည့် အခွင့်အာဏာကို ထပ်ဆင့်လွှဲအပ်ခြင်းခံရသူအဖြစ် ဆောင်ရွက်ရမည် ဟု စာချုပ်ချုပ်ဆိုသူများက သဘောတူကြပါသည်။

၁၀။ ဘဏ္ဍာရေး

၁၀.၁။ ထပ်ဆင့် ငွေကြေးထောက်ပံ့မှု

အစုရှယ်ယာရှင်များသည် ဘုတ်အဖွဲ့က သတ်မှတ်ညွှန်ကြားသည့်အတိုင်း(အစုရှယ်ယာ မတည်ငွေ ဆိုင်ရာ နည်းလမ်းအားဖြင့် ဖြစ်စေ၊ အစုရှယ်ယာရှင်၏ ချေးငွေ သို့မဟုတ် ဘုတ်အဖွဲ့က သင့်လျော်သည်ဟု မှတ်ယူသည့် အခြားနည်းလမ်းမှန်သမျှ နှင့်ဖြစ်စေ) ၎င်းတို့၏ သက်ဆိုင်ရာ အစု ရှယ်ယာပိုင်ဆိုင်မှုပမာဏနှင့်အချိုးညီစွာ ကုမ္ပဏီတွင် အစုရှယ်ယာပိုင်ဆိုင်သူ၏ငွေကြေးထပ်မံ ထောက်ပံ့မှုအတွက် တာဝန်ရှိစေရမည်။

၁၀.၂။ ချေးငွေများ

၁၀.၂.၁။ အပိုဒ် ၈.၁ အရ ကုမ္ပဏီသည် တတိယပုဂ္ဂိုလ်အဖွဲ့အစည်းများထံမှ ချေးငွေများရယူနိုင်သည်။ အုပ်ချုပ်မှုဒါရိုက်တာသည် အဆိုပါချေးငွေအား (ဘဏ်မှဖြစ်စေ၊ အခြားတတိယပုဂ္ဂိုလ်အဖွဲ့အစည်း၏ချေးငွေထုတ်ပေးသူထံမှဖြစ်စေ၊ မြန်မာ့ကျပ်ငွေ သို့မဟုတ် အခြားငွေကြေးတစ်ခုခု ဖြင့်ဖြစ်စေ) ကုမ္ပဏီမှရရှိနိုင်သော အနိမ့်ဆုံး အတိုးနှုန်း ဖြင့် (မြန်မာနိုင်ငံတွင် လုပ်ငန်းဆောင်ရွက်နေသော စီးပွားရေးဘဏ်များက မြန်မာနိုင်ငံရှိ

အဖွဲ့အစည်းငွေချေးသူများအားပေးသည့် လက်ရှိအတိုးနှုန်းထားဖြင့်) စီးပွားရေးအရ သင့်လျော်သောအချိန်ကာလအတွက်ရရှိရန် အကောင်းဆုံးလုံ့လစိုက်ထုတ်လျက် ဆောင်ရွက်ရမည်။

၁၀.၂.၂။ ချေးငွေထုတ်ပေးသူဖြစ်လာနိုင်ဖွယ်ရှိသည့် မည်သည့်ပုဂ္ဂိုလ်မှ ချေးငွေ သို့မဟုတ် ကြိုတင်ပေးငွေဆိုင်ရာစည်းကမ်းချက်များအရ ကုမ္ပဏီတွင် ရှယ်ယာပိုင်ဆိုင်ရန် အခွင့်အရေးအား ပေးအပ်ခြင်းမပြုရန် စာချုပ်ချုပ်ဆိုသူများက သဘောတူကြပါသည်။

၁၀.၂.၃။ ကုမ္ပဏီသည် မည်သည့်ချေးငွေကိုမဆို သက်ဆိုင်သည့် မြန်မာနိုင်ငံဥပဒေများ နှင့် အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ်တို့၏ သဘောတူခွင့်ပြုချက်နှင့်အညီ ရယူရမည်။

၁၀.၃။ အာမခံမှုများ

၁၀.၃.၁။ မည်သည့်စာချုပ်ချုပ်ဆိုသူကမှ ယင်းသို့သော စာချုပ်ချုပ်ဆိုသူ၏ ကြိုတင်သဘော တူညီမှုနှင့်အတူ ထို့အပြင် လက်ခံနိုင်သည့် စည်းကမ်းချက်များအရ တို့မှလွဲ၍ အာမခံမှု သို့မဟုတ် လျော်ကြေးကိစ္စတွင် ကုမ္ပဏီ၏အကျိုးအတွက် ပါဝင်ဆောင်ရန် တာဝန်မရှိစေရ။ တတိယပုဂ္ဂိုလ်အဖွဲ့အစည်းတစ်ခုနှင့် ကုမ္ပဏီက မည်သည့် သဘောတူ စာချုပ်ကိုမဆို ပါဝင်ချုပ်ဆိုသည့် အခြေအနေတွင်၊ ကုမ္ပဏီ၏ တာဝန်ဝတ္တရားများ (ယင်းသို့သော တာဝန်နှင့် ပတ်သက်သည့် ပုံသဏ္ဍာန် မည်သို့ပင်ရှိစေ၊ (ဆိုလိုသည်မှာ အာမခံမှုတစ်ရပ်၊ လျော်ကြေး စသည်) နှင့် ပတ်သက်သည့် အာမခံမှုတစ်ရပ် အဖြစ် ယူဆမှုနှင့်စပ်လျဉ်း၍ လက်တွေ့အကျိုးသက်ရောက်မှုရှိသည့် အစီအစဉ်တစ်ရပ်တွင် စာချုပ်ချုပ်ဆိုသူများက ပါဝင်ဆောင်ရွက်ရန် ထိုသဘောတူစာချုပ်နှင့်အညီ ယင်းသို့သော တတိယအဖွဲ့အစည်းအတွက် လိုအပ်သည်။ ဘုတ်အဖွဲ့သည် ထိုသို့သော လိုအပ်ချက်နှင့်စပ်လျဉ်း၍ စာချုပ်ချုပ်ဆိုသူတစ်ဦးစီသို့စာဖြင့်ရေးသား၍ အကြောင်း ကြား ရမည့်အပြင်၊ ယင်းသို့သော အကြောင်းကြားစာတွင်လိုအပ်သည့် အာမခံမှု၏သဘော သဘာဝနှင့်မည်သည့်အတွက် ယင်းကို လိုအပ်သည် စသည်တို့နှင့် ပတ်သက်သည့် ကြေညာချက် တစ်ရပ် လည်း ပါဝင်ရမည်။

၁၀.၃.၂။ အပိုဒ် ၁၀.၃.၁ တွင် မည်သို့ပင်ပြဋ္ဌာန်းထားစေကာမူ ကုမ္ပဏီ၏ တာဝန်ဝတ္တရားများနှင့် ပတ်သက်၍ တတိယပုဂ္ဂိုလ်အဖွဲ့အစည်းသို့ ပူးတွဲတစ်ရပ် နှင့် အချို့သော အာမခံမှုချက် သို့မဟုတ် လျော်ကြေးတို့အားပေးရန် စာချုပ်ချုပ်ဆိုသူများက သဘောတူကြသည့် အခြေအနေတွင်၊ အောက်ပါ ပြဋ္ဌာန်းချက် များနှင့် သက်ဆိုင်ရမည်။

(က) စာချုပ်ချုပ်ဆိုသူများ အကြားနှင့် စပ်လျဉ်း၍၊ အာမခံမှု သို့မဟုတ် လျော်ကြေး အောက်တွင် စာချုပ်ချုပ်ဆိုသူတစ်ရပ်၏ စုစုပေါင်း ပေးဆပ်ရန် တာဝန်သည် အာမခံချက်

နှင့် လျော်ကြေး ပေးသည့်အချိန်တွင် ကုမ္ပဏီတွင်  ယင်း၏ အစုရှယ်ယာ ပိုင်ဆိုင်မှုများ ရှိသလောက် တူညီသည့် အချိုးအတိုင်း ဖြစ်ရမည်။

(ခ) စာချုပ်ချုပ်ဆိုသူတစ်ခုသည် အာမခံမှု သို့မဟုတ် လျော်ကြေး တစ်ရပ်နှင့် အညီ ယင်းသို့သော စာချုပ်ချုပ်ဆိုသူ၏ ပြုမူမှု သို့မဟုတ် ပျက်ကွက်မှု သက်သက်ကြောင့် ဖြစ်သည့် ပေးဆပ်ရန်တာဝန် တစ်ရပ်လုံးအတွက် တာဝန် ယူရမည်။ နှင့်

(ဂ) အပိုဒ် ၁၀.၃.၂ (က) နှင့် ၁၀.၃.၂ (ခ) တို့နှင့်အညီ ပေးရန်ရှိသည့် ငွေကြေးပမာဏများအား အခြားစာချုပ်ချုပ်ဆိုသူမှ ပေးဆပ်ရန် ပျက်ကွက်မှု ကြောင့်၊ စာချုပ်ချုပ်ဆိုသူတစ်ရပ်က ကျခံသည့် နစ်နာမှုများ၊ ကုန်ကျစရိတ်များ၊ အသုံးစရိတ်များနှင့် ပေးဆပ်ရန်တာဝန်များ မှန်သမျှနှင့် အားလုံးကို စာချုပ်ချုပ်ဆိုသူတစ်ဦးစီက  ထိုကျခံ ထားသည့်စာချုပ်ချုပ်ဆိုသူကို လျော်ကြေးပေးရမည်။

၁၀.၃.၃။ သံသယကင်းရှင်းစေရန်အတွက် မည်သည့်စာချုပ်ချုပ်ဆိုသူမှ ကုမ္ပဏီ၏တာဝန် ဝတ္တရားများနှင့်သက်ဆိုင်သော မည်သည့်အာမခံမှု သို့မဟုတ် လျော်ကြေးငွေပေးအပ်ရန် သဘောတူဆောင်ရွက်ခြင်းတို့ကို  အခြားစာချုပ်ချုပ်ဆိုသူတစ်ဦး၏စာဖြင့်ရေးသားထား သော ကြိုတင်သဘောတူညီမှုမပါဘဲ ဆောင်ရွက်ခြင်းမပြုရ။

၁၁။ ရသုံးခန့်မှန်းခြေငွေစာရင်းများ နှင့် ဘဏ္ဍာရေးဆိုင်ရာသတင်းအချက်အလက်များ၊ ဘဏ္ဍာနှစ်၊ မူဝါဒများနှင့် လုပ်ထုံးလုပ်နည်းများ

၁၁.၁။ စာရင်းအင်းစာအုပ်များ နှင့် ငွေစာရင်းမှတ်တမ်းစာအုပ်များ

၁၁.၁.၁။ စာချုပ်ချုပ်ဆိုသူများသည် ကုမ္ပဏီ၏စာရင်းအင်းစာအုပ်များနှင့် ငွေစာရင်း မှတ်တမ်းကို ယေဘုယျအားဖြင့်လက်ခံထားသော နိုင်ငံတကာစာရင်းအင်းစည်းမျဉ်းများနှင့် အညီ အင်္ဂလိပ် ဘာသာဖြင့် ပြုစုထိန်းသိမ်းထားမည်ဟု သဘောတူပါသည်။

၁၁.၁.၂။ ဘုတ်အဖွဲ့ဝင်များသည် ဘုတ်အဖွဲ့၏ကြိုတင်သဘောတူခွင့်ပြုချက်ဖြင့် ရုံးချိန် အတွင်း ကုမ္ပဏီ၏စာရင်းအင်းများ နှင့် ငွေစာရင်းမှတ်တမ်းများအား သင့်လျော်သော ကြည့်ရှုခွင့်ရရှိစေရမည်။

၁၁.၁.၃။ သက်ဆိုင်သည့်ဥပဒေများနှင့်အညီ ကုမ္ပဏီ၏ဘဏ္ဍာနှစ်ကုန်ဆုံးရက်သည် မတ်လ ၃၁ ရက် ဖြစ်သည်ဟု စာချုပ်ချုပ်ဆိုသူများက သဘောတူကြပါသည်။

၁၁.၂။ ဘုတ်အဖွဲ့သို့ ပေးပို့မှုများ

အုပ်ချုပ်မှု ဒါရိုက်တာသည် ဘုတ်အဖွဲ့ထံ အောက်ပါတို့ကို အသင့်ပြင်ဆင်၍ ပေးပို့ရမည်၊

၁၁.၂.၁။ ဘဏ္ဍာနှစ်ကုန်ဆုံးပြီးနောက်၊ ရက် သုံးဆယ် (၃၀) အတွင်း ယင်းနှစ်နှင့် သက်ဆိုင်သည့် ဘဏ္ဍာတစ်နှစ်ကုန်ဆုံးချိန် လက်ကျန်ရှင်းတမ်း၊ အမြတ်၊ အရှုံးအမြတ် စာရင်း ထုတ်ပြန်ချက်နှင့် ငွေလည်ပတ်မှုရှင်းတမ်း၊

၁၁.၂.၂။ လာမည့် ဘဏ္ဍာနှစ်အတွက် နှစ်ပတ်လည် လုပ်ငန်းစီမံကိန်း အဆိုပြုချက် တစ်စောင် (ခန့်မှန်းတစ်နှစ်စာရသုံးမှန်းခြေငွေစာရင်း နှင့် ငွေကြေးလည်ပတ်မှုဆိုင်ရာ ကြိုတင်ခန့်မှန်းချက် အပါအဝင်) ကို ဘုတ်အဖွဲ့က ညွှန်ကြားသည့်အတိုင်းနှင့် ညွှန်ကြား သည့်အခါ၊ နှင့်

၁၁.၂.၃။ သုံးလပတ်စီမံခန့်ခွဲမှုဆိုင်ရာအစီရင်ခံစာ နှင့်

၁၁.၂.၄။ ဘုတ်အဖွဲ့က ကြောင်းကျိုးဆီလျော်စွာ လိုအပ်သည့် အခြားသော မည်သည့် အစီရင်ခံစာ များကို မဆို။

၁၁.၃။ စာချုပ်ချုပ်ဆိုသူများထံ ပေးပို့မှုများ

ဘုတ်အဖွဲ့သည် အောက်ပါ ပြင်ဆင်မှုကို ညွှန်ကြား၍ လက်မှတ်ထိုးကာ စာချုပ်ချုပ်ဆိုသူ များထံ ပေးပို့ရမည်၊

၁၁.၃.၁။ ဘဏ္ဍာနှစ် ကုန်ဆုံးပြီးနောက် ရက် တစ်ရာနှင့် နှစ်ဆယ် (၁၂၀) အတွင်း ဘုတ်အဖွဲ့က ခန့်အပ်ထားသော လွတ်လပ်သည့် စာရင်းကိုင် ကုမ္ပဏီက ပြင်ဆင် ထားသည့် ထိုနှစ်နှင့် သက်ဆိုင်သော ကုမ္ပဏီ၏ နှစ်ပတ်လည် စာရင်းစစ်ပြီးသည့် ငွေစာရင်း၊ နှင့်

၁၁.၃.၂။ ဘုတ်အဖွဲ့က ကြောင်းကျိုးဆီလျော်စွာ တောင်းဆိုနိုင်သည့် အခြား သော အစီရင်ခံစာများ၊ ငွေစာရင်းများ သို့မဟုတ် စာချုပ်စာတမ်းများမှန်သမျှ။

၁၂။ အစုရှယ်ယာ လွှဲပြောင်းမှုများ

၁၂.၁။ ကန့်သတ်ချက်များ

ဤသဘောတူစာချုပ်၏ စာပိုဒ် ၂၀.၁ အရ သို့မဟုတ် အပိုဒ် ၁၂.၂၊ ၁၂.၃.၄ တို့နှင့်စပ်လျဉ်းသည့် ပြဌာန်းချက်များက အတိအလင်း ဖော်ပြထားနိုင်သည့်အတိုင်း မှအပ၊ ကုမ္ပဏီ တွင်ရှိသည့် ယင်း၏ အစုရှယ်ယာများနှင့် ပတ်သက်၍ ရောင်းချရန်၊ ပေးအပ်ရန်၊ လွှဲပြောင်းရန်၊ အာမခံရန်၊ အပေါင်ထားရန်၊ ပေါင်နှံရန် သို့မဟုတ် အခြားနည်းဖြင့် ကြွေးမြီပေးဆပ်ရန် စသည့် လုပ်ပိုင်ခွင့် မည်သည့် စာချုပ်ချုပ်ဆိုသူမှ မရှိစေရ။

၁၂.၂။ စည်းမျဉ်းပြဌာန်းချက်အရ မဖြစ်မနေပြုလုပ်ရသည့် ရှယ်ယာများအား ရောင်းချခြင်း

၁၂.၂.၁။ လွှဲပြောင်းရန် လုပ်ပိုင်ခွင့်

ဤသဘောတူစာချုပ် ဆက်လက်အသက်ဝင်နေသည့် ကာလအတွင်း မည်သည့်အချိန်တွင်မဆို၊ ကုမ္ပဏီတွင်ရှိသည့် ပိုင်ဆိုင်ထားသော အစုရှယ်ယာပမာဏမှ အားလုံး သို့မဟုတ် မည်သည့် အစိတ်အပိုင်း ကိုမဆို ယင်းသို့ ရှယ်ယာရောင်းချမှုဆိုင်ရာ လိုအပ်ချက် ( ရောင်းချသော အစု ရှယ်ယာများ) အား ဖြည့်ဆည်းရန်အလို့ငှာ စာချုပ်ချုပ်ဆိုသူတစ်ခုခုက ရှယ်ယာရောင်းချရန် လိုအပ်ချက်နှင့်အညီ တရားဝင်လိုအပ်ချက်တစ်ရပ်ရှိခဲ့ပါက၊ ထိုစာချုပ်ချုပ်ဆိုသူသည် ရှယ်ယာရောင်းချရန်လိုအပ်သည့်အတိုင်း အဆိုပါအစုရှယ်ယာများကိုအောက်ဖော်ပြပါတို့အား လွှဲပြောင်းရန် လုပ်ပိုင်ခွင့် ရှိရမည်၊

(က) အခြား စာချုပ်ချုပ်ဆိုသူ လက်ခံနိုင်သည့် အဆိုပြုခံရသူ တစ်ဦးထံ

(ခ) အပိုဒ် ၁၂.၂.၂ ၏ သတ်မှတ်ချက်များနှင့်အညီ အခြား စာချုပ်ချုပ်ဆိုသူထံ သို့မဟုတ်

(ဂ) တတိယပုဂ္ဂိုလ်အဖွဲ့အစည်းတစ်ရပ်ထံ၊ သို့ရာတွင် ယင်းသို့သော လွှဲပြောင်းမှုသည် အပိုဒ် ၁၂.၂.၂ နှင့်အညီ ဖြစ်ရမည်။

၁၂.၂.၂။ ဝယ်ဈေး

ရှယ်ယာရောင်းချမှုဆိုင်ရာဈေးနှုန်းသည် စာချုပ်ချုပ်ဆိုသူများက အပြန်အလှန် သဘောတူကြသည့် ဈေးနှုန်း ဖြစ်ရမည်။ သို့ရာတွင် မည်သည့်အခြေအနေတွင်မဆို ဈေးကွက်နားလည်သည့် ဝယ်သူရောင်းသူ အရောင်းအဝယ်ဖြစ်နေ သည့် ဈေးနှုန်း ထက်မနည်းစေရ။

၁၂.၃။ ဆန္ဒအလျောက် လွှဲပြောင်းမှုများ

၁၂.၃.၁။ မည်သည့်စာချုပ်ချုပ်ဆိုသူမဆိုက အပိုဒ် ၁၂.၄၊ အပိုဒ် ၂၀.၁ တို့နှင့်အညီ ယင်း၏အစုရှယ်ယာများအားလုံး သို့မဟုတ် မည်သည့်အစိတ်အပိုင်းကိုမဆို လွှဲပြောင်းရန် ဆန္ဒ ရှိပါက၊အခြားစာချုပ်ချုပ်ဆိုသူ၏ စာဖြင့်ရေးသားထားသည့် သဘောတူညီမှုဖြင့် အပိုဒ် ၁၂.၃ အရ ထိုသို့ ဆောင်ရွက် နိုင်မည် ဖြစ်သည်။

၁၂.၃.၂။ ကုမ္ပဏီမှ ၎င်း၏အစုရှယ်ယာ (ရောင်းချမည့်ရှယ်ယာများ) များအား တတိယပုဂ္ဂိုလ်အဖွဲ့အစည်းသို့လွှဲပြောင်းပေးအပ်ရန်အဆိုပြုထားသည့်မည်သည့်စာချုပ်ချုပ်ဆိုသူမဆို (အဆိုပြုထားသော လွှဲပြောင်းပေးအပ်သူ) ကုမ္ပဏီနှင့် အခြားစာချုပ်ချုပ်ဆိုသူအား အဆိုပါတတိယပုဂ္ဂိုလ်အဖွဲ့အစည်း၏အမည် (တတိယပုဂ္ဂိုလ်အဖွဲ့အစည်း)၊ အဆိုပါ တတိယ ပုဂ္ဂိုလ်အဖွဲ့ကအစည်းအား ရောင်းချရန်ကမ်းလှမ်းသည့် ရှယ်ယာတစ်စု၏ ရောင်းချသည့်ဈေး(ရောင်းချသည့်ဈေး)နှင့် လွှဲပြောင်းရန် အဆိုပါကမ်းလှမ်းချက်၏ အခြား အရေးကြီးစည်းကမ်းချက်များအားလုံးအားဖော်ပြ၍ စာဖြင့်ရေးသားထားသော အကြောင်း

ကြားစာ (လွှဲပြောင်းပေးအပ်ခြင်းဆိုင်ရာအကြောင်းကြားစာ) ကို ပေးပို့ရမည်။ အဆိုပြု ထားသောလွှဲပြောင်းပေးအပ်သူမှ ရောင်းချမည့်ရှယ်ယာများအားလုံးကို ရောင်းချသည့် ဈေးနှုန်းဖြင့် အခြားစာချုပ်ချုပ်ဆိုသူအား ရောင်းချရန် ကမ်းလှမ်းရမည်။ အဆိုပါ ကမ်းလှမ်းမှုအား အခြားစာချုပ်ချုပ်ဆိုသူ (လက်ခံသည့် စာချုပ်ချုပ်ဆိုသူ) သို့မဟုတ် လက်ခံသည့် စာချုပ်ချုပ်ဆိုသူမှခန့်အပ်ထားသည့် တတိယပုဂ္ဂိုလ်အဖွဲ့အစည်း (ခန့်အပ် ထားသည့် အဖွဲ့အစည်း) က အဆိုပါကမ်းလှမ်းမှုပြုလုပ်ပြီး လုပ်ငန်းဆောင်ရွက်သည့် ရက်ပေါင်း နှစ်ဆယ် (၂၀) (သတ်မှတ် ထားသော အချိန်ကာလ) အတွင်း လက်ခံရမည်။

၁၂.၃.၄။ အဆိုပြုထားသောလွှဲပြောင်းပေးအပ်သူသည် ရောင်းချသည့်ဈေးနှုန်းအတိုင်း ငွေပေးချေမှု ပြုလုပ်ပါက ရောင်းချမည့်ရှယ်ယာများအား လက်ခံသည့်စာချုပ်ချုပ်ဆိုသူ သို့မဟုတ် ခန့်အပ်ထားသည့်အဖွဲ့အစည်းကို လွှဲပြောင်းပေးရမည်။ အပိုဒ် ၁၂.၃.၁ အရ၊ အခြားစာချုပ်ချုပ်ဆိုသူ သို့မဟုတ် ၎င်း၏ခန့်အပ်ထားသောအဖွဲ့အစည်းက သတ်မှတ်ထားသောအချိန်ကာလအတွင်းလွှဲပြောင်းပေးအပ်ခြင်းဆိုင်ရာအကြောင်းကြားစာ တွင် ဖော်ပြထားသော ကမ်းလှမ်းချက်ကို လက်မခံလျှင် အဆိုပြုထားသော လွှဲပြောင်း ပေးအပ်သူသည် တတိယပုဂ္ဂိုလ်အဖွဲ့အစည်းအား ရောင်းချမည့်ရှယ်ယာများကို ရှေ့တွင် သတ်မှတ်ထားသည့်စည်းကမ်းသတ်မှတ်ချက်များဖြင့် ရောင်းချသည့်ဈေးနှုန်းအတိုင်း သို့မဟုတ် ထိုထက်ပိုသော ဈေးနှုန်းအတိုင်း အကျိုးအကြောင်း မဆီလျော်စွာ ခွင့်ပြုရန် ငြင်းဆန်၍မရသောလွှဲပြောင်းပေးအပ်ခြင်းမပြုသည့်စာချုပ်ချုပ်ဆိုသူ၏ သဘောတူညီချက် ဖြင့် လွှဲပြောင်းပေးအပ်နိုင်သည်။

၁၂.၃.၅။ စာချုပ်ချုပ်ဆိုသူများသည် ရောင်းချမည့်ရှယ်ယာများ နှင့်/သို့မဟုတ် လက်ခံသော ရှယ်ယာများအား လွှဲပြောင်းပေးအပ်ခြင်းဆိုင်ရာ ခွင့်ပြုချက်အား ရရှိစေရန် MIC မှ သတ်မှတ်ထားသော ပုံစံဖြင့် MIC သို့လျှောက်ထားတင်ပြခြင်းကိစ္စအား နှစ်ဦး နှစ်ဖက်ပူးပေါင်းဆောင်ရွက် ကြရမည်။

၁၂.၃.၆။ အဆိုပြုထားသောလွှဲပြောင်းပေးအပ်သူပိုင်ဆိုင်သည့် အစုရှယ်ယာများ အားလုံးကို အပိုဒ် ၁၂.၃ နှင့်အညီ တတိယပုဂ္ဂိုလ်အဖွဲ့အစည်းသို့ လွှဲပြောင်းပေးအပ် ရာတွင် အဆိုပြုထားသောလွှဲပြောင်းပေးအပ်သူသည် ဤသဘောတူစာချုပ်ပါ ၎င်း၏ ရပိုင်ခွင့်များနှင့်တာဝန်ဝတ္တရားများကို အဆိုပါတတိယပုဂ္ဂိုလ်အဖွဲ့အစည်းသို့ လွှဲပြောင်း ပေးအပ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်ဖြစ်ကြောင်း စာချုပ်ချုပ်ဆိုသူများက သဘောတူကြ ပါသည်။ သို့ရာတွင်လွှဲပြောင်းပေးအပ်မှုမတိုင်မီ တည်ရှိနေသော တာဝန်ဝတ္တရားများနှင့် ပေးရန်တာဝန်များကို ဆောင်ရွက်ခြင်းမှ ကင်းလွတ်ခြင်း မရှိစေရ။

၁၂.၄။ ငွေမြုပ်နေသည့် ကာလ

၁၂.၄.၁။ အပိုဒ် ၁၂.၃ တွင်မည်သို့ပင်ဖော်ပြထားစေကာမူ၊ အပိုဒ် ၂၈.၁ အရ မည်သည့် စာချုပ်ချုပ်ဆိုသူမှ ငွေမြုပ်နေသည့်ကာလသက်တမ်းမကုန်ဆုံးမီ ကုမ္ပဏီတွင်ရှိသည့် ယင်း၏ အစုရှယ်ယာများနှင့် စပ်လျဥ်း၍ ရောင်းချခြင်း၊ ပေးအပ်ခြင်း၊ လွှဲပြောင်းခြင်း၊ သယ်ဆောင်ခြင်း၊ အာမခံခြင်း၊ အပေါင်ထားခြင်း၊ အဖိုးအခအဖြစ်တောင်းခြင်း သို့မဟုတ် အခြားနည်းဖြင့် ကြွေးမြီပေးဆပ်ခြင်း၊ လွှဲအပ်ခြင်းနှင့် ဂယ်ခွင့်ပြုခြင်း သို့မဟုတ် မည်သည့်သဘောတူစာချုပ် တွင် မဆို ပါဂင်ချုပ်ဆိုခြင်း စသည်တို့ကို ပြုလုပ်ခြင်း မပြုရ။

၁၂.၄.၂။ ငွေမြုပ်နေသည့် ကာလ သက်တမ်းကုန်ဆုံးချိန်တွင်၊ စာချုပ်ချုပ်ဆိုသူများသည်၊ အပိုဒ် ၁၂.၃ နှင့်အညီ၊ ကုမ္ပဏီတွင်ရှိသည့် ယင်း၏ အစုရှယ်ယာများနှင့် ပတ်သက်၍ ရောင်းချခြင်း၊ ပေးအပ်ခြင်း၊ လွှဲပြောင်းခြင်း၊ သယ်ဆောင်ခြင်း၊ အာမခံခြင်း၊ အပေါင်ထားခြင်း၊ အဖိုးအခအဖြစ်တောင်း ခြင်း သို့မဟုတ် အခြားနည်းဖြင့် ကြွေးမြီပေးဆပ်ခြင်း၊ လွှဲအပ်ခြင်းနှင့် ဂယ်ခွင့်ပြုခြင်း သို့မဟုတ် မည်သည့်သဘောတူစာချုပ်တွင်မဆို ပါဂင်ချုပ်ဆိုခြင်း စသည် တို့ကို ပြုလုပ်နိုင်သည်။

၁၃။ လုပ်ငန်းအတွက် အလုပ်ခန့်အပ်ခြင်း

၁၃.၁။ အလုပ်အကိုင်များ ခန့်အပ်ထားခြင်း

၁၃.၁.၁။ MPPE သည် ဤသဘောတူစာချုပ်ချုပ်ဆိုသောနေ့ရက်၌ လုပ်ငန်းလည်ပတ် ဆောင်ရွက်ရာတွင် MPPE က ခန့်အပ်ထားသောဂန်ထမ်းများအားလုံး (MPPE AVIATION ဂန်ထမ်းများ) အား ကုမ္ပဏီ၏ဂန်ထမ်းများ အဖြစ်လွှဲပြောင်း ပေးအပ်ရမည်။

၁၃.၁.၂။ ကုမ္ပဏီသည် MPPE ၏လေယာဥ်ပျံသန်းမှုဆိုင်ရာဂန်ထမ်းများအားလုံးကို အလုပ်ခန့် အပ်ရမည်ဖြစ်ပြီး အပိုဒ် ၁၃ ပါ ကျန်ရှိသော ပြဋ္ဌာန်းချက်များအားလုံးနှင့်အညီ MPPE AVIATION ဂန်ထမ်းများအားလုံးကို အနည်းဆုံး ငါး (၅) နှစ်တာကာလအတွက် လုပ်ငန်း၏ လုပ်ခလစာမှတ်တမ်းတွင်မှတ်တမ်းတင်ထားသည့် ပထမ ကြိုတင် စည်းကမ်း သတ်မှတ်ချက်များကို ဖြည့်ဆည်းဆောင်ရွက်ပြီးသည့် သို့မဟုတ် စွန့်လွှတ်သည့် ရက်စွဲ တွင် ခံစားခွင့် ရှိသော အနည်းဆုံးလုပ်ခလစာနှင့်အကျိုးခံစားခွင့်များ အတိုင်း ဆက်လက် အလုပ်ခန့်အပ်ထား ရမည်ဟု စာချုပ်ချုပ်ဆိုသူများက သဘောတူကြပါသည်။

၁၃.၂။ သင်တန်းပေးခြင်း နှင့် အရည်အချင်းများ ဆန်းစစ်ခြင်း

၁၃.၂.၁။ ပထမကြိုတင်စည်းကမ်းသတ်မှတ်ချက်များကို ဖြည့်ဆည်းဆောင်ရွက်ပြီးသည့် သို့မဟုတ် စွန့်လွှတ်သည့် ရက်စွဲမှစ၍ သုံး (၃) လ (သင်တန်းကာလ) အတွင်း MPPE ၏ လေယာဥ်ပျံသန်းမှုဆိုင်ရာဂန်ထမ်းများအားလုံးတက်ရောက်ရန် သင့်လျော်သော သင်တန်း များ စီစဥ်ပေးမည် ဖြစ်ပြီး သင်တန်းကာလပြီးမြောက်သည့်အချိန်တွင် MPPE ၏ လေယာဥ်ပျံသန်းမှုဆိုင်ရာဂန်ထမ်းများအားလုံးသည် အရည်အချင်းဆန်းစစ်သည့်စာမေးပွဲ အား ဖြေဆိုရန် လိုအပ်သည် ၊နှင့်

၁၃.၂.၂။ အရည်အချင်းဆန်းစစ်သည့်စာမေးပွဲအောင်မြင်သော MPPE AVIATION ဂန်ထမ်းတိုင်းသည် အဆိုပါဂန်ထမ်း၏နှစ်စဉ်လစာ၏ ၃၀ % အထက်နှင့်ညီမျှသော ငွေပမာဏကို ကုမ္ပဏီမှ အပိုဆုကြေးအဖြစ် ရပိုင်ခွင့်ရှိစေရမည်

ဟု စာချုပ်ချုပ်ဆိုသူများက သဘောတူကြပါသည်။

၁၃.၃။ MPPE ဂန်ထမ်းများဆိုင်ရာလျော်ကြေး

၁၃.၃.၁။ MPPE လေယာဉ်ပျံသန်းမှုဆိုင်ရာဂန်ထမ်းများအားလုံး၏ အခြေခံလစာကို လုပ်ငန်း၏လုပ်ခလစာမှတ်တမ်းတွင်မှတ်တမ်းတင်ထားသည့်အတိုင်း ပထမကြိုတင်စည်းကမ်းသတ်မှတ်ချက်များကို ဖြည့်ဆည်းဆောင်ရွက်ပြီးသည့် သို့မဟုတ် စွန့်လွှတ်သည့် ရက်စွဲမတိုင်မီ ဂန်ထမ်းတစ်ဦးချင်းစီ ခံစားခွင့်ရှိသော အခြေခံလစာအပေါ် အခြေခံ၍ ဆုံးဖြတ်ရမည် နှင့်

၁၃.၃.၂။ ပထမကြိုတင်စည်းကမ်းသတ်မှတ်ချက်များကို ဖြည့်ဆည်းဆောင်ရွက်ပြီးသည့် သို့မဟုတ် စွန့်လွှတ်သည့် ရက်စွဲမတိုင်မီ တစ် (၁) နှစ်တာကာလအတွင်း ကုမ္ပဏီသည် သုံးလပတ် အပိုအဆုကြေး (အပိုဆုကြေး) ကို MPPE ၏လေယာဉ်ပျံသန်းမှုဆိုင်ရာ ဂန်ထမ်းများ ဖြစ်သော ကုမ္ပဏီ၏ ဂန်ထမ်းများအားလုံးအား ပေးအပ်ရမည်။ အဆိုပါ MPPE ၏ လေယာဉ် ပျံသန်းမှုဆိုင်ရာဂန်ထမ်းများကို ပေးရမည့် အပိုဆုကြေး ပမာဏသည် အဆိုပါဂန်ထမ်းများ၏ လစဉ်အခြေခံလစာ၏တစ်ဂက်နှင့်ညီမျှသော ပမာဏဖြစ်ရမည်
ဟု စာချုပ်ချုပ်ဆိုသူများက သဘောတူကြပါသည်။

၁၃.၄။ ဂန်ထမ်းများ၏အကျိုးခံစားခွင့်များ

၁၃.၄.၁။ ကုမ္ပဏီက ကုမ္ပဏီ၏ဂန်ထမ်းများအားလုံးကို အနည်းဆုံး အောက်ပါအကျိုးခံစားခွင့်အား ပေးမည်ဖြစ်ပြီး မြန်မာနိုင်ငံရှိ ကုမ္ပဏီမှဂန်ထမ်းများအားလုံး၏ လူနေမှုအဆင့်အတန်းကို မြှင့်တင်ရန်အတွက် ဘုတ်အဖွဲ့သည် အဆိုပါအကျိုးခံစားခွင့်ကို အခါအားလျော်စွာ ပြန်လည်သုံးသပ်သတ်မှတ်မည်ဟု စာချုပ်ချုပ်ဆိုသူများက သဘောတူကြပါသည်၊

(က) နေထိုင်ခြင်းဆိုင်ရာထောက်ပံ့ကြေး

(က) ရုံးခွဲမန်နေဂျာ - တစ်လလျှင် MMK 800,000

(ခ) အဖွဲ့မန်နေဂျာ - တစ်လလျှင် MMK 500,000

(ဂ) အငယ်တန်းမန်နေဂျာ - တစ်လလျှင် MMK 300,000

(ခ) ကားအကျိုးခံစားခွင့် သို့မဟုတ် ဘတ်စ်ကားဝန်ဆောင်မှုအကျိုးခံစားခွင့်အစား ပေးအပ်သည့် သွားလာမှုဆိုင်ရာထောက်ပံ့ကြေး

(က) မန်နေဂျာ - တစ်လလျှင် MMK 350,000

(ခ) အတတ်ပညာရှင် - တစ်လလျှင် MMK 110,000

(ဂ) ကျွမ်းကျင်လုပ်သား - တစ်လလျှင် MMK 65,000

၁၃.၄.၂။ MPPE AVIATION ဝန်ထမ်းများကို ကုမ္ပဏီက ခန့်အပ်သည့်အချိန်တွင် အဆိုပါဝန်ထမ်းတစ်ဦးချင်းစီ၏ ရရန်ကျန်ရှိသည့် လစာများ၊ အကျိုးခံစား ခွင့်များ၊ ပင်စင်လစာများ နှင့် အခြားအကျိုးခံစားခွင့်များကို MPPE တစ်ဦးတည်းကသာ ကျခံဖြေရှင်းဆောင်ရွက်ရမည်။

၁၃.၅။ မိမိဆန္ဒအလျောက် ရာထူးမှနုတ်ထွက်ခြင်း

၁၃.၅.၁။ ကုမ္ပဏီသည် ကုမ္ပဏီ၏အလုပ်ခန့်အပ်မှုအား လက်မခံသော MPPE ၏လေယာဉ်ပျံသန်းမှုဆိုင်ရာဝန်ထမ်းများအားလုံးအောက်ပါ မိမိဆန္ဒအလျောက် ရာထူးမှနုတ်ထွက်ခြင်းဆိုင်ရာအကျိုးခံစားခွင့်များရရှိရန်စီစဉ်ဆောင်ရွက်မည်ဟု စာချုပ်ချုပ်ဆိုသူများက သဘောတူကြပါသည်၊

(က) လုပ်ငန်းတွင် MPPE အတွက် တာဝန်ထမ်းဆောင်ခြင်းဆိုင်ရာ တစ်နှစ်ချင်းစီအတွက် လစာ အပေါ်အခြေခံ၍ (၂) ပတ်စာ၊ အများဆုံး (၂၄) ပတ် ၏အခြေခံလစာ နှင့်ညီမျှသော လစာနှင့် ညီမျှသော ငွေပမာဏ

(ခ) ကျန်းမာရေးဆိုင်ရာအကျိုးခံစားခွင့်အတွက် အများဆုံး MMK 750,000 နှင့်အထက်နှင့်အညီမျှသော တစ်လုံးတစ်ခဲတည်းငွေသားထောက်ပံ့မှု

(ဂ) CV ရေးသားနည်း၊ အင်တာဗျူးဖြေဆိုနည်းများ နှင့် ကော်ပိုရေးရှင်းတွင် ဝန်ထမ်းခန့်အပ် ခြင်းလုပ်ငန်းစဉ်များအား သင်တန်းပေးခြင်းအပါအဝင် Puma Energy က စီစဉ်ပေးသော တစ်နေ့တာသင်တန်း

၁၄။ အခွန်စည်းကြပ်ခြင်း

မြန်မာနိုင်ငံနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသည့်အတိုင်း အခွန်စည်းကြပ်ခြင်း နှင့် အခွင့်အရေးများနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က အပ်နှင်းထားသော အတိုင်းအတာအထိ ဤသဘောတူစာချုပ်၏ သတ်မှတ်ချက်များနှင့် ပြဋ္ဌာန်းချက်များ တို့သည် သက်ဆိုင်ကြောင်းကို စာချုပ်ချုပ်ဆိုသူအားလုံးက သဘောတူညီကြသည်။ ကုမ္ပဏီသည် သက်ဆိုင်ရာမြန်မာနိုင်ငံဥပဒေများနှင့်အညီ ကုမ္ပဏီနှင့်သက်ဆိုင်သော

တည်ဆဲအခွန်ဥပဒေများ၊ နည်းဥပဒေများ နှင့် ညွှန်ကြားချက်များ၊ အခွန်နှင့်သက်ဆိုင်သော အမိန့်ကြော်ငြာစာများကို လိုက်နာဆောင်ရွက်ရန် ဘုတ်အဖွဲ့က ဆောင်ရွက်ရမည်။

၁၅။ ဂန်ခံကတိပြုချက်များနှင့် သဘောတူညီချက်များ

၁၅.၁။ လျှို့ဝှက်ချက်

ဤသဘောတူစာချုပ်ဆက်လက်၍တည်တံ့နေစဉ်ကာလအတွင်း၊ နှင့် မည်သည့်အကြောင်းကြောင့်မဆို ဤသဘောတူစာချုပ်၏သက်တမ်းကုန်ဆုံးခြင်း သို့မဟုတ် ရပ်စဲပြီးနောက်သုံး (၃) နှစ်တာ ကာလအတွင်း လက်ခံရရှိသူ စာချုပ်ချုပ်ဆိုသူသည် (၁) အသိပေးသည့်စာချုပ်ချုပ်ဆိုသူ၏ လျှို့ဝှက်သတင်းအချက်အလက်များအား လျှို့ဝှက်ထားရမည်။ အသိပေးသည့်စာချုပ်ချုပ်ဆိုသူ၏ ကြိုတင် စာဖြင့်ရေးသားထားသော ခွင့်ပြုချက် သို့မဟုတ် အပိုဒ် ၁၅.၁ နှင့်အညီ မှအပ၊ အသိပေးသည့်စာချုပ်ချုပ်ဆိုသူ၏ လျှို့ဝှက် သတင်းအချက်အလက်များအား အခြား မည်သည့်ပုဂ္ဂိုလ်ကိုမဆို ဖော်ပြခြင်း မပြုရ။ (၂) ဤ သဘောတူစာချုပ်နှင့်အညီ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော လုပ်ငန်းဆောင်ရွက်မှုများနှင့် ပတ်သက်သည့် သို့မဟုတ် ကုမ္ပဏီ၏ အကျိုးစီးပွားအတွက် ယင်း၏ တာဝန်ဝတ္တရားများနှင့် သက်ဆိုင်သည့် ဆောင်ရွက်မှုမှ လွဲ၍ အသိပေးသည့် စာချုပ်ချုပ်ဆိုသူ၏ လျှို့ဝှက်သတင်းအချက်အလက်များကို မည်သို့သော ရည်ရွယ်ချက်အတွက်မျှ အသုံးမပြုရ။

၁၅.၁.၁။ ဤ သဘောတူစာချုပ်၏ သတ်မှတ်ချက် ကာလအတွင်း၊ လက်ခံရ ရှိသူ စာချုပ်ချုပ်ဆိုသူသည်၊ ယင်း၏ အမှုထမ်းများ၊ ဒါရိုက်တာများ၊ အရာရှိများ၊ အကြံပေး ပုဂ္ဂိုလ်များ၊ ကိုယ်စားလှယ်များနှင့် ကိုယ်စားပြုသူများ (တစ်ဦးစီသည် အာဏာလွှဲအပ်ခံထားရသည့် လက်ခံရရှိသူတစ်ဦးဖြစ်သည်။) အား အသိပေးသည့် စာချုပ်ချုပ်ဆိုသူ၏ လျှို့ဝှက်သတင်းအချက်အလျက်များကို ဖော်ပြနိုင်သည်။ သို့ရာတွင် ယင်းသို့သော ဖော်ပြချက်သည် ဤသဘောတူစာချုပ်နှင့်အညီသို့မဟုတ် ကုမ္ပဏီ၏အခြားလုပ်ငန်း ဆောင်ရွက်မှုများနှင့် ပတ်သက်သည့် ယင်း၏ တာဝန်ဝတ္တရားများအား ဆောင်ရွက်ရန် အတွက် လက်ခံရရှိသူ စာချုပ်ချုပ်ဆိုသူက လိုအပ်သည့် အတိုင်းအတာအထိသာ ဖြစ်သည်။

၁၅.၁.၂။ အာဏာလွှဲအပ်ခံရသည့် လက်ခံရရှိသူသည် ဤ သဘောတူစာချုပ်တွင် ပါဝင်နေသူတစ်ဦးအနေမျိုးဖြင့် ဤသဘောတူစာချုပ်နှင့်အညီ လက်ခံရရှိသူ စာချုပ်ချုပ်ဆိုသူ၏ တာဝန်ဝတ္တရားအားလုံးတို့ကို အာဏာလွှဲအပ်ခံရသည့် လက်ခံရရှိသူက သိရှိရုံမက လိုက်နာ စေရန် လက်ခံရရှိသူ စာချုပ်ချုပ်ဆိုသူ ဆောင်ရွက်ရမည်။

၁၅.၁.၃။ ဤ အပိုဒ် ၁၅.၁ တွင်ပါဝင်သည့် တာဝန်ဝတ္တရားများသည် အောက်ပါတို့နှင့် ပတ်သက်၍ မည်သည့် လျှို့ဝှက် သတင်းအချက်အလက်များနှင့်မျှ မသက်ဆိုင်စေရ၊

(က) လက်ခံရရှိသူစာချုပ်ချုပ်ဆိုသူ သို့မဟုတ် အာဏာအပ်နှင်းခံရသည့် လက်ခံရရှိသူ မှန်သမျှက ဤသဘောတူစာချုပ်ကို ဖေါက်ဖျက်ခြင်းဖြင့် ရရှိသော သတင်းအချက်အလက် မဟုတ်ဘဲ အများပြည်သူက သိရှိသော သတင်းအချက်အလက်။

(ခ) လက်ခံရရှိသူ စာချုပ်ချုပ်ဆိုသူထံ အသိပေးသည့် စာချုပ်ချုပ်ဆိုသူက ဖေါ်ပြခြင်း မတိုင်မီ လက်ခံရရှိသူစာချုပ်ချုပ်ဆိုသူက သိရှိပြီးဖြစ်ကြောင်း ခိုင်မာသည့် အထောက် အထား ဖြင့် လက်ခံရရှိသူ စာချုပ်ချုပ်ဆိုသူက ဖေါ်ပြနိုင်သည့် သတင်းအချက်အလက်၊

(ဂ) လက်ခံရရှိသည့်စာချုပ်ချုပ်ဆိုသူက တတိယပုဂ္ဂိုလ်တစ်ရပ်မှနေ၍ ဥပဒေနှင့်အညီ နောင်တွင် ရရှိလာသော သတင်းအချက်အလက်၊

(ဃ) တရားစီရင်ရေး သို့မဟုတ် စီမံအုပ်ချုပ်ရေး အဖွဲ့တစ်ရပ်၏ သက်ဆိုင်သည့် ဥပဒေ သို့မဟုတ် ညွှန်ကြားချက် သို့မဟုတ် အမိန့် သို့မဟုတ် အုပ်ချုပ်ရေး သို့မဟုတ် စည်းကမ်းထိန်းသိမ်းရေး ကိုယ်စားလှယ် လုပ်ငန်း/အာဏာပိုင်အဖွဲ့မှန်သမျှ၏ လိုအပ်ချက် သို့မဟုတ် တောင်းဆိုမှု သို့မဟုတ် လက်ခံရရှိသည့် စာချုပ်ချုပ်ဆိုသူနှင့် ပတ်သက်၍ စီရင်ပိုင်ခွင့်ရှိသည့် စတော့/အစုရှယ်ယာလက်မှတ်များဆိုင်ရာ ဈေးကွက် (မြန်မာနိုင်ငံ တွင်ဖြစ်စေ သို့မဟုတ် အခြား စီရင်ပိုင်ခွင့်ရှိသည့် နိုင်ငံတွင်ဖြစ်စေ) စသည်တို့နှင့်အညီ ဖေါ်ပြရန် လိုအပ်သည့် သတင်းအချက်အလက်၊ သို့ရာတွင် ထိုသို့ ညွှန်ကြားသည့်၊ လိုအပ်သည့် သို့မဟုတ် တောင်းဆိုသည့် အတိုင်းအတာ အထိသာဖော်ပြရမည်။ မည်သို့ဆိုစေ၊ အကယ်၍ အထက်ဖေါ်ပြပါအတိုင်း အသိပေးသည့် စာချုပ်ချုပ်ဆိုသူ၏ လျှို့ဝှက်သတင်း အချက်အလက်မှန်သမျှအား ဖေါ်ပြရန် လက်ခံရရှိသည့် စာချုပ်ချုပ်ဆိုသူ သို့မဟုတ် အာဏာလွှဲအပ်ထားသည့် လက်ခံရရှိသူကို တရားစီရင်ရေး သို့မဟုတ် စီမံ အုပ်ချုပ်ရေး ဆောင်ရွက်မှုတွင် တောင်းဆိုခဲ့ပါက သို့မဟုတ် အုပ်ချုပ်ရေး သို့မဟုတ် စည်းကမ်းထိန်းသိမ်းရေး ကိုယ်စားလှယ်လုပ်ငန်း/အာဏာပိုင်/အဖွဲ့ သို့မဟုတ် စတော့/ အစုရှယ်ယာ လက်မှတ်များဆိုင်ရာ ဈေးကွက်မှန်သမျှက တောင်းဆိုခဲ့ပါက၊ ထိုသို့ဆိုလျှင် ဖေါ်ပြပေးသည့်စာချုပ်ချုပ်ဆိုသူက ဆီလျော်သည့် အကာအကွယ်ပေးသော အမိန့်စာကို တောင်းခံနိုင်စေမည့် ယင်းသို့သောတောင်းခံမှုနှင့်ပတ်သက်သည့် စာဖြင့်ရေးသား ထားသော အကြောင်းကြားစာအား လက်ခံရရှိသည့်စာချုပ်ချုပ်ဆိုသူက ဖေါ်ပြပေးသည့် စာချုပ်ချုပ်ဆိုသူထံသို့ ချက်ချင်းပေးအပ်ရမည်။ ဆီလျော်သောတရားစီရင်ရေး သို့မဟုတ် စီမံအုပ်ချုပ်ရေးအဖွဲ့က တောင်းခံ၊ ရယူ သို့မဟုတ် ထုတ်ပေးသည့် အကာအကွယ် ပေးသော အမိန့် ဖေါ်ပြပေးသည့် စာချုပ်ချုပ်ဆိုသူ၏ လျှို့ဝှက်သတင်းအချက်အလက်များ ပါဝင်စေရန် ထိုက်သင့်သည့် ကြိုးပမ်းမှုများကို လက်ခံရရှိသည့် စာချုပ်ချုပ်ဆိုသူက

အသုံးချရမည်။ သို့ရာတွင်၊ အကယ်၍ လက်ခံ ရရှိသည့် စာချုပ်ချုပ်ဆိုသူ သို့မဟုတ် အာဏာလွှဲအပ်ခံထားရသည့် လက်ခံရရှိသူတစ်ဦးသည် ယင်း၏ ဥပဒေ အကြံပေးပုဂ္ဂိုလ်၏ အကြံပြုချက် အရ အုပ်ချုပ်ရေး၊ စီးကမ်းထိန်းသိမ်းရေး ကိုယ်စားလှယ်လုပ်ငန်း/အာဏာ ပိုင်/အဖွဲ့ မှန်သမျှ သို့မဟုတ် အထက်ဖော်ပြပါအတိုင်း စတော့/အစုရှယ် လက်မှတ်များ ဆိုင်ရာ ဈေးကွက် သို့မဟုတ် မထီမဲ့မြင်ပြုမှုအတွက် တာဝန်ရှိသည့် သို့မဟုတ် အခြားပြစ်ဒဏ်ခံရသည့် အခြားကိစ္စရပ်များ စသည်တို့နှင့် စပ်လျဉ်း၍ လိုအပ်သည့် သို့မဟုတ် တောင်းခံသည့် သက်ဆိုင်ရာ ဥပဒေ၊ ညွှန်ကြားချက် သို့မဟုတ် အမိန့်စာ တို့ကို တုန့်ပြန်သည့်အနေနှင့် ဖော်ပြပေးမှုတို့ကို အဖြစ်မနေ ပြုလုပ်ရမည် ဆိုပါက၊ ထိုသို့ ပြုလုပ်ရမည့် ပုဂ္ဂိုလ်သည် အကာအကွယ်ပေးသည့် အမိန့်အစာ တစ်ရပ် မရှိသော်ငြား လည်း၊ ဖော်ပြပေးသည့် စာချုပ်ချုပ်ဆိုသူ ထံသို့ ယင်းသို့သော ဖော်ပြမှုကို အောက်ဖော်ပြပါ တာဝန်ယူမှုမရှိပဲ ပြုလုပ်နိုင်သည်။

၁၅.၁.၄။ အပိုဒ် ၁၅.၁.၃ တွင် သတ်မှတ်ထားသည့်အတိုင်း ယင်းသို့သော လျှို့ဝှက်မှု ဆိုင်ရာ တာဝန်ဝတ္တရားများနှင့် သက်ဆိုင်မှု မရှိသည်မှ လွဲ၍၊ ဤ အပိုဒ် ၁၅.၁ နှင့် ပတ်သက်သည့်လျှို့ဝှက်မှုဆိုင်ရာတာဝန်ဝတ္တရာများသည် စာချုပ်ချုပ်ဆိုသူများ သို့မဟုတ် ယင်းတို့၏အမှုထမ်းများ၊ ဒါရိုက်တာများ၊ အရာရှိများ၊ အကြံပေးပုဂ္ဂိုလ်များ၊ ကိုယ်စားလှယ် များ၊ ကိုယ်စားပြုသူများ မှန်သမျှသို့၊ ကုမ္ပဏီက အသိပေးသည့် အများပြည်သူနှင့် မသက်ဆိုင်သော သတင်းအချက်အလက်များနှင့်လည်း အညီအမျှ သက်ဆိုင်မှုရှိစေရန် စာချုပ်ချုပ်ဆိုသူများက ဆောင်ရွက်ရမည်။

၁၅.၂။ အသိဉာဏ်ဆိုင်ရာ ပစ္စည်း ပိုင်ခွင့်များ

၁၅.၂.၁။ ကုမ္ပဏီ၏လုပ်ငန်းများအား ဆောင်ရွက်စဉ်အတွင်း ပေါ်ပေါက်လာသည့်၊ ထို့အပြင် စာချုပ်ချုပ်ဆိုသူ တစ်ခုက ကုမ္ပဏီထံ ခွင့်ပြုချက် ယူမထားသည့်၊ မည်သည့် အသိဉာဏ်ဆိုင်ရာပစ္စည်းပိုင်ခွင့်မဆို (မူပိုင်မှတ်ပုံတင်ခွင့်များ၊ မူပိုင်ခွင့်များ၊ ကုန်အမှတ် တံဆိပ်များ၊ ဆောင်ရွက်မှုဆိုင်ရာ အမှတ်အသားများ၊ မှတ်ပုံတင် ထားသည့် ဒီဇိုင်းပုံစံများ၊ တီထွင်ဖန်တီးမှုများ၊ လျှို့ဝှက်ချက်များ စသည်တို့အပါအဝင်) တို့သည် ကုမ္ပဏီနှင့် သက်ဆိုင်ရမည် ဖြစ်ပြီး၊ ကုမ္ပဏီသည် ယင်းသို့သော အသိဉာဏ်ဆိုင်ရာပစ္စည်းပိုင်ခွင့် များကို အသုံးချရန် သီးသန့်မဟုတ်သည့် ကမ္ဘာလုံးဆိုင်ရာ မူပိုင်ခ ကင်းလွတ်သော သုံးစွဲပိုင်ခွင့် နှင့် လိုင်စင် တို့အား စာချုပ်ချုပ်ဆိုသူ တစ်ခုစီသို့ ခွင့်ပြုရမည်။ သုံးစွဲ ပိုင်ခွင့် နှင့်လိုင်စင်တို့သည် စာချုပ်ချုပ်ဆိုသူတစ်ဦးစီနှင့်သာ သက်ဆိုင်ရမည်။ ယင်းသို့သော ပိုင်ခွင့်နှင့်လိုင်စင်တို့နှင့် ပတ်သက်၍ တာဝန်ပေးရန်၊ တဆင့်လိုင်စင်ချပေးရန်၊ သို့မဟုတ် အခြားနည်းလမ်းဖြင့်ဆောင်ရွက်ရန် စာချုပ်ချုပ်ဆိုသူတစ်ဦးတွင် လုပ်ပိုင်ခွင့်မရှိစေရ။ အကယ်၍ ထိုသို့သော စာချုပ်ချုပ်ဆိုသူ သည်လည်းကောင်း၊ ယင်းနှင့် သက်ဆိုင်သည့် အဖွဲ့ဝင် တစ်ဦးသည်လည်းကောင်း ကုမ္ပဏီတွင် စာချုပ်ချုပ်ဆိုသူတစ်ရပ် အဖြစ်

ဆက်လက်မရှိခဲ့ပါက၊ ဤအပိုဒ်နှင့်လျော်ညီသည့် စာချုပ်ချုပ်ဆိုသူတစ်ဦးစီ၏ သုံးစွဲပိုင်ခွင့်များသည် ရပ်ဆိုင်း သွားမည် ဖြစ်သည်။

၁၅.၂.၂။ အခြားသော စာချုပ်ချုပ်ဆိုသူ၏ မူပိုင်မှတ်ပုံတင်ခွင့်များ၊ ကုန်သွယ်ရေး လျှို့ဝှက်ချက်များ၊ ကုန်အမှတ်တံဆိပ်များ၊ ကုန်သွယ်အမည်များ သို့မဟုတ် အခြား အသိဉာဏ်ဆိုင်ရာ ပစ္စည်း ပိုင်ခွင့်များနှင့် ပတ်သက်သည့် မည်သည့် ပိုင်ခွင့် သို့မဟုတ် လိုင်စင်ကိုမျှ စာချုပ်ချုပ်ဆိုသူ တစ်ရပ် သို့မဟုတ် ကုမ္ပဏီ တစ်ခုသို့ ခွင့်ပြုသည့် အနက်သဘော ဤ သဘောတူစာချုပ်တွင် မည်သို့မျှ ပါဝင်မှု မရှိစေရ။

၁၆။ ကတိကဝတ်များဆိုင်ရာ အချိန်ဇယား

၁၆.၁။ Puma Energy ၏ ကတိကဝတ်များ

၁၆.၁.၁။ MPPE က ဆုံးဖြတ်ချက်ချမှတ်ပေးလိုက်သည့် ဈေးနှုန်းကမ်းလှမ်း ချက်ဆိုင်ရာ သတ်မှတ်ချက်များနှင့် ပြဋ္ဌာန်းချက်များ အပေါ်မူတည်၍ Puma Energy သည် ဤသို့အားဖြင့် ဤ သဘောတူစာချုပ် ပါ နောက်ဆက်တွဲ ဂ တွင် သတ်မှတ်ပြဋ္ဌာန်းထား သည့်အတိုင်း ကတိကဝတ်များကို ဖြည့်ဆည်းပါမည်ဟု သဘောတူသည်။

၁၆.၂။ MPPE ၏ ကတိကဝတ်များ

၁၆.၂.၁။ (MPPE/ VDB က အကြံပေးသည့်သတ်မှတ်ချက်များ) အပေါ်မူတည်၍ MPPE သည် ဤသို့အားဖြင့် ဤသဘောတူစာချုပ်ပါ နောက်ဆက်တွဲ ဂ တွင် သတ်မှတ် ပြဋ္ဌာန်းထားသည့်အတိုင်း ကတိကဝတ်များကို ဖြည့်ဆည်းပါမည်ဟု သဘောတူသည်။

၁၇။ စာချုပ်သက်တမ်းနှင့် ပြီးဆုံးခြင်း

၁၇.၁။ ဤသဘောတူစာချုပ်သည် ဤစာချုပ်တွင် ပြဋ္ဌာန်းထားသည့်အတိုင်း ပြီးဆုံးသည့် တိုင်အောင် ဆက်လက်အသက်ဝင်နေမည် ဖြစ်သည်။

၁၇.၂။ ဤ သဘောတူစာချုပ်ကို အောက်ပါအတိုင်း ရပ်စဲနိုင်သည်။

(က) စာချုပ်ချုပ်ဆိုသူများ၏ စာဖြင့်ရေးသားထားသည့် အပြန်အလှန်သဘောတူညီမှု အရ၊

(ခ) သဘောတူစာချုပ်၏သက်တမ်းကုန်ဆုံးသောအခါ

(ဂ) အပိုဒ် ၄.၆ နှင့်အညီ၊

(ဃ) အပိုဒ် ၁၇.၃ နှင့်အညီ၊

(င) အပိုဒ် ၁၈.၂ နှင့်အညီ

(စ)တိုက်ရိုက်သော်လည်းကောင်း၊ အဆိုပြုခံရသူမှတဆင့်သော် လည်းကောင်း စာချုပ်ချုပ်ဆိုသူက အစုရှယ်ယာအားလုံးအား ပိုင်ဆိုင်သည့်အခါတွင် ကျန်ရှိနေသည့် စာချုပ်ချုပ်ဆိုသူက အလိုအလျောက် ဆက်လက် ဆောင်ရွက်မှုမရှိသည့်အခါ၊ သို့မဟုတ်

(ဆ) ကုမ္ပဏီအား ကြွေးမြီပေးဆပ်ပြီး ဖျက်သိမ်းသည့်အခါ။

၁၇.၃။ စာချုပ်ချုပ်ဆိုသူ (ပျက်ကွက်မှုမရှိသည့် စာချုပ်ချုပ်ဆိုသူ) က၊ အကယ်၍ အောက်ပါ ဖြစ်ရပ်များအနက် တစ်ခုခု (တစ်ခုစီသည် ပျက်ကွက်မှုဆိုင်ရာ ဖြစ်ရပ် တစ်ခု ဖြစ်သည်) ဖြစ်ပေါ်ခဲ့ပါက၊ အခြား စာချုပ်ချုပ်ဆိုသူ (ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူ) ထံသို့ စာဖြင့်ရေးသားထားသည့် အကြောင်းကြားစာ (သဘောတူစာချုပ်ရပ်စဲခြင်းဆိုင်ရာ အကြောင်းကြားစာ) အားဖြင့် ဤ သဘောတူစာချုပ်အား အဆုံးသတ်ပိုင်ခွင့် ရှိရမည်၊

(က) အပိုဒ် ၄.၄ အရ ဤ သဘောတူစာချုပ်နှင့်အညီ ယင်း၏ တာဝန်ဝတ္တရားများအား ရုပ်ပိုင်းဆိုင်ရာ ချိုးဖေါက်မှုတစ်ရပ်ကျူးလွန်ပြီး၊ အကယ်၍ ထိုချိုးဖေါက်မှုသည် ကုစား နိုင်ပါက၊ ထိုသို့ ကုစားရန် ပျက်ကွက်မှုမရှိသည့် စာချုပ်ချုပ်ဆိုသူက စာဖြင့် ရေးသား ထားသည့်အတိအကျတောင်းဆိုမှုပြုသည့် ရက် ခြောက်ဆယ် (၆၀) အတွင်း ထိုချိုးဖေါက်မှုကို ကုစားရန် ပျက်ကွက်ခဲ့လျှင်၊

(ခ) ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူနှင့် ပတ်သက်၍ ဒေဝါလီခံယူမှုဆိုင်ရာ ဖြစ်ရပ် တစ်ခု ရှိနေလျှင်၊

(ဂ) ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူတွင် စီမံအုပ်ချုပ်မှုပြောင်းလဲခြင်း ဖြစ်ပေါ်လျှင် ပျက်ကွက်သည့်စာချုပ်ချုပ်ဆိုသူ၏အာမခံသူက သို့မဟုတ် အပိုဒ် ၂၁.၁.၂ နှင့်အညီ အာမခံမှုပြုလုပ်ထားလျှင်၊

(ဃ) လက်ရှိအခိုက်အတန့်တွင် ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူ အပေါ် တိုက်ရိုက် သို့မဟုတ် သွယ်ဝိုက်၍ ချုပ်ထိန်းမှုရှိသည့် မည်သည့် လူပုဂ္ဂိုလ် သို့မဟုတ် သီးခြားလွတ်လပ်သည့် အဖွဲ့မဆိုနှင့် စပ်လျဉ်း၍ ဤ အပိုဒ် ၁၇.၃ ဆိုင်ရာ မည်သည့် ကိစ္စရပ်မဆို ဖြစ်ပေါ်လျှင်၊ သို့မဟုတ်

(င) ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူ အပေါ် အထက်ရည်ညွှန်းပါ ဖြစ်ရပ်မှန် သမျှ နှင့် အလားတူ အကျိုးသက်ရောက်မှုတစ်ရပ် ရှိသည့် မည်သည့်နိုင်ငံမဆို၏ တရားဥပဒေများ အောက်တွင် မည်သို့သောဖြစ်ရပ်မဆို ဖြစ်ပေါ်လျှင်။

၁၇.၄။ ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူ သို့မဟုတ် ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူ၏ ပါဝင်ပတ်သက်နေသောအမှုထမ်းများအားဖြင့် မည်သည့်ရုပ်ပိုင်းဆိုင်ရာ ချိုးဖေါက်မှုမျိုးမဆို ပေါ်ပေါက်ချိန်တွင် ထို ချိုးဖေါက်မှုကို ကုစားနိုင်ပြီး၊ ထိုသို့ကုစားရန် ပျက်ကွက်မှုမရှိသည့်

စာချုပ်ချုပ်ဆိုသူက စာဖြင့်ရေးသားထားသော အတိအကျ တောင်းဆိုသည့် ရက် ခြောက်ဆယ် (၆၀) အတွင်း၊ ထို ချိုးဖေါက်မှုကို ကုစားရန် ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူက ပျက်ကွက်ပါက၊ပျက်ကွက်သည့်စာချုပ်ချုပ်ဆိုသူထံသို့ သဘောတူစာချုပ်ရပ်စဲခြင်းဆိုင်ရာ အကြောင်းကြားစာ တစ်စောင်ကို ပျက်ကွက်မှုမရှိသည့် စာချုပ်ချုပ်ဆိုသူက ပေးပို့ရန် လုပ်ပိုင်ခွင့် ( သို့သော် တာဝန်ဝတ္တရား မဟုတ်) ရှိရမည်။

၁၇.၅။ သဘောတူစာချုပ်ရပ်စဲခြင်းဆိုင်ရာ အကြောင်းကြားစာ ပေးပို့သည့် ရက် သုံးဆယ် (၃၀) အတွင်း၊ ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူထံသို့ စာဖြင့်ရေးသားထားသော အကြောင်းကြားစာဖြင့်၊ ပျက်ကွက်မှုမရှိသည့် စာချုပ်ချုပ်ဆိုသူ (နှင့် ပျက်ကွက်မှုမရှိသည့် စာချုပ်ချုပ်ဆိုသူက လက်ခံနိုင်သော အဆိုပြုခံရသူ တစ်ဦး သို့မဟုတ် နှစ်မျိုးစလုံး) က၊ ရှယ်ယာတစ်စုလျှင် အားလုံးငွေသားဖြင့် ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူ၏ အစုရှယ်ယာ အားလုံးကိုရောင်းချရန် နှင့် ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူက ၎င်း၏အစုရှယ်ယာ အားလုံးကို ရောင်းချထားသည့် တရားဝင်လွှဲပြောင်း ပေးအပ်ခြင်းခံရသူတစ်ဦးဦးကို ရှယ်ယာရောင်းချအောင် ဆောင်ရွက်ရန် ပျက်ကွက်မှု မရှိသည့် စာချုပ်ချုပ်ဆိုသူထံ ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူက ရောင်းချရန် မိမိ ဆန္ဒအလျောက် တောင်းဆိုနိုင်သည်။ သို့ရာတွင် ယင်းသို့သော ဈေးနှုန်းသည် အစုရှယ်ယာများ၏ သင့်တင့်လျောက်ပတ်သည့်ဈေးကွက်ပေါက်ဈေးထက်မလျော့နည်းစေရ။ (သင့်တင့် လျောက်ပတ်သည့် ဈေးကွက်ပေါက်ဈေးအပေါ် စာချုပ်ချုပ်ဆိုသူများအကြား သဘောထား ကွဲလွဲမှု မှန်သမျှရှိနေသည့်အခါတွင်၊ အဆိုပါသင့်တင့်လျောက်ပတ်သည့် ဈေးကွက်ပေါက်ဈေးကို အပိုဒ် ၁၇.၆ နှင့်အညီ ၁၀ % နှုန်းလျှော့၍ ဆုံးဖြတ်သတ်မှတ်မည်။)

အထက်ဖေါ်ပြပါ အချက်သည် ပျက်ကွက်မှုမရှိသည့် စာချုပ်ချုပ်ဆိုသူက ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူထံမှ ရရှိနိုင်မည့် အခြား ရပိုင်ခွင့် များနှင့် တရားဝင်လျော်ကြေးများ အပြင် ထပ်ဖြည့်စွက်မှု ဖြစ်ရမည့်အပြင်၊ ယင်းတို့ကို နစ်နာမှု သို့မဟုတ် ထိခိုက်မှု မရှိစေရ။

၁၇.၆။ အစုရှယ်ယာများ၏ ဈေးကွက် နားလည်သည့် ဝယ်သူရောင်းသူ အရောင်းအဝယ် ဖြစ်နေသော ဈေးနှုန်းသည် သတ်မှတ်အရည်အချင်းနှင့်ပြည့်စုံသည့် စာရင်းကိုင်များ (ရာဖြတ်များ) ၏ လွတ်လပ်သည့် ကုမ္ပဏီတစ်ရပ်က ဖန်တီးထားမည့် ရှယ်ယာများ၏ ဈေးနှုန်း ဖြစ်ရမည်။ ရာဖြတ်များအား ခန့်အပ်ခြင်းသည် စာချုပ်ချုပ်ဆိုသူများ၏ သဘောတူညီမှု အပေါ် မူတည်ရမည်။ အကယ်၍ ပျက်ကွက်မှုမရှိသည့် စာချုပ်ချုပ်ဆိုသူများ၏ အထက်ဖေါ်ပြပါ အကြောင်းကြားစာ နောက်ပိုင်း လုပ်ငန်းဆောင်ရွက်သည့် နေ့ ဆယ် (၁၀) ရက်အတွင်း ရာဖြတ်ခန့်အပ်ခြင်းအား သဘောတူရန် ပျက်ကွက်ခဲ့ပါက၊ ကုမ္ပဏီ၏ ဒါရိုက်တာများက Institute of Singapore Chartered Accountants ၏ဥက္ကဋ္ဌ သို့မဟုတ် စာချုပ်ချုပ်ဆိုသူများသဘောတူကြသည့် နိုင်ငံတကာအသိအမှတ်ပြု အခြား Institute of Chartered Accountants ၏ဥက္ကဋ္ဌ သို့ နိုင်ငံတကာအဆင့်မီ စီးပွားရေး လုပ်ငန်းပူးပေါင်းဆောင်ရွက်သူ (၁၀) ထက်မနည်းရှိသည့် လက်မှတ်ရစာရင်းကိုင်များ

ကုမ္ပဏီအား ရာဖြတ်များအဖြစ် ဆောင်ရွက်ရန်အတွက် သတ်မှတ်ပေးရန် သို့မဟုတ် အကြံပြုရန် လျှောက်ထားတင်ပြနိုင်သည်။ အကယ်၍ ဥက္ကဋ္ဌက ယင်းသို့သော ကုမ္ပဏီ၏ အမည်ကို တစ်ခုထက်မက သတ်မှတ်ပေးခဲ့မည်ဆိုလျှင်၊ ထိုသို့ဖြစ်ပါက အက္ခရာစဉ် အလိုက်တွင် ပထ ဦးဆုံး ပေါ်လာသည့် ကုမ္ပဏီအား ခန့်အပ်ရမည်။ ရာဖြတ်များနှင့် သက်ဆိုင်သည့် ကုန်ကျစရိတ်မှန်သမျှကို ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူက ကျခံ ရမည်။

ရာဖြတ်များအား၊

၁၇.၆.၁။ ခုံသမာဓိများအဖြစ် မဟုတ်ဘဲ၊ ကျွမ်းကျင်ပညာရှင်များ အနေနှင့် ဆောင်ရွက် နေကြသည်ဟုမှတ်ယူရမည်ဖြစ်ပြီး၊ သံသယကင်းရှင်းစေရန်အတွက်၊ ယင်းတို့၏ ဆုံးဖြတ်ချက်သည် လိမ်လည်မှု သို့မဟုတ် သိသာသည့် မှားယွင်းမှု မရှိသည့် အနေ အထားတွင် အပြီးသတ်ဖြစ်သည့် အပြင် စာချုပ်ချုပ်ဆိုသူများက လိုက်နာစေရမည်။

၁၇.၆.၂။ ယင်းတို့အား ခန့်အပ်ပြီး နောက်ပိုင်း ပြက္ခဒိန် ရက် သုံးဆယ် (၃၀) အတွင်း ယင်းတို့၏ ရာဖြတ်ခြင်း အပြီးသတ်ရမည်။

၁၇.၆.၃။ ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူ၏ အစု ရှယ်ယာများအား ဂယ်ယူရန်အတွက် ယင်း၏ ဆုံးဖြတ်ချက်အား ပျက်ကွက်မှု မရှိသည့် စာချုပ်ချုပ်ဆိုသူက ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူကို အကြောင်းကြားခြင်းကို ဆောင်ရွက်သည့်နေ့ရက်တွင် သို့မဟုတ် အကျပ်အတည်းကိုအကြောင်းကြားသည့်နေ့ရက်တွင် ကုမ္ပဏီရှိရှယ်ယာများအားလုံး၏ အစိတ်အပိုင်းတစ်ရပ်အပေါ်အခြေခံကာ ရာဖြတ်ခြင်းဆိုင်ရာ လူအများလက်ခံထားသော မူဂါဒများ၊ တသမတ်တည်း ကျင့်သုံးနေသည့်အပြင်၊ အောက်ပါ မူဂါဒများ စသည်တို့ကို အသုံးပြုရင်း သက်ဆိုင်သည့် အစုရှယ်ယာများကို ရာဖြတ်ရမည်၊

(က) ဆန္ဒရှိသည့် ရောင်းသူ လွတ်လပ်စွာ ရောင်းချမှုနှင့် စပ်လျဉ်းသည့် ရောင်းချသည့် အစုရှယ်ယာများအား ရာဖြတ်ခြင်း၊

(ခ) အကယ်၍ ကုမ္ပဏီသည် ထိုအချိန်တွင် အရှိန်ရနေသည့် စီးပွားရေး လုပ်ငန်း တစ်ခု ဖြစ်နေမည်ဆိုပါက၊ ထိုသို့ ဆက်လက်ဆောင်ရွက်နေမည်ဟု မှတ်ယူခြင်း၊

(ဂ) ရောင်းချသည့် အစုရှယ်ယာများသည် အကန့်အသတ်မရှိ လွှဲပြောင်းနိုင် မှု ရှိသည်၊

(ဃ) စုစုပေါင်း ရောင်းချထားသည့် ရှယ်ယာ မတည်ငွေနှင့် သက်ဆိုင်သည့် ဦးပိုင် ဖွဲ့စည်းထားသော သို့မဟုတ် ဂယ်ယူပြီး ပေးအပ်ထားသော အများစု သို့မဟုတ် အနည်းစု တစ်ရပ် ကိုသာ ထောက်ထားလျက် ရှယ်ယာပိုင်ဆိုင်မှု မှန်သမျှတွင် မည်သည့် လျှော့ထားသော သို့မဟုတ် ထပ်ဖြည့်ထားသော တန်ဖိုး ကိုမျှ ပူးတွဲမထားရ၊

(င) ကုမ္ပဏီ၏ယခင်ကဘဏ္ဍာရေးဆိုင်ရာဆောင်ရွက်မှုများနှင့် လုပ်ငန်း၏အကျိုးအမြတ်၊ နည်းဗျူဟာဆိုင်ရာဈေးကွက်နေရာရယူခြင်း၊ အနာဂတ်မျှော်မှန်းချက်များ နှင့် လုပ်ငန်းဆောင်ရွက်ချက်များကို ထည့်သွင်းစဉ်းစားရမည်။

(စ) မူပိုင်ခွင့်များနှင့် လက်တွေ့ကျင့်သုံးမှုများနှင့် သက်ဆိုင်သည့် အခြားအချက်များအားလုံးတွင် ကျင့်သုံးမှုသည် ကုမ္ပဏီ၏ ပြုမြဲအတိုင်း ကျင့်သုံးသည့် ယခင်က စာရင်းစစ်ပြီးဖြစ်သည့် ထို စာရင်းရှင်းတမ်းများ၊ တစ်စုံတရာရှိခဲ့ပါက၊ နှင့် ညီညွတ်မှုရှိသည်။

၁၇.၆.၄။ ရာဖြတ်များက အကျိုးအမြတ်များ တရားမျှတစွာ ရရှိစေရန် နှင့် တိကျမှန်ကန်စေရန်၊ တန်ဖိုးသတ်မှတ်သည့်နေ့ နှင့် သက်ဆိုင်သည့်အစုရှယ်ယာများကို လွှဲပြောင်းသည့်နေ့အကြား ကုမ္ပဏီ၏လက်ကျန်ရှင်းတမ်းတွင် ငွေပမာဏ ပြောင်းလဲမှုကို ထည့်သွင်းစဉ်းစားလျက် တန်ဖိုးသတ်မှတ်ပြီးနောက် အဆိုတန်ဖိုးသတ်မှတ်မှုကို ပြန်လည်ပြင်ဆင်ရန် လိုအပ်သည်ဟု ထင်မြင်ပါက၊

၁၇.၇။ အပိုဒ် ၁၇.၅ နှင့်အညီ ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူ၏ အစု ရှယ်ယာများအား ဂယ်ယူရန်အတွက် ယင်း၏ ဆုံးဖြတ်ချက်အား ပျက်ကွက်မှု မရှိသည့် စာချုပ်ချုပ်ဆိုသူက ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူကို အကြောင်းကြား ခြင်း သို့မဟုတ် အပိုဒ် ၁၇.၆ နှင့်အညီ ရာဖြတ်များ၏ ဈေးနှုန်း ဆုံးဖြတ် သတ်မှတ်မှု တစ်ရပ် ပြုပြီးနောက်ပိုင်း ခုနစ် (၇) ရက်အတွင်း၊ ရှယ်ယာများအား လွှဲပြောင်းမှုအတွက် ယင်း၏ခွင့်ပြုချက် ရယူရန် MIC ထံသို့ လျှောက်လွှာတစ်စောင်တင်သွင်းရေးအတွက် စာချုပ်ချုပ်ဆိုသူများသည် အချင်းချင်း ပူးပေါင်းဆောင်ရွက်ရမည်။ MIC က ပြဋ္ဌာန်းနိုင်သည့် အတိုင်း ထိုသို့သော ပုံစံတွင်၊ MIC ၏ ခွင့်ပြုချက်ရပြီး ခုနစ် (၇) ရက် အတွင်း (ရှယ်ယာဂယ်ယူမှုပြီးဆုံးသည့်ရက်စွဲ) (၁) အပိုဒ် ၁၇.၅ သို့မဟုတ် ၁၇.၆ အရ၊ သက်ဆိုင်သည့်အတိုင်း၊ ဆုံးဖြတ် သတ်မှတ်ထားသကဲ့သို့ ၊ ရှယ်ယာတစ်စုလျှင် ငွေသားဖြင့် ဈေးနှုန်းကို အပြည့် ပေးဆောင်ရမည့် သက်ဆိုင်ရာ ရှယ်ယာများအား ရောင်းချရန်နှင့် ပို့ဆောင်ရန်လိုအပ်သော လွှဲပြောင်းမှုဆိုင်ရာစာချုပ်စာတမ်းများအားလုံးကို သက်ဆိုင်ရာ ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူက လွှဲအပ်ပေးရမည် သို့မဟုတ် ၎င်း၏တရားဝင်လွှဲပြောင်းပေးအပ်ခြင်းခံရသူများတစ်ဦးဦးက လွှဲအပ်ရန် ဆောင်ရွက်ရမည်။ (ဆိုလိုသည်မှာ သက်ဆိုင်သည့် ရှယ်ယာများအား ကိုယ်စားပြုသည့် တစ်ခု သို့မဟုတ် တစ်ခုထက်ပိုသည့် အစုရှယ်ယာလက်မှတ်များ၊ မှန်ကန်စွာ စီမံ ဆောင်ရွက်ထားသော ရောင်းချပြီးသည့် ငွေစက္ကူများနှင့် ဂယ်ယူသူကိုယ်စား ယင်းသို့သော ရှယ်ယာများနှင့် ပတ်သက်၍ လွှဲပြောင်းမှုဆိုင်ရာ စာချုပ်စာတမ်းများ)၊ နှင့် ပျက်ကွက်မှုမရှိသည့်စာချုပ်ချုပ်ဆိုသူ နှင့် ၎င်း၏တရားဝင်လွှဲပြောင်းပေးအပ်ခြင်းခံရသူက အဆိုပါအစုရှယ်ယာများအတွက် ပေးချေရမည့် ငွေသားများကို လက်ခံရရှိလျှင် (၂) ထုတ်လုပ်မှုအပေါ် မူတည်၍၊ မှန်ကန်စွာ တံဆိပ်နှိပ်ထား သော လွှဲပြောင်းမှုများကို ဂယ်ယူသူက၊ ယင်းသို့သော ရှယ်ယာများအား ပိုင်ဆိုင်သူ အဖြစ်၊

ကုမ္ပဏီ၏မှတ်တမ်းများတွင် ဂယ်ယူသူ၏အမည်ကို ဘုတ်အဖွဲ့က ရေးသွင်းမည် ဆိုသည့် အချက်ကို စာချုပ်ချုပ်ဆိုသူတစ်ဦးစီက ဆောင်ရွက်ရမည်။ အထက်တွင် ရည်ညွှန်း ထားသည့် လွှဲပြောင်းမှု ဆိုင်ရာ စာချုပ်စာတမ်းများတွင် အပိုဒ် ၅.၁ မှ ၅.၇ အထိ (အားလုံး အပါအဝင်)၊ ရှင်းလင်း ဖော်ပြထားသည့် အာမခံချက်များ ပါဝင်ရမည်။ ကိစ္စရပ် တစ်ခုစီတွင် လိုအပ်သည့် ပြင်ဆင်ပြောင်းလဲမှုများ ပြုလုပ်မှု ပါဝင်သည်။ ရှယ်ယာများအား လွှဲပြောင်းချိန်တွင် ပေးဆောင်ရမည့် တံဆိပ်ခေါင်းခွန်အားလုံးကို ရှယ်ယာများကို ဂယ်ယူသူက ကျခံရမည်။ ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူ၏ အစု ရှယ်ယာများအား ဂယ်ယူရန်အတွက် ယင်း၏ ဆုံးဖြတ်ချက်အား ပျက်ကွက်မှု မရှိသည့် စာချုပ်ချုပ်ဆိုသူက ပျက်ကွက်သည့် စာချုပ်ချုပ်ဆိုသူကို အကြောင်းကြား ခြင်းကို MPPE က ပြုလုပ်ဆောင် ရွက်ပါက MPPE သည် အစိုးရ၏လိုအပ်သောငွေကြေးဖြည့်ဆည်းမှုရရှိစေရန်အတွက် အစုရှယ်ယာများရောင်းချခြင်းပြီးမြောက်သည့်ရက်စွဲကို ၆ လကျော်ကြာသည်အထိ ဆိုင်းငံ့ထားရမည်။ အစုရှယ်ယာများရောင်းချခြင်းပြီးမြောက်သည့်ရက်စွဲ နှင့် အစုရှယ်ယာ များကို အမှန်တကယ်လွှဲပြောင်းပေးအပ်သည့်နေ့မှစတင်၍ အချိန်ကာလအတွက် MPPE က ပေးချေရမည့်ဂယ်ဈေးအပေါ်တွင် ၈ % နှုန်း ထပ်ဆောင်းပေးချေရမည်။

၁၇.၈။ သဘောတူစာချုပ်ရပ်စဲခြင်းဆိုင်ရာအကြောင်းကြားစာတစ်စောင်ကို ထုတ်ပြန် ပေးပြီး နောက်ပိုင်းနှင့် (၁) အပိုဒ် ၁၇.၇ အညီ သက်ဆိုင်ရာ အစုရှယ်ယာများကို လွှဲပြောင်းပေးသည့် (သင့်လျော်မည်ဆိုပါက၊ ရာဖြတ်ခြင်း ကာလ သို့မဟုတ် မည်သည့် ကာလမဆို ပါဝင်ပြီး ယင်းကာလအတွင်း ဤ အပိုဒ် ၁၇ နှင့် ပတ်သက်သည့် ကိစ္စရပ် မှန်သမျှသည် လုပ်ငန်းဆိုင်ရာ အကြောင်းကိစ္စဖြစ်သည်။) အချိန်အထိ သဘောတူ စာချုပ်ရပ်စဲခြင်းဆိုင်ရာ အကြောင်းကြားစာကို ပေးပို့သည့်အချိန်တွင် ရှိနေသည့် လုပ်ငန်း ဆိုင်ရာသာမန်ဆောင်ရွက်မှုအတွင်းတွင် ကုမ္ပဏီကိုဆက်လက်လည်ပတ်ရန် စာချုပ်ချုပ် ဆိုသူ တစ်ဦးစီက ယင်း၏ လုပ်နိုင်သမျှ စွမ်းအားဖြင့် ကိစ္စရပ်အားလုံးကို ဆောင်ရွက်ကြ ရမည်။

၁၇.၉။ ဤ စာချုပ်တွင် ရှင်းလင်းဖော်ပြထားမှုနှင့် ကွဲလွဲမှုရှိသည့် မည်သည့် အကြောင်း ကိစ္စမဆို ရှိသော်ငြားလည်း၊ အကယ်၍ ပျက်ကွက်မှုမရှိသည့် စာချုပ်ချုပ် ဆိုသူက စာဖြင့် ရေးသားထားသည့် လျှောက်ထားမှုနှင့် စပ်လျဉ်း၍ လျှောက်လွှာတင်သည့် နေ့ရက်မှ ရက် ခြောက်ဆယ် (၆၀) အတွင်း အစုရှယ်ယာများအား လွှဲပြောင်းမှုအတွက် MIC ၏ ခွင့်ပြုချက်ကို မရယူခဲ့ပါက၊ ကုမ္ပဏီကို စာရင်းရှင်း ဖျက်သိမ်းရန် နှင့် ယင်း၏ လုပ်ငန်းနှင့် အမှုကိစ္စရပ်များအား စီးပွားရေးအရ အဖြစ်နိုင်ဆုံး လျင်မြန်စွာရပ်စဲရန် လိုအပ်သည့် ယင်းသို့သောအရေးယူဆောင်ရွက်မှုများအားပူးပေါင်းဆောင်ရွက်ရေးအတွက် ယင်းတို့၏ သက်ဆိုင်ဆိုင်ရာအစွမ်းကုန်ကြိုးပမ်းမှုများကိုကျင့်သုံးရန် စာချုပ်ချုပ်ဆိုသူများက သဘောတူ ကြသည်။

**မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**

၁၈.၁။ စာချုပ်ချုပ်ဆိုသူတစ်ဦး (**ထိခိုက်နစ်နာသော စာချုပ်ချုပ်ဆိုသူ**) သည် မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ခုခုကြောင့် ဤစာချုပ်ပါတာဝန်များကို ဆောင်ရွက်ခြင်းအား ထိခိုက်နိုင်မည်ဟုယူဆပါလျှင် ထိခိုက်နစ်နာသောစာချုပ်ချုပ်ဆိုသူသည် အခြား စာချုပ်အား (**ထိခိုက်နစ်နာမှုမရှိသောစာချုပ်**ချုပ်ဆိုသူ**)** အား အဆိုပါ မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်ပြီးနောက် ချက်ချင်း စာဖြင့် အကြောင်းကြားရမည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ခုခုကြောင့် ထိခိုက်နစ်နာသောစာချုပ်ချုပ်ဆိုသူ အနေဖြင့် ဤစာချုပ်ပါတာဝန်များကို မဆောင်ရွက်နိုင်ခြင်း၊ ဆောင်ရွက်ရန်နှောင့်နှေးခြင်းတို့အား ပြစ်မှု ကျူးလွန်သည်၊ စာချုပ်ဖောက်ဖျက်သည်ဟု မမှတ်ယူရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဖြစ်ပေါ်နေစဉ် ကာလအတွင်း ထိခိုက်နစ်နာသောစာချုပ်ချုပ်ဆိုသူသည် ဤစာချုပ်ပါတာဝန်များကို ဆောင်ရွက်ခြင်းအားယာယီဆိုင်းငံ့ထားရသည်။ အဆိုပါ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဖြစ်ပေါ်သော နှောင့်နှေးမှု၊ ပျက်စီးမှု သို့မဟုတ် ဆုံးရှုံးမှုတို့အတွက် ထိခိုက်နစ်နာသော စာချုပ်ချုပ်ဆိုသူတွင် တာဝန်မရှိစေရ။ သို့ရာတွင် ထိခိုက်နစ်နာသော စာချုပ်ချုပ်ဆိုသူ သည် အဆိုပါမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ထိခိုက်နစ်နာမှုလျော့နည်းအောင် သင့်လျော်သော အားစိုက်ထုတ်လျက် ကြိုးပမ်းဆောင်ရွက်ရမည်။ အဆိုပါမလွန်ဆန် နိုင်သောဖြစ်ရပ် ရပ်တန့်သွားသည်နှင့်တစ်ပြိုက်နက် ထိခိုက်နစ်နာသော စာချုပ်ချုပ်ဆိုသူ သည် ဤစာချုပ်ပါတာဝန်များကို ချက်ချင်းဆောင်ရွက်ရမည်။

၁၈.၂။ အဆိုပါမလွန်နိုင်သောဖြစ်ရပ်သည် ခြောက် (၆) လကျော်ကြာသည်အထိ ဆက်လက်ဖြစ်ပွားနေပါက ဤစာချုပ်အား စာချုပ်ပါအပိုဒ် ၁၇.၂ အရ မည်သည့် စာချုပ် ချုပ်ဆိုသူမှမဆို ရပ်စဲနိုင်သည်။

၁၈.၃။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ မီးဘေး၊ လေဘေး၊ အင်အားကြီးမားသော လေမုန်တိုင်းတိုက်ခတ်ခြင်း၊ မြေငလျင်ဘေး သို့မဟုတ် အခြားအားပြင်းသောသဘာဝ ဘေးအန္တရာယ်များကျရောက်ခြင်း၊ ပေါက်ကွဲမှုများ၊ ကူးစက်ရောဂါများ၊ ကူးစက်ရောဂါ ဖြစ်ပွားသူများ (သို့မဟုတ်) ဖြစ်ပွားနိုင်သူများအား သီး ခြားနေရာချထားခြင်း၊ ပလိပ်ရောဂါ၊ စီးပွားရေးပိတ်ဆို့ခြင်း တို့ကဲ့သို့သော အလားတူ အပြည်ပြည်ဆိုင်ရာ စီးပွားရေး ပိတ်ဆို့မှုများ၊ အလုပ်သမားသပိတ်မှောက်ခြင်း သို့မဟုတ် အလုပ်သမားအငြင်းပွားမှု ဖြစ်ပေါ်ခြင်း (ထိခိုက်နစ်နာသောစာချုပ်ချုပ်ဆိုသူ ၏အလုပ်သမားများကြောင့်ဖြစ်ပွားခြင်း မှအပ)၊ အဖျက်အမှောင့်လုပ်ရပ်များ၊ အကြမ်းဖက်မှုများ၊ အဓိကရုဏ်းများ၊ ထကြွ သောင်းကျန်းခြင်း သို့မဟုတ် မငြိမ်မသက်ဖြစ်ပွားမှုများ (ထိခိုက်နစ်နာသော စာချုပ် ချုပ်ဆိုသူ၏အလုပ်သမားများကြောင့်ဖြစ်ပွားခြင်းမှအပ) ပုန်ကန်ထကြွခြင်း၊ တော်လှန်ခြင်း၊ ပုန်ကန် သောင်းကျန်းခြင်း၊ စစ်တပ်မှ (သို့မဟုတ်) တစ်စုံတစ်ဦးမှ အာဏာသိမ်းခြင်း နှင့်ပြည်တွင်းစစ်ဖြစ်ပွားခြင်း၊ စစ်ပွဲများဖြစ်ပွားခြင်း (ကြေညာထားသော သို့မဟုတ်

မကြေညာထားသော)၊ ပြည်ပမှရန်သူများကျူးကျော်ဝင်ရောက်လာခြင်း၊ ပြည်သူ့ (သို့မဟုတ်) စစ်တပ်မှ အာဏာပိုင်များ၏လုပ်ဆောင်ချက်များ၊ အစိုးရ သို့မဟုတ် လုပ်ပိုင်ခွင့်အာဏာရအာဏာပိုင်တစ်ဦးမှတောင်းဆိုခြင်း သို့မဟုတ် ဥပဒေနှင့်အညီ သိမ်းယူခြင်း၊ အဏုမြူပေါက်ကွဲမှု၊ ရေဒီယိုသတ္တိကြွ (သို့မဟုတ်) ဓာတ်သတ္တုယိုစိမ့်မှု ဖြစ်ပွားခြင်း နှင့် ဤစာချုပ်ချုပ်ဆိုပြီးနောက် ဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လိုက်နာရမည့်မူဘောင်များ ပြောင်းလဲခြင်း၊ သို့မဟုတ် စာချုပ်ချုပ်ဆိုသူများ (သို့မဟုတ်) လုပ်ကိုင်ဆောင်ရွက်မည့်ကုမ္ပဏီနှင့် သက်ဆိုင်သောစီးပွားရေးနှင့်နိုင်ငံရေး အပြောင်းအလဲ (အရေးပါသောပြောင်းလဲခြင်း မှ ငွေရေးကြေးရေးဆိုင်ရာအပြောင်းအလဲများဖြစ်သည့် ငွေကြေးစနစ်ထိန်းချုပ်မှု၊ ငွေကြေးတန်ဖိုးကျဆင်းမှု (သို့မဟုတ်) ငွေရေးကြေးရေးဆိုင်ရာ စည်းမျဉ်း စည်းကမ်းများပြောင်းလဲခြင်းတို့ အပါအဝင်) စာချုပ်ချုပ်ဆိုသူတစ်ဖက်ဖက်က လိုအပ်သောသတိဂီရိယနှင့်ဆောင်ရွက်စေကာမူမလွန်ဆန်မကျော်လွှားနိုင်သည့်အလားတူ ဖြစ်ရပ်များကို ဆိုလိုသည်။ သို့ရာတွင် မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ခုခုသည် ထိခိုက်နစ်နာသောစာချုပ်ချုပ်ဆိုသူဖက်မှ ငွေကြေးလုံလောက်စွာမရှိမှု သို့မဟုတ် ငွေကြေးမလုံလောက်မှု သို့မဟုတ် ငွေကြေးမပြည့်စုံမှုတို့နှင့်သက်ဆိုင်သောဖြစ်ရပ်တစ်ခုခုထဲတွင် မပါဝင်ချေ။

၁၈.၄။ စီးပွားရေးပိတ်ဆို့မှုများ သို့မဟုတ် အလားတူ နိုင်ငံတကာ စီးပွားရေးပိတ်ဆို့မှု တစ်ခုခုက လုပ်ငန်း သို့မဟုတ် Puma Energy ၏ ကုမ္ပဏီတွင် ရှယ်ယာပိုင်ဆိုင်မှု သို့မဟုတ် ဤသဘောတူစာချုပ်အရ ၎င်း၏တာဝန်ဝတ္တရားများကို လိုက်နာဆောင်ရွက်ခြင်း အပေါ် အကျိုး သက်ရောက်စေလျှင် MPPE သည် Puma Energy နှင့် ကုမ္ပဏီက အဆိုပါစီးပွားရေးပိတ်ဆို့မှုများ သို့မဟုတ် အလားတူ နိုင်ငံတကာ စီးပွားရေးပိတ်ဆို့မှုနှင့်အညီလိုက်နာဆောင်ရွက်ခြင်းအား ကူညီရန် နှင့် အဆိုပါဖြစ်ရပ်မှ ပေါ်ပေါက်လာနိုင်သောဆုံးရှုံးမှုများ သို့မဟုတ် အခြားပေးရန်တာဝန်များအား ဖြေရှင်းဆောင်ရွက်ရခြင်းကို ကာကွယ်ရန် လိုအပ်သော ဆောင်ရွက်ချက်များ နှင့် လုပ်ငန်းစဉ်များ အားလုံးကို ဆောင်ရွက်ပါမည်ဟု သဘောတူ ဂန်ခံကတိပြုအပ်ပါသည်။

၁၉။ သက်ဆိုင်သည့် တရားဥပဒေနှင့် အငြင်းပွားမှု ဖြေရှင်းခြင်း

၁၉.၁။ သက်ဆိုင်သည့်တရားဥပဒေ

ဤသဘောတူစာချုပ်အား မြန်မာနိုင်ငံ၏ တရားဥပဒေများနှင့် အညီ နားလည်သဘော ပေါက်၍ အနက်ဖွင့်ဆိုရမည်ဖြစ်ပြီး၊ ထိုသို့ နားလည်သဘော ပေါက်ကာ အနက်ဖွင့်ဆိုရမည်။

၁၉.၂။ အငြင်းပွားမှု ဖြေရှင်းခြင်း

၁၉.၂.၁။ စာချုပ်ချုပ်ဆိုသူတစ်ခုမှ စာချုပ်ချုပ်ဆိုသူတစ်ခုသို့ အကြောင်းကြားစာ ပေးအပ်ပြီး နောက်ပိုင်း ရက် ခြောက်ဆယ် (၆၀) ကာလ တစ်ခု အတွင်း၊ ဤ သဘော တူညီမှုမှ ပေါ်ပေါက်လာသည့် သို့မဟုတ် ယင်းနှင့် ပတ်သက်သည့် အငြင်းပွားမှုမှန်သမျှ၊ ယင်း၏ ဖြစ်တည်မှု၊ တရားဝင်ဖြစ်မှု သို့မဟုတ် ရပ်စဲမှု စသည်တို့နှင့် စပ်လျဉ်းသည့် ပြဿနာမှန်သမျှ အပါအဝင်၊ အား သင့်မြတ်ချစ်ကြည်စွာ ဖြေရှင်းရန် စာချုပ်ချုပ်ဆိုသူ အားလုံးတို့သည် အစွမ်းကုန်ကြိုးပမ်းဆောင်ရွက်ကြရမည်။

၁၉.၂.၂။ အကယ်၍ ဤ အပိုဒ်နှင့် အညီ အငြင်းပွားမှု မှန်သမျှအား ရင်းနှီး ချစ်ကြည်စွာ ဖြေရှင်းနိုင်ခြင်း မရှိခဲ့ပါက၊ ထိုသို့ဖြစ်လျှင် ထိုအငြင်းပွားမှုကို ခုံသမာဓိစီရင်ဆုံးဖြတ်သည့် အချိန်တွင် တည်ဆဲဖြစ်သည့် စည်းနောင်မှုရှိသော UNCITRAL ခုံသမာဓိ နည်းဥပဒေများ (နည်းဥပဒေ) နှင့်အညီ ဖြေရှင်းဆောင်ရွက်မည့် ခုံသမာဓိဖြင့် စီရင် ဆုံးဖြတ်ခြင်းထံ လွှဲအပ်ရမည် ဖြစ်ပြီး နောက်ဆုံး အဆုံးအဖြတ်ခံယူရမည်။

၁၉.၂.၃။ ခုံသမာဓိဖြင့်စီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ ခုံရုံးအဖွဲ့ (ခုံရုံးအဖွဲ့) ကို ခုံသမာဓိ သုံး (၃) ဦးဖြင့် ဖွဲ့စည်းရမည်။ စာချုပ်ချုပ်ဆိုသူ တစ်ဦးစီက ခုံသမာဓိ တစ်ဦးစီ ရွေးချယ် ခန့်အပ်ရမည်ဖြစ်ပြီး၊ ထိုသို့ ရွေးချယ်ခန့်အပ်သည့် နှစ်ဦးက တတိယ ခုံသမာဓိ တစ်ဦးကို ရွေးချယ်ခန့်အပ်ရမည် ဖြစ်ကာ၊ ထိုပုဂ္ဂိုလ်သည် ခုံရုံးအဖွဲ့၏ သဘာပတိအဖြစ် ဆောင်ရွက်သည့် ခုံသမာဓိ ဖြစ်ရမည်။ အကယ်၍ ပြက္ခဒိန် ရက် နှစ်ဆယ့်တစ် (၂၁) ရက်အတွင်း အခြား စာချုပ်ချုပ်ဆိုသူက ထိုသို့ ဆောင်ရွက်ရန် တောင်းဆိုမှု တစ်ရပ်အား စာချုပ်ချုပ်ဆိုသူ တစ်ရပ်က ခုံသမာဓိ တစ်ဦးကို အဆိုပြုရန် ပျက်ကွက်ခဲ့ပါက၊ သို့မဟုတ် အကယ်၍ ဒုတိယ ခုံသမာဓိအား ခန့်အပ်ပြီး နောက်ပိုင်း ပြက္ခဒိန်ရက် နှစ်ဆယ့်တစ် (၂၁) ရက်အတွင်း ခုံသမာဓိ နှစ်ဦးက တတိယ ခုံသမာဓိကို အဆိုပြုရန် ပျက်ကွက်ခဲ့ပါက၊ စာချုပ်ချုပ်ဆိုသူတစ်ဦး၏တောင်းဆိုမှုအပေါ် မူတည်၍ စင်ကာပူနိုင်ငံ နိုင်ငံတကာ ခုံသမာဓိ စီရင်ဆုံးဖြတ်ခြင်းစင်တာ၏ဥက္ကဋ္ဌ၏ဦးဆောင်မှုနှင့်အညီ၊ ခန့်အပ်မှုကို ပြုလုပ်ဆောင်ရွက် ရမည်။ ခုံရုံးအဖွဲ့ဆိုင်ရာ စီရင်ဆုံးဖြတ်ခြင်း (စီရင်ဆုံးဖြတ်ခြင်း) မှန်သမျှကို စာဖြင့် ရေးသားခြင်းအားဖြင့် ဆောင်ရွက်ရမည်ဖြစ်ကာ၊ အပြီးသတ်ဖြစ်ရမည်ဖြစ်ပြီး၊ ယင်းကို ဆုံးဖြတ်သည့်နေ့မှစ၍ စာချုပ်ချုပ်ဆိုသူများက လိုက်နာရမည်။ ထို စီရင်ဆုံးဖြတ်ချက်အား နှောင့်နှေးမှု မရှိပဲ လိုက်နာဆောင်ရွက်ရန် စာချုပ်ချုပ်ဆိုသူများသည် တာဝန်ယူကြသည်။

၁၉.၂.၄။ ခုံသမာဓိစီရင်ဆုံးဖြတ်ရာနေရာသည် စင်ကာပူနိုင်ငံဖြစ်ရမည်။ ခုံသမာဓိစီရင် ဆုံးဖြတ်ရာတွင် အသုံးပြုသည့်ဘာသာစကားသည် အင်္ဂလိပ်ဘာသာစကား ဖြစ်ရမည်။

၁၉.၂.၅။ ဥပဒေဆိုင်ရာ ရည်ရွယ်ချက် မှန်သမျှ သော်လည်းကောင်း၊ ဥပဒေဆိုင်ရာ ကိစ္စရပ်မှန်သမျှအပေါ် သုံးသပ်ချက် သော်လည်းကောင်း၊ ပင်ကိုယ် အဆိုးအကောင်းများ

သော်လည်း သို့မဟုတ် အားလုံးသော်လည်းကောင်း စသည်တို့ကို ဆုံးဖြတ်သတ်မှတ်ရန်၊ တရားရုံးမှန်သမျှနှင့် အခြားသော တရားစီရင်ရေး အာဏာပိုင် မှန်သမျှ သို့မဟုတ် နစ်ခု စလုံးတို့ထံ လျှောက်ထားပိုင်ခွင့်မှန်သမျှကို စာချုပ်ချုပ်ဆိုသူများသည် စွန့်လွှတ်ကြသည်။ သို့သော်လည်း၊ ခုံရုံးအဖွဲ့သည် စစ်မှန်သည့်တရားစီရင်မှုမရှိဆိုသည့် အကြောင်းပြချက်နှင့် ဆိုးဂါးသည့် နည်းလမ်းမကျမှုက ခုံရုံးအဖွဲ့၊ တရားစွဲဆိုခြင်း သို့မဟုတ် စီရင်ဆုံးဖြတ်ခြင်း တို့အား ထိခိုက်နေသည်ဆိုသည့် အကြောင်းပြချက် သို့မဟုတ် နစ်ရပ်စလုံးတို့ဖြင့် စီရင်ဆုံးဖြတ်ချက်မှန်သမျှအပေါ် ခုံသမာဓိဖြင့်စီရင်ရာ နေရာနှင့်ပတ်သက်သည့် ဥပဒေကခွင့်ပြုထားသည့်အတိုင်းအတာအထိမေးခွန်းထုတ်ပိုင်ခွင့် မှန်သမျှကို စာချုပ်ချုပ်ဆိုသူများက စွန့်လွှတ်ခွင့်ရှိသည်ဟု မမှတ်ယူရ။ ဤအပိုဒ်ပါ မည်သည့်အချက်မှ စီရင်ပိုင်ခွင့်ရှိသော တရားရုံးတော်က ခုံသမာဓိစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ ကြားဖြတ်သက်သာခွင့်များရရှိရန် အဟန့်အတား မဖြစ်စေရ။

၁၉.၂.၆။ MPPE သည် ဥပဒေကြောင်းအရ ၁၉၈၉ ခုနှစ်၊ နိုင်ငံပိုင်စီးပွားရေး လုပ်ငန်းများဥပဒေ၏အဓိပ္ပာယ်သတ်မှတ်ချက်ဖြစ်သည့် နိုင်ငံပိုင်စီးပွားရေးလုပ်ငန်း ဆို သည်မှာ တရားစွဲဆိုနိုင်ခြင်း၊ တရားစွဲဆိုခံနိုင်ခြင်း နှင့် သက်ဆိုင်ရာအစိုးရအား သက်သာ ခွင့်ပေးမှု (Sovereign immunity) အား ခံစားခွင့်ရှိသော အဖွဲ့အစည်း မဟုတ်သည့် အဖွဲ့အစည်း ဖြစ်သည် ဟူသော အဖွဲ့အစည်း တွင် ပါဝင်ကြောင်း စာချုပ်ချုပ် ဆိုသူများက သဘောတူကြပါသည်။ ရှေ့တွင် ဖော်ပြချက်များကို မထိခိုက်စေဘဲ MPPE သည် ဤသဘောတူစာချုပ်နှင့်အညီ ၄င်း၏ကတိပြုချက်များကိုဖြည့်ဆည်းဆောင်ရွက်ရမည့် ၄င်း၏တာဝန်ဝတ္တရားများကို ခုခံပိုင်ခွင့်နှင့်စပ်လျဉ်းသော သက်ဆိုင်ရာ အစိုးရအား သက်သာခွင့်ပေးမှုကို တောင်းဆိုခွင့်အား စွန့်လွှတ်ပါသည်။

၂၀။ အထွေထွေ

၂၀.၁.၁။ MPPE သို့မဟုတ် Puma Energy သည် ၄င်း၏အဖွဲ့ဝင်အား ၄င်း၏ရှယ်ယာများ အားလုံး သို့မဟုတ် တစ်ချို့တစ်ဂက် ကို မည်သည့်အချိန်တွင်မဆို လွှဲပြောင်း ပေးအပ်နိုင်သည်။ သို့ရာတွင် အဆိုပါရှယ်ယာများလွှဲပြောင်းပေးအပ်ခြင်းမပြုမီ ရှယ်ယာ လွှဲပြောင်းပေးအပ်ခြင်းမပြုသော အစုရှယ်ယာရှင်၏ ကျေနပ်လက်ခံမှုရရှိစေရန်အတွက် အဆိုပြုထားသောလွှဲပြောင်းပေးအပ်ခြင်းခံရသူနှင့် စပ်လျဉ်းသော Know Your Client စစ်ဆေးမှုများဆောင်ရွက်ရာတွင် အရေးပါသော အကြောင်းကိစ္စများ သို့မဟုတ် ကိစ္စရပ်များ မပေါ်ပေါက်စေရ။ (တရားဝင်လွှဲပြောင်းပေးအပ်မှု)

၂၀.၁.၂။ လွှဲပြောင်းပေးအပ်သူ၏ရှယ်ယာများအားလုံးနှင့်စပ်လျဉ်း၍ တရားဝင် လွှဲပြောင်း ပေးအပ်မှုပြုလုပ်ရာတွင်ဤသဘောတူစာချုပ်ကိုလွှဲပြောင်းပေးအပ်သောအစုရှယ်ယာရှင်၏ နေရာတွင်အစုရှယ်ယာရှင်အဖြစ်အစားဝင်ရောက်မည့် သက်ဆိုင်ရာ တရားဝင်လွှဲပြောင်း ပေးအပ်ခြင်းခံရသူနှင့် ယခင်စည်းမျဉ်းစည်းကမ်းများအတိုင်း ပြန်လည်ချုပ်ဆိုရမည်။ MPPE သို့မဟုတ် Puma Energy က လွှဲပြောင်းပေးအပ်သော အစုရှယ်ယာရှင်အဖြစ်

အဆိုပါပြန်လည်ချုပ်ဆိုသောသဘောတူစာချုပ်၏စည်းကမ်းချက်များနှင့်အညီ ရှယ်ယာလွှဲပြောင်းပေးအပ်ခြင်းမပြုသော အစုရှယ်ယာရှင်၏ ကျေနပ်လက်ခံမှုရရှိစေရန်အတွက် တရားဝင်လွှဲပြောင်းပေးအပ်ခြင်းခံရသူများ၏တာဝန်များ နှင့် တာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ အာမခံချက်ပေးရမည်။

၂၀.၁.၃။ အပိုဒ် ၂၀.၁.၁ နှင့်အညီ စာချုပ်ချုပ်ဆိုသူများသည် တရားဝင် လွှဲပြောင်းပေးအပ်မှုအတွက် လိုအပ်သော သဘောတူညီချက်များအားလုံးအား ပေးအပ်ရန် နှင့် သက်ဆိုင်ရာ အစုရှယ်ယာများလွှဲပြောင်းမှုအတွက် MIC ၏သတ်မှတ် ထားသော ပုံစံဖြင့် MIC ၏ သဘောတူ ခွင့်ပြုချက်ရရှိစေရန် MIC သို့ လျှောက်ထား တင်ပြရာတွင် စာချုပ်ချုပ်ဆိုသူများအချင်းချင်း ပူးပေါင်းဆောင်ရွက်ရန် သဘောတူ ကြပါသည်။

၂၀.၂။ လုပ်ငန်းဆိုင်ရာ ဆက်ဆံရေး

သံသယကင်းရှင်းစေရန်အတွက်၊ စာချုပ်ချုပ်ဆိုသူများအကြားဆက်ဆံရေးသည် အစုစပ်စီးပွားရေးလုပ်ငန်း တစ်ရပ် အနေနှင့်မဟုတ်ပဲ၊ ဤသဘောတူစာချုပ်က ရှင်းလင်းဖော်ပြထားသည့်အတိုင်း လက်တွေ့ကျမှုအတွက် စီးပွားရေးလုပ်ငန်းဆိုင်ရာ ဆက်ဆံရေး တစ်ရပ် ဖြစ်သည်။

၂၀.၃။ ပြင်ဆင်ချက်များနှင့် ပြုပြင်မွမ်းမံမှုများ

ဤ ကိစ္စအတွက် စာချုပ်ချုပ်ဆိုသူများက စာဖြင့်ရေးသားပြီး မှန်ကန်စွာ လက်မှတ်ထိုးထားမှုတစ်ရပ်မှအပ၊ မည်သည့်အခြေအနေတွင်မဆို ဤ သဘောတူ စာချုပ်ကို ပြုပြင်မွမ်းမံခြင်း၊ ပြင်ဆင်ခြင်း သို့မဟုတ် ပြောင်းလဲခြင်း မပြုလုပ် ရ။ ထို့အပြင် အခြားနည်းလမ်းတစ်ရပ်ရပ်ဖြင့် ဤ သဘောတူစာချုပ်ကို ပြင်ဆင်ရန် လုပ်ပိုင်ခွင့် မှန်သမျှကို စာချုပ်ချုပ်ဆိုသူ တစ်ခုစီသည် ဤသို့ အားဖြင့် ရှောင်ကြဉ်သည်။

၂၀.၄။ စွန့်လွှတ်မှုပြုလုပ်ခြင်း မဟုတ်ခြင်း

ဤသဘောတူစာချုပ်အရ ရပိုင်ခွင့်တစ်ရပ် သို့မဟုတ် သက်သာခွင့်တစ်ရပ်ကို ကျင့်သုံးရန် ပျက်ကွက်ခြင်း သို့မဟုတ် နှောင့်နှေး ခြင်းသည် ရပိုင်ခွင့် သို့မဟုတ် သက်သာခွင့်ကို စွန့်လွှတ်ခြင်း သို့မဟုတ် အခြားရပိုင်ခွင့်များ သို့မဟုတ် သက်သာခွင့်များအား စွန့်လွှတ်မှု တစ်ရပ် မဖြစ်စေရသည့် အပြင်၊ ဤသဘောတူစာချုပ်အရ ရပိုင်ခွင့် သို့မဟုတ် သက်သာခွင့် တစ်ခုကို မကျင့်သုံးခြင်းသည် အဆိုပါ ရပိုင်ခွင့် သို့မဟုတ် သက်သာခွင့် သို့မဟုတ် အခြားရပိုင်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဆက်လက်ကျင့်သုံးရန် ဟန့်တားခြင်း မရှိစေရ။

၂၀.၅။ သီးခြားရှိခြင်း

ဤသဘောတူစာချုပ်၏အစိတ်အပိုင်းတစ်ရပ်ရပ်အား တရားမဝင်သို့မဟုတ် အာဏာသုံး၍ မဖြစ်နိုင် ဟု တရားဝင်ကြေညာခဲ့ပါက၊ စာချုပ်ချုပ်ဆိုသူအားလုံးသည်၊ ဤ သဘောတူစာချုပ်ကို ပြင်ဆင်၊ ပြုပြင်မွမ်းမံ သို့မဟုတ် ပြင်ဆင်ပြောင်းလဲရန် ဆီလျော်သည့် အရေးယူဆောင်ရွက်မှုအားလုံး အပါအဝင်၊ အလားတူ အကျိုးရလဒ် အမြောက် အမြား သို့မဟုတ် ယင်းနှင့်ပတ်သက်၍ အဖြစ်နိုင်ဆုံး၊ ယင်းတို့အတွက် ရရှိနိုင်မည့် နည်းလမ်း အားလုံးတွင် ပူးပေါင်းဆောင်ရွက်ကြရမည်။ အကယ်၍ ဤသဘောတူစာချုပ်၏ သတ်မှတ်ချက်နှင့် ပြဋ္ဌာန်းချက်မှန်သမျှကို နောင်တွင် ခုံရုံးအဖွဲ့သို့မဟုတ် ကျွမ်းကျင်သည့် တရားစီရင်ပိုင်ခွင့်ရှိသည့်တရာရုံး (အပိုဒ် ၁၉.၂.၅ နှင့်အညီ တရားရုံး တရားစွဲဆိုမှုများကို ခွင့်ပြုသည့်တရားရုံး) မှန်သမျှက ဥပဒေနှင့် ဆန့်ကျင်သည်ဟု နောက်ဆုံးစီရင် ဆုံးဖြတ်ချက်အရ တရားဝင်ကြေညာခဲ့မည်ဆိုပါက၊ ကြိုတင်သတ်မှတ်ချက်များဖြင့် ချုပ်ဆို ထားသည့် ပဋိညာဉ်စာချုပ်တစ်ရပ် သို့မဟုတ် ဤ သဘောတူစာချုပ်၏ အနှစ်သာရအဖြစ် အတိအလင်းအဓိပ္ပာယ်ဖွင့်ဆိုထားမှု သို့မဟုတ် ဤသဘောတူ စာချုပ်၏ကျန်ရှိသည့် အပိုင်း ဆိုင်ရာ မရှိမဖြစ်လိုအပ်သည့် သို့မဟုတ် ခွဲခြား၍မရနိုင်သည့် အစိတ်အပိုင်းတစ်ခု အနေနှင့် ဖွဲ့စည်းထားမှု တစ်ရပ် ဖြစ်ရမည်ဟု သတ်မှတ်ချက်များနှင့် ပြဋ္ဌာန်းချက်များ (စာချုပ်ချုပ်ဆိုသူ မှန်သမျှ အားဖြင့်) က တရားဝင် ကြေညာမထားပါက၊ ယင်းသို့သော စီရင်ဆုံးဖြတ်ချက်က အခြားသတ်မှတ်ချက် သို့မဟုတ် ပြဋ္ဌာန်းချက်မှန်သမျှ၏ တရားဝင် ဖြစ်မှု သို့မဟုတ် အာဏာတည်စေနိုင်မှုကို ပြင်ဆင်ပြောင်းလဲ ခြင်း မပြုရ။

၂၀.၆။ လွှဲအပ်ခြင်း

အပိုဒ် ၂၀.၁ နှင့်အညီ အခြားစာချုပ်ချုပ်ဆိုသူ၏ ကြိုတင် စာဖြင့်ရေးသားထားသည့် သဘောတူညီမှုမှ အပ၊ (က) MPPE နှင့် MPPE ၏ အဆိုပြုခံရသူ(များ) ၏ ကိစ္စတွင် အဖွဲ့ဝင်တစ်ဦးထံ လွှဲအပ်မှု သို့မဟုတ် လွှဲပြောင်းမှု တစ်ရပ် သို့မဟုတ် (ခ) ဤ စာချုပ်၏ သတ်မှတ်ချက်နှင့် ပြဋ္ဌာန်းချက်နှင့် ဤစာချုပ်တွင်အတိအလင်း ရည်ရွယ်ထားသည့် အတိုင်း သို့မဟုတ် နှစ်ရပ်စလုံးတို့နှင့် အညီ တတိယပုဂ္ဂိုလ်တစ်ရပ်ထံ လွှဲအပ်မှု သို့မဟုတ် လွှဲပြောင်းမှု တစ်ရပ် စသည်တို့မှလွဲ၍၊ စာချုပ်ချုပ်ဆိုသူ တစ်ရပ်သည် ဤ သဘောတူစာချုပ် အောက်ရှိ ယင်း၏ ရပိုင်ခွင့်များနှင့် တာဝန်ဝတ္တရာများနှင့် စပ်လျဉ်း၍ ယုံကြည်အပ်နှံမှု မှန်သမျှအား လွှဲအပ်၊ လွှဲပြောင်း သို့မဟုတ် ဖန်တီးခြင်း သို့မဟုတ် လွှဲအပ်ရန်၊ လွှဲပြောင်းရန် သို့မဟုတ် ဖန်တီးရန် ရည်ရွယ်ခြင်း စသည်တို့ကို မပြုလုပ်ရ။ အထက်တွင် ဖော်ပြထားမှု အပေါ် မူတည်၍၊ စာချုပ်ချုပ်ဆိုသူများ၏ ဆက်ခံသူများနှင့် ခွင့်ပြုထားသည့် လွှဲအပ်ခံရသူများ၏ အကျိုးစီးပွားဆိုင်ရာနှင့် ယင်းကိုခံစားနေရသည့် ကိစ္စရပ်အားလုံးနှင့် သက် ဆိုင်စေရမည့်အပြင်၊ ယင်းကိစ္စတို့တွင် တာဝန်ယူရမည်။

၂၀.၇။ အကြောင်းကြားစာများ

မည်သည့်စာချုပ်ချုပ်ဆိုသူသို့မဆို အောက်ပါအကြောင်းကြားစာများ၊ တောင်းဆိုချက်များ နှင့် အခြား ဆက်သွယ်မှု အားလုံးတို့သည် စာဖြင့်ရေးသားထား ရမည်ဖြစ်ပြီး၊ (၁) " ဆက်သွယ်ဆောင်ရွက်မည့်ပုဂ္ဂိုလ်" ဟူသော ခေါင်းစဉ် အောက်တွင် အမည်ဖော်ပြထား သည့် သက်ဆိုင်ရာ ပုဂ္ဂိုလ်ထံသို့ လူကိုယ် တိုင် ပေးပို့သည့် ပေးပို့မှု အပေါ်မူတည်၍၊ (၂) အောက်တွင်ဖော်ပြထားသော လက်ခံရရှိသူ စာချုပ်ချုပ်ဆိုသူ၏ လိပ်စာထံသို့ နိုင်ငံတကာ အသိအမှတ် ပြုသည့် ညတွင်းချင်း ပေးပို့မှုဆိုင်ရာ ဝန်ဆောင်မှု၊ (ဥပမာ DHL, FEDEX, UPS, စသည်)၊ သင်္ဘောတင်ခြင်း၊ ဝန်ဆောင်ခပေးခြင်း၊ ကြိုတင် ငွေချေခြင်း စသည်တို့ဖြင့် သင်္ဘောတင်ကုန် အတွက် တင်ပို့ပြီးနောက် လုပ်ငန်းဆောင် ရွက်သည့် နေ့ လေး (၄) ရက်၊ သို့မဟုတ် (၃) ပေးပို့မှု အပေါ်မူတည်၍ သို့မဟုတ် အောက်တွင် ဖော်ပြထားသည် သက်ဆိုင်ရာ ဖက်(စ) နံပါတ်သို့ ဖက်(စ) နှင့် ပေးပို့မှု အပေါ်မူတည်၍ ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည်။ ထိုသို့ဖြစ်စေရန် (က) ဖက်(စ) အား အောင်မြင်စွာ ပေးပို့ပြီးကြောင်း အတည်ပြုမှု ထုတ်ပေးထားပြီးဖြစ်သည့် အတည်ပြုမှု အစီရင်ခံစာ တစ်စောင်၊ နှင့် (ခ) စနေနေ့တစ်နေ့ သို့မဟုတ် တနင်္ဂနွေနေ့တစ်နေ့ သို့မဟုတ် လုပ်ငန်းဆောင်ရွက်သည့် နေ့တစ်နေ့၏ ညနေ ၅ နာရီ နောက်ပိုင်း ဖက်(စ) တစ်စောင်ကို ရရှိပါက၊ ထိုစာကို နောက်တစ်နေ့တွင် ပေးပို့သည်ဟု မှတ်ယူရမည်။

| စာချုပ်ချုပ်ဆိုသူ | လိပ်စာ | ဖက်(စ်) နံပါတ် | ဆက်သွယ်ဆောင်ရွက်မည့် ပုဂ္ဂိုလ် |
|---|---|---|---|
| Puma Energy | 1 Marina Boulevard, # 28-00, One Marina Boulevard, Singapore 018989 | +65 6734 9448 | Puma Energy ကုမ္ပဏီ၏ အတွင်းရေးမှူး၊ Puma Energy |
| MPPE | မြန်မာ့ရေနံထွက် ပစ္စည်းရောင်းဝယ်ရေး လုပ်ငန်း၊ စွမ်းအင် ဝန်ကြီးဌာန၊ ရုံးအမှတ် ၆၊ နေပြည်တော်၊ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် | +95 67 4211281 | ဦးသန့်စင် |

ဤအပိုဒ် တွင်ပါရှိသည့် အထက်ဖော်ပြပါ ရည်ရွယ်ချက်များအတွက် ပြောင်း လဲမှုတစ်ရပ်နှင့် ပတ်သက်၍ စာချုပ်ချုပ်ဆိုသူ တစ်ရပ်က အခြား စာချုပ်ချုပ်ဆိုသူထံ

အကြောင်းကြားရမည်။ ယင်းသို့သော အကြောင်းကြားမှုသည် အောက်ပါ အချက်များနှင့် စပ်လျဉ်း၍သာ ထိရောက်မှုရှိရမည်၊

(က) အပြောင်းအလဲ ပေါ်ပေါက်သည့် ရက်စွဲအဖြစ် အကြောင်းကြားချက် တွင် ပါရှိသည့် အတိအကျဖော်ပြထားသည့် ရက်စွဲ၊ သို့မဟုတ်

(ခ) အကယ်၍ ရက်စွဲအတိအကျ မဖော်ပြခဲ့လျင် သော်လည်းကောင်း၊ အတိအကျဖော်ပြသည့် ရက်စွဲသည် အကြောင်းကြားစာ ပေးပို့သည့်ရက် နောက် ပိုင်း ခုနစ် (၇) ရက် ထက်လျော့နည်းခဲ့လျင် သော်လည်းကောင်း၊ ယင်း သို့သော ပြောင်းလဲမှုမှန်သမျှနှင့် စပ်လျဉ်း၍ အကြောင်းကြားစာ ပေးပို့ပြီး နောက် ခုနစ် (၇) ရက်တွင် ကျရောက်သည့် ရက်စွဲ။

ဤသဘောတူစာချုပ်နှင့်သက်ဆိုင်သည့်အကြောင်းကြားစာများနှင့်စာအဆက်အသွယ်များ အားလုံးတို့သည် အင်္ဂလိပ်စာ ဖြစ်ရမည်။ အင်္ဂလိပ်စာမှ အပ၊ မည်သည့် ဘာသာရပ် မဆိုသို့ ဘာသာပြန်မှု လိုအပ်ခဲ့လျင်၊ အင်္ဂလိပ်ဘာသာစကားက လွှမ်းမိုးရမည်။

၂၀.၈။ အဆိုပြုခံရသူများနှင့် အဖွဲ့ဝင်များ

ဤ သဘောတူစာချုပ်နှင့် အညီ စာချုပ်ချုပ်ဆိုသူတစ်ရပ်က ယင်း၏ အစု ရှယ်ယာအားလုံး သို့မဟုတ် အချို့တို့အား အဆိုပြုခံရသူနှင့် အဖွဲ့ဝင် တို့ ကို လွှဲပြောင်းပေးရာတွင်၊ ဤ သဘောတူစာချုပ် အောက်တွင် စာချုပ်ချုပ်ဆိုသူ အပေါ် ချမှတ်ထားသည့် တာဝန်ဝတ္တရား အားလုံးကို ယင်းတို့၏ အဆိုပြုခံရ သူနှင့် အဖွဲ့ဝင်တို့က လိုက်နာသည် ဆိုသည့်အချက်ကို ထိုစာချုပ်ချုပ်ဆိုသူက ရယူရမည် ဖြစ်သည့်အပြင်၊ စာချုပ်ချုပ်ဆိုသူ တစ်ရပ်သို့ ရည်ညွှန်းမှုမှန်သမျှတွင် စာချုပ်ချုပ်ဆိုသူ၏ အစုရှယ်ယာများ၏ အချို့ကို သော်လည်းကောင်း အားလုံးကို သော်လည်းကောင်း ပိုင်ဆိုင်သည့် အဆိုပြုခံရသူ သို့မဟုတ် အဖွဲ့ဝင် မှန်သမျှအား ရည်ညွှန်းမှု တစ်ရပ် ပါဝင်ကြောင်းကိုလည်း အဖွဲ့ အစည်းအားလုံးက သဘောတူရမည်။

၂၀.၉။ မူပွားများ

ဤသဘောတူစာချုပ်အားမူပွားများစွာဖြင့်အတည်ပြုနိုင်ပြီးအတည်ပြုခြင်းဆောင်ရွက်ပြီးစီး ပါက အဆိုပါ မူပွားတစ်ခုစီသည် ဤသဘောတူစာချုပ်၏ မူရင်းတစ်ခုစီအဖြစ် မှတ်ယူ နိုင်သည်။ သို့ရာတွင် အဆိုပါမူပွားများအားလုံးကို စုပေါင်း၍ စာချုပ်တစ်ခုတည်းအဖြစ် မှတ်ယူရမည်။

၂၀.၁၀။ နောက်ထပ် အာမခံချက်များ

စာချုပ်ချုပ်ဆိုသူတစ်ဦးစီသည်၊ ဘုတ်အဖွဲ့နှင့် စာချုပ်ချုပ်ဆိုသူများ တို့၏အစည်းအဝေး များတွင် တိုက်ရိုက်သော်လည်းကောင်း သွယ်ဝိုက်၍သော်လည်းကောင်း ယင်းက ထိန်းချုပ်ထားသည့် မဲများအား အကန့်အသတ်မရှိ အသုံးချနိုင်မှု အပါအဝင်၊ ဤ သဘောတူစာချုပ်နှင့် စာချုပ်ပါအချက်များတို့နှင့် စပ်လျဉ်းသည့် သတ်မှတ်ချက်များအား လိုက်နာ ရေး သေချာစေရန် နှင့်၊ ဤ သဘောတူစာချုပ်အား အကျိုးသက်ရောက်စေရန် လိုအပ်နိုင်သလို သို့မဟုတ် ဆန္ဒရှိနိုင်သလို ထိုသို့သော အပြုမူများ နှင့် ကိစ္စရပ်များ အားလုံးအားလုပ်ဆောင်ရန် စာချုပ်ချုပ်ဆိုသူတစ်ဦးစီသည် ထိုက်သင့်သော ကြိုးပမ်းမှု များကို အသုံးပြု၍ လက်တွေ့ကျသည့် ဆောင်ရွက် မှုအားလုံးကို ဆောင်ရွက်ရမည်။

၂၇.၁၁။ အလုံးစုံသဘောတူညီမှု

ဤသဘောတူစာချုပ်တွင် ဤစာချုပ်၏အကြောင်းအရာနှင့်ပတ်သက်၍ စာချုပ်ချုပ်ဆိုသူ များအကြား နားလည်မှုနှင့်သဘောတူညီမှုအားလုံး ပါဝင်သည့်အပြင်၊ ယင်းသို့သော အကြောင်းအရာနှင့် ပတ်သက်၍ ကြိုတင် နားလည်မှုများနှင့် သဘောတူညီမှုများ (နှုတ် အားဖြင့် ဖြစ်စေ၊ စာရေးသား ခြင်းဖြင့် ဖြစ်စေ) များအပေါ် လွှမ်းမိုးသည်။ ဤသဘောတူ စာချုပ်ကိုချုပ်ဆိုရာတွင် စာချုပ်ချုပ်ဆိုသူများသည် ဤသဘောတူစာချုပ်၏စာဖြင့် ရေးသားထားသော စည်းကမ်းချက်များအဖြစ် ဖော်ပြထားခြင်းမရှိသော မည်သည့်အချက် ကိုမှ ယုံကြည်လက်ခံခြင်းမရှိပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။ သို့ရာတွင် ဤအပိုဒ် ၂၇.၁၁ တွင် လိမ်ညာသည့်သဘောဖြင့်အလွဲဖော်ပြခြင်းကြောင့် ပေါ်ပေါက်သော ပေးရန် တာဝန်များပါ ပါဝင်စေရမည်။ ဤသဘောတူစာချုပ်တွင် ရေးသားဖော်ပြထားသော စည်း ကမ်းချက်များမှအပ အခြားမည်သည့်စည်းကမ်းချက်မှ ပါဝင်ခြင်းမရှိစေရ။

၂၇.၁၂။ ဆက်လက်တည်တန့်နေမှု

အပိုဒ် ၄.၈၊ ၁၅၊ ၁၉ နှင့် ၂၇ နှင့်သက်ဆိုင်သည့် ပြဋ္ဌာန်းချက်များ သည် ဤ သဘောတူစာချုပ် ရပ်စဲသည်အထိ ဆက်လက်တည်တန့် နေရမည်။

၂၇.၁၃။ ကုန်ကျစရိတ်များ

ဤ သဘောတူစာချုပ် သို့မဟုတ် သက်ဆိုင်သည့် စာချုပ်စာတမ်း က အခြားနည်းဖြင့် ပြဌာန်းသည်မှလွဲ၍၊ စာချုပ်ချုပ်ဆိုသူတစ်ဦးစီသည် ဤသဘောတူစာချုပ်နှင့် ဤ စာချုပ်ကို ရည်ညွှန်းသည့် စာချုပ်စာတမ်း တစ်ခုစီ တို့နှင့် စပ်လျဉ်း၍ ယင်း၏ စေ့စပ် ဆွေးနွေးမှု၊ ကြိုတင်ပြင်ဆင်မှုနှင့် ဆောင်ရွက်မှု စသည်တို့နှင့် ပတ်သက်သည့် ယင်း၏ ကုန်ကျစရိတ်များကို ပေးဆောင်ရမည်။

၂၇.၁၄။ ဘာသာစကား

ဤ သဘောတူစာချုပ်တွင်သုံးစွဲသော ဘာသာစကားသည် (ထိုစာချုပ်အတွက် အစီအစဉ်နှင့် နောက်ဆက်တွဲများ အပါအဝင်) သာမက ထိုစာချုပ်မှ ပေါ်ပေါက်လာ သည့် စာရေးဆက်သွယ်မှုမှန်သမျှတို့သည် အင်္ဂလိပ် ဘာသာစကားဖြစ်ရမည်။ မြန်မာ သို့မဟုတ် အခြား ဘာသာစကားသို့ ဘာသာပြန်မှု တစ်ရပ် ပြုလုပ် သို့မဟုတ် လိုအပ်ခဲ့ပါက၊ အင်္ဂလိပ် ဘာသာစကားသည် လွှမ်းမိုးရမည်။

၂၀.၁၅။ စာရင်းစစ်အဖွဲ့

၂၀.၁၅.၁။ ကုမ္ပဏီ၏စာရင်းစစ်အဖွဲ့သည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီ ခန့်အပ်ထားပြီး အပိုဒ် ၈ နှင့်အညီ သီးသန့်အကြောင်းကိစ္စအဖြစ် ဘုတ်အဖွဲ့က သဘောတူခွင့်ပြုထားသည့် မြန်မာနိုင်ငံတွင်ရုံးများဖွင့်လှစ်ထားသည့် နိုင်ငံတကာ အသိအမှတ်ပြု စာရင်းကိုင်များဖြင့်ဖွဲ့စည်းသော စာရင်းစစ်အဖွဲ့ဖြစ်ရမည် (ကုမ္ပဏီ၏စာရင်းကိုင်အဖွဲ့။ ကုမ္ပဏီ၏စာရင်းကိုင်အဖွဲ့အတွက် ကုန်ကျစရိတ်များကို ကုမ္ပဏီက ကျခံဖြေရှင်းဆောင်ရွက်ရမည်။

၂၀.၁၅.၂။ မြန်မာနိုင်ငံပြည်ထောင်စုရှေ့နေချုပ်ရုံး (နောင်တွင် AGO ဟုခေါ်ဆိုမည်) ကလည်း အစိုးရအားအစီရင်ခံရန်ရည်ရွယ်ချက်များအတွက်သာ လိုအပ်သော စာရင်းစစ်ခြင်းများကို ဆောင်ရွက်ရန် ကုမ္ပဏီ၏ဒုတိယစာရင်းစစ်အဖွဲ့ (ပြည်ထောင်စုရှေ့နေချုပ်ရုံးစာရင်းစစ်အဖွဲ့)ကိုလည်း ခန့်အပ်ရမည်။ စာချုပ်ချုပ်ဆိုသူတစ်ဦးချင်းစီသည် ပြည်ထောင်စုရှေ့နေချုပ်ရုံးစာရင်းစစ်အဖွဲ့ ရာထူးမှဖယ်ရှားခြင်းမခံရစေရန် သို့မဟုတ် အစားထိုးခန့်အပ်ခြင်းမခံရစေရန်အတွက် ကုမ္ပဏီ၏ အစုရှယ်ယာရှင်များအစည်းအဝေးတွင် ၎င်းပေးပိုင်ခွင့် ရှိသည့် မဲများကိုပေး၍ ဆောင်ရွက်မည်၊ ၎င်းခန့်အပ် ထားသော ဒါရိုက်တာများက သင်းလုံးကျွတ်အစည်းအဝေးများတွင် ၎င်းတို့ပေးပိုင်ခွင့်ရှိသည့်မဲများကိုပေး၍ ဆောင်ရွက်မည် ဟု ဂန်ခံကတိပြုအပ်ပါသည်။ ထို့အပြင် ပြည်ထောင်စုရှေ့နေချုပ်ရုံးစာရင်းစစ်အဖွဲ့သည် ကုမ္ပဏီ၏ဘုတ်အဖွဲ့ သို့မဟုတ် အစုရှယ်ယာရှင်များ၏လက်အောက်ရှိ ပုဂ္ဂိုလ်တစ်ဦးဦးသို့မဟုတ် အဖွဲ့အစည်းတစ်ခုခု၏ရာထူးမှဖယ်ရှားခြင်းမခံရစေရန် စာချုပ်ချုပ်ဆိုသူများက ဆောင်ရွက်ပါမည်ဟု ဂန်ခံကတိပြုပါသည်။ ပြည်ထောင်စုရှေ့နေချုပ်ရုံးစာရင်းစစ်အဖွဲ့၏ကုန်ကျစရိတ်များကို ကုမ္ပဏီက ကျခံဖြေရှင်းရမည် ဟု စာချုပ်ချုပ်ဆိုသူများက သဘောတူကြပါသည်။

အထက်ပါ ရက်နှင့် ခုနှစ် တွင် စာချုပ်ချုပ်ဆိုသူများသည် သက်သေများရှေ့မှောက်၌ ဤသဘောတူစာချုပ်ကိုရေးသားချုပ်ဆို၍ လက်မှတ်ရေးထိုး ကြသည်။

| | |
|---|---|
| **PUMA ENERGY GROUP PTE LTD** | **မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း** |
| အမည် | အမည် |
| ရာထူး | ရာထူး |
| အသိသက်သေ | အသိသက်သေ |
| အမည် | အမည် |
| ရာထူး | ရာထူး |

## နောက်ဆက်တွဲ က

## ဘုတ်အဖွဲ့၏ သီးသန့် ကိစ္စရပ်များ

၁။ ပြည်ထောင်စု မြန်မာနိုင်ငံဆိုင်ရာ သမ္မတ၏ စာဖြင့်ရေးသားထားသည့် ခွင့်ပြုချက်အပေါ် မူတည်၍ ကုမ္ပဏီ၏ အမည်အား ပြောင်းလဲမှုမှန်သမျှ

၂။ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း နှင့်/သို့မဟုတ် သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် နှစ်ခုစလုံးကို ပြင်ဆင်ချက် မှန်သမျှ

၃။ လုပ်ငန်းဆိုင်ရာ သဘောသဘာဂ သို့မဟုတ် နယ်ပယ်တွင် ပြောင်းလဲမှု၊ ကုမ္ပဏီက အခြားအဖွဲ့အစည်းများနှင့်ပူးပေါင်းဖွဲ့စည်းတည်ထောင်ခြင်း သို့မဟုတ် ကုမ္ပဏီ ပြန်လည်ဖွဲ့စည်းတည်ထောင်ခြင်း သို့မဟုတ် ကော်ပိုရေးရှင်း၊ ကုမ္ပဏီ သို့မဟုတ် အခြားအဖွဲ့အစည်း တစ်ခုခုဖြင့် ပူးပေါင်းတည်ထောင်ခြင်း အပါအဝင်၊ ကုမ္ပဏီ၏ ရည်ရွယ်ချက်များတွင် ပြောင်းလဲမှု မှန်သမျှ

၄။ ကုမ္ပဏီ၏ အစုရှယ်ယာများ ထုတ်ရောင်းခြင်း(ဒုတိယအကြိမ်မတည်ငွေထည့်ဝင်ရာတွင် အစုရှယ်ယာများထုတ်ရောင်းခြင်းမှအပ) ၊ ကုမ္ပဏီ၏အစုရှယ်ယာမတည်ငွေတွင် အရေးကြီးသော လျှော့ကျမှု၊ စုစည်းမှု၊ ထပ်ဆင့်ခွဲခြားမှု သို့မဟုတ် ထပ်ဆင့်အတန်းအစား သတ်မှတ်မှု မှန်သမျှ

၅။ ဒါရိုက်တာများအား အပိုဒ် ၇.၁.၅ နှင့်အညီမှအပ ယင်းတို့၏ တာဝန် သက်တမ်း မကုန်ဆုံးမီ ကြိုတင်၍ ရာထူးမှဖယ်ရှားမှု မှန်သမျှ

၆။ ဒါရိုက်တာများအား ပေးအပ်သော လုပ်ခလစာအမျိုးအစားတွင် သိသာထင်ရှားသော ပြောင်းလဲမှုတစ်ခုခု သို့မဟုတ် ဒါရိုက်တာများ၏တာဝန်ထမ်းဆောင်ခြင်းနှင့်စပ်လျဉ်းသော စည်းမျဉ်းစည်းကမ်းများဆိုင်ရာ ပြောင်းလဲမှုတစ်ခုခု

၇။ ဆန္ဒအလျောက်ဖြစ်စေ၊ တရားရုံး တစ်ခုက ဖြစ်စေ ကုမ္ပဏီအား တရားဝင် ဖျက်သိမ်းခြင်း၊ စာရင်းရှင်းဖျက်သိမ်းခြင်း သို့မဟုတ် ကြွေးမြီပေးဆပ်ပြီး ကုမ္ပဏီကိုဖျက်သိမ်းခြင်း

၈။ သက်ဆိုင်ရာလုပ်ငန်းအစီအစဉ် သို့မဟုတ် ရသုံးမှန်းခြေငွေစာရင်းတွင် သတ်မှတ်မထားသော စုစုပေါင်း US$ 5,000,000 (US$ ငါးသန်း) ထက်ပိုသည့် မတည်ငွေသုံးစွဲမှု (သို့မဟုတ် သက်ဆိုင်သော သုံးစွဲမှု)

၉။ နောက်ဆက်တွဲ (ခ) တွင်ဖော်ပြထားသော စီမံကိန်းသဘောတူစာချုပ်များမှအပ (၁၂ လ) အတွင်း ရပ်စဲခြင်းမပြုနိုင်သော သို့မဟုတ် ဘဏ္ဍာနှစ်တစ်နှစ်တွင် စုစုပေါင်း US$ (                    ) ထက်ပိုသော အခြားတာဝန်ဝတ္တရားဆိုင်ရာ အသုံးစရိတ်

သို့မဟုတ် ဖြေရှင်းဆောင်ရွက်ခြင်းများပါဝင်သောစာချုပ်ချုပ်ဆိုခြင်း၊ ၎င်းဆိုင်ရာပေးရန် တာဝန် သို့မဟုတ် ကတိပြုခြင်း၊

၁၀။ မည်သည့်နှစ်တွင်မဆို စုစုပေါင်း US$ ( ) ထက်ပိုသော ပစ္စည်းများ သို့မဟုတ် အခွင့်အရေးများအား ရောင်းချခြင်း သို့မဟုတ် ရောင်းချရန်အဆိုပြုခြင်း သို့မဟုတ် အခြားထုခွဲရောင်းချခြင်း၊ ကနဦးလုပ်ငန်းအစီအစဉ် သို့မဟုတ် ကနဦးရသုံး မှန်းခြေစာရင်း သို့မဟုတ် နောက်တွင် သဘောတူခွင့်ပြုသည့်လုပ်ငန်းအစီအစဉ်များ နှင့် ရသုံးမှန်ခြေစာရင်းများတွင် သီးခြားသတ်မှတ်ဖော်ပြထားခြင်းမရှိလျှင် IAS အရ သတ်မှတ်ထားသည့် ကုမ္ပဏီ၏ စုစုပေါင်းပစ္စည်းများ၏ ၅ % သို့မဟုတ် ၅ % ထက်ပိုသောတန်ဖိုးရှိ မူလစီးပွားရေးလုပ်ငန်းဆောင်ရွက်ရာတွင် လက်ရှိအသုံးပြု နေသော ပစ္စည်းများကို ထုခွဲရောင်းချခြင်း

၁၁။ ပုဂ္ဂိုလ်တစ်ဦးဦးနှင့်အရေးပါသော လွတ်လပ်စွာ သို့မဟုတ် စုစုပေါင်းတန်ဖိုးပမာဏ (Full Value) ဆိုင်ရာလုပ်ငန်းဆောင်ရွက်မှု သို့မဟုတ် ထောက်ပံ့မှုဆိုင်ရာ သဘောတူ စာချုပ်မှအပ အစုရှယ်ယာရှင်တစ်ဦးနှင့်ဆောင်ရွက်သော အရေးပါသည့် လုပ်ငန်း ဆောင်ရွက်ခြင်း

၁၂။ ကနဦးလုပ်ငန်းအစီအစဉ် သို့မဟုတ် နောင်တွင် သဘောတူခွင့်ပြုထားသည့် လုပ်ငန်းအစီအစဉ်များတွင်သတ်မှတ်မထားသော ဖက်စပ်လုပ်ငန်းများ၊ အစုစပ် လုပ်ငန်း များ ဆိုင်ရာ စာချုပ်ချုပ်ဆိုခြင်း နှင့် အခြားအကျိုးအမြတ် ခွဲဝေရယူခြင်းဆိုင်ရာ သဘောတူ စာချုပ်ချုပ်ဆိုခြင်း

၁၃။ နှစ်စဉ်လုပ်ငန်းအစီအစဉ်နှင့် ရသုံးမှန်းခြေစာရင်းကို သဘောတူခွင့်ပြုခြင်း

၁၄။ ကနဦးလုပ်ငန်းအစီအစဉ် သို့မဟုတ် နောင်တွင် သဘောတူခွင့်ပြုထားသည့် လုပ်ငန်းအစီ အစဉ်များကို ပြင်ဆင်ပြောင်းလဲခြင်း

၁၅။ နှစ်ရှည် ရယူထားသော ချေးငွေများတိုးမြှင့်ခြင်း သို့မဟုတ် လုပ်ငန်းအစီအစဉ် သို့မဟုတ် နောင်တွင် သဘောတူခွင့်ပြုထားသည့် လုပ်ငန်းအစီအစဉ်များတွင် သတ်မှတ်မထားသော စုစုပေါင်း အမေရိကန်ဒေါ်လာ ၁၀ သန်းထက်ပိုသော ကြွေးမြီတစ်ခု သို့မဟုတ် တစ်ခုထက်ပို သော ကြွေးမြီတာဝန်များ ဖန်တီးခြင်း

၁၆။ တစ်နှစ်စာ နှစ်ချုပ်ငွေစာရင်းများကို အတည်ပြုခြင်း

၁၇။ ကုမ္ပဏီ၏စာရင်းစစ်အဖွဲ့ကို ခန့်အပ်ခြင်း သို့မဟုတ် ရာထူးမှဖယ်ရှားခြင်း

၁၈။ ကုမ္ပဏီ သို့မဟုတ် ၎င်း၏လက်အောက်ခံကုမ္ပဏီနှင့်ပတ်သက်နေသော စုစုပေါင်း (US$ 5,000,000) ကျော်တန်ဖိုးရှိ တောင်းဆိုချက်၊ တရားစွဲဆိုခြင်း၊

ခုံသမာဓိစီရင်ဆုံးဖြတ်ခြင်း သို့မဟုတ် အခြားတရားစွဲဆိုဆောင်ရွက်ခြင်းများအား စတင်ဆောင်ရွက်ခြင်း၊ ဆောင်ရွက် ခြင်း၊ ဖြေရှင်းဆောင်ရွက်ခြင်း သို့မဟုတ် ကျေအေးခြင်း သို့မဟုတ် ဘဏ္ဍာနှစ်တစ်နှစ်တွင် အဆိုပါတောင်းဆိုချက်များနှင့်စပ်လျဉ်း၍ တောင်းဆိုချက် တစ်ခုလျှင် ( ) ပမာဏထက်မပိုသော သို့မဟုတ် စုစုပေါင်း (US$ 5,000,000) ထက်မပိုသော ပုံမှန်လုပ်ငန်းဆောင်ရွက်ခြင်းဖြင့်ဖြစ်ပေါ်သော အကြွေးစုစုပေါင်းနှင့်စပ်လျဉ်းသည့် ကိစ္စရပ် မှအပ ပေးရန်တာဝန်များကို ဆောင်ရွက်ရန် တာဝန်ရှိကြောင်း ဝန်ခံပြောဆိုခြင်း

၁၉။ အမြတ်ဝေစု သို့မဟုတ် ခွဲဝေပေးခြင်းဆိုင်ရာ အဆိုပြုချက် (ဝင်ငွေ နှင့် မတည်ငွေ အပါအဝင်)

၂၀။ နောက်ဆက်တွဲ ဃ တွင်ဖော်ပြထားသော လုပ်ငန်းဆောင်ရွက်ခြင်းဆိုင်ရာ ကိစ္စရပ်များ၏ သို့မဟုတ် ဤသဘောတူစာချုပ်အရ အုပ်ချုပ်မှုဒါရိုက်တာအားလွှဲအပ်ထားသော လုပ်ပိုင်ခွင့် အာဏာများ၏ အရေးပါသော ပြောင်းလဲမှု

နောက်ဆက်တွဲ ခ

## ရည်ရွယ်ထားသည့် စီမံကိန်းဆိုင်ရာ သဘောတူညီချက်များ

၁။ လောင်စာထောက်ပံ့မှုဆိုင်ရာသဘောတူစာချုပ်

၂။ BRAND လိုင်စင်ပေးခြင်းဆိုင်ရာ သဘောတူစာချုပ်

၃။လေယာဉ်ပျံသန်းမှုနည်းပညာဆိုင်ရာဝန်ဆောင်မှုလုပ်ငန်းများနှင့်စပ်လျဉ်းသည့် လုပ်ငန်းဆောင်ရွက်ခြင်းများ နှင့် စီမံခန့်ခွဲမှုဆိုင်ရာ သဘောတူညီမှု

၄။ မြေငှားစာချုပ်များ

နောက်ဆက်တွဲ ဂ

ရင်းနှီးမြှုပ်နှံသူနှင့် MPPE စီမံကိန်းဆိုင်ရာ ကတိကဝတ်များ

၁။ Puma Energy နှင့် MPPE တို့သည် မြေငှားစာချုပ်များအပါအဝင် စီမံကိန်း အကောင်အထည်ဖော်ရန်နှင့် လုပ်ငန်း ပြီးမြောက်အောင်ဆောင်ရွက်ရန်တို့အတွက် လိုအပ်သည့် မြေငှားသဘောတူစာချုပ်များ မှန်သမျှနှင့် အားလုံးတို့ကို စီမံဆောင်ရွက်ရန် သဘောတူကြသည်။

၂။ Puma Energy နှင့် MPPE တို့သည် စီမံကိန်းအတွက် MIC ၏ ခွင့်ပြုချက်နှင့် ပတ်သက်၍ပြင်ဆင်ရန်နှင့်ရယူရန်လိုအပ်သည့်ဖြစ်နိုင်သမျှနည်းမျိုးစုံဖြင့်ပူးပေါင်း ဆောင်ရွက် ရန် သဘောတူကြသည်။

၃။ MPPE က ပေးအပ်သောတင်ဒါဆိုင်ရာ စည်းမျဉ်းစည်းကမ်းများနှင့်အညီ Puma Energy သည်

(က) အပိုဒ် ၄ နှင့်အညီ ကနဦးရှယ်ယာမတည်ငွေ၏ ၄၉ % အတွက် US$ 25,000,000 ကို ထည့်ဝင်ရမည်။

(ခ) သင်တန်းများပေးခြင်း၊ brand သတ်မှတ်ခြင်း၊ ရောင်းချခြင်း၊ HSE လုပ်ငန်းစဉ် များ ဆောင်ရွက်ခြင်း၊ ဘဏ္ဍာရေးဆိုင်ရာစီမံခန့်ခွဲမှု သို့မဟုတ် စာရင်းအင်း လုပ်ငန်းစဉ်၊ အလုပ်ခန့်အပ်ခြင်း နှင့် ဝန်ထမ်းများခေါ်ယူခြင်း၊ ထိန်းသိမ်းခြင်း၊ logistics၊ IT ၊ ရယူဆောင်ရွက်ခြင်း၊ ဖြန့်ဖြူးဆောင်ရွက်ခြင်း၊ စာချုပ်ချုပ်ဆိုခြင်း၊ အင်ဂျင်နီယာဆိုင်ရာ ပညာရပ်၊ ဆောက်လုပ်ရေး နှင့် လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းများကို စီမံခန့်ခွဲခြင်း ဖြင့် နိုင်ငံတကာအဆင့်မီလောင်စာဆီများဖြင့် လုပ်ငန်းကောင်းမွန်စွာ လည်ပတ်နိုင်ရန် ဆောင်ရွက်ရမည်။

(ဂ) အပိုဒ် ၄.၄.၄ နှင့်အညီ ဒုတိယအကြိမ်မတည်ငွေထည့်ဝင်မှုကို ပြီးမြောက်အောင် ဆောင်ရွက်ခြင်း နှင့် ကုမ္ပဏီက ဆောင်ရွက်ရန်အဓိကသတ်မှတ်ချက်များအား အောင်မြင် အောင် ဆောင်ရွက်ရာတွင် US$ 55, 000, 000 အထက်တန်ဖိုးရှိ ထပ်မံချေးငွေ အတိုးနှုန်းကင်းလွတ်စွာဖြင့်များရရှိရန်ဆောင်ရွက်ရမည်။ နှစ်တစ်နှစ်အတွက် သက်ဆိုင်ရာ ဆောင်ရွက်ရန်အဓိကသတ်မှတ်ချက်များကို ကုမ္ပဏီက အောင်မြင်စွာဆောင်ရွက်ခြင်းနှင့် ယခင်နှစ်များအတွက် ဆောင်ရွက်ရန် အဓိကသတ်မှတ်ချက်များဆောင်ရွက်ခြင်း၏ လိုငွေနှင့် အညီ ချေးငွေအား နှစ်စဉ် US$ 11,000,000 (နှစ်စဉ် ချေးငွေ ခံစားခွင့်) တိုးမြှင့် ရယူရမည်။ ကုမ္ပဏီက သက်ဆိုင်ရာဘဏ္ဍာနှစ်အတွက် ဆောင်ရွက်ရန်အဓိက သတ်မှတ်ချက်များ အောင်မြင်ဆောင်ရွက်ရန် ပျက်ကွက်ခြင်းလျှင် အဆိုပါနှစ်အတွက် နှစ်စဉ်ချေးငွေခံစားခွင့်ကို မရရှိစေရ။ နောင်နှစ်အတွက် သက်ဆိုင်ရာ ဆောင်ရွက်ရန်

အဓိကသတ်မှတ်ချက်များတွင် ယခင်နှစ်များက အဆိုပါဆောင်ရွက်ရန် အဓိက သတ်မှတ်ချက်ဆိုင်ရာ ကုမ္ပဏီ၏ဆောင်ရွက်ချက်များနှင့်စပ်လျဉ်းသည့် လိုငွေများကို ထည့်သွင်းရမည်။ သံသယကင်းရှင်းစေရန်အတွက် အပိုဒ် ၄.၄.၄ နှင့်အညီ ဒုတိယအကြိမ် မတည်ငွေထည့်ဝင်သည့်အချိန်တိုင်အောင် မည်သည့်နှစ်အတွက်မဆို နှစ်စဉ်ချေးငွေခံစား ခွင့်မရှိစေရ။

(ဃ) ဤသဘောတူစာချုပ်ချုပ်ဆိုသည့်နေ့မှစတင်၍ ရက်ပေါင်း ( ) ရက်အတွင်း Puma Energy သည် အပိုဒ် ၃ (ဂ) နှင့်အညီ နှစ်စဉ်ချေးငွေရယူခွင့်ကိုလိုက်နာဆောင်ရွက်ခြင်း နှင့် စပ်လျဉ်း၍ ကုမ္ပဏီ၏အကျိုးအတွက် အမေရိကန်ဒေါ်လာ ( ) ပမာဏရှိ အာမခံ ငွေကို ပေးရမည်။ Puma Energy က အပိုဒ် ၃ (ဂ) နှင့်အညီ နှင့် ဆောင်ရွက်ရန် အဓိကသတ်မှတ်ချက်များပြည့်မီအောင်ဆောင်ရွက်ရာတွင် နှစ်စဉ်ချေးငွေခံစားခွင့်ကို ပေးရန်ပျက်ကွက်ပါက MPPE သည် ကျန်ရှိသောနှစ်စဉ်ချေးငွေခံစားခွင့်ပမာဏအတွက် အဆိုပါအာမခံချက်နှင့်အညီ Puma ထံမှ တောင်းဆိုပိုင်ခွင့်ရှိသည်။

(င) ထောက်ပံ့မှုဆိုင်ရာသဘောတူစာချုပ်နှင့်အညီ ကုမ္ပဏီသို့ လုပ်ငန်းဆိုင်ရာ လောင်စာ ဆီ လိုအပ်ချက်များအားလုံးကို ထောက်ပံ့ပေးရမည်။

၄။ MPPE က ပေးအပ်သောတင်ဒါဆိုင်ရာ စည်းမျဉ်းစည်းကမ်းများနှင့်အညီ MPPE သည်

(က) ၂၀၁၄ ခုနှစ်၊ ဖွန်လ ၂၇ ရက် ရက်စွဲပါ တင်ဒါဖိတ်ခေါ်ခြင်း နှင့် MPPE သို့မဟုတ် ၎င်း၏အကြံပေးပုဂ္ဂိုလ်များမှ နောင်တွင် ဆက်သွယ်ဆောင်ရွက်ခြင်း (စီမံကိန်း သို့မဟုတ် လုပ်ငန်းနှင့် အရေးတကြီးသက်ဆိုင်နေသော) တွင်ဖော်ပြထားသော ပစ္စည်းများအားလုံးကို ကြွေးမြီတာဝန်၊ ပေါင်နှံခြင်း (lien, mortgage, pledge, charge)၊ လွှဲပြောင်းပေးအပ်ခြင်း၊ ကြွေးမြီဆိုင်ရာပေါင်နှံခြင်း သို့မဟုတ် ငွေချေးသက်သေခံလက်မှတ်များထုတ်ပေးခြင်းကဲ့သို့ အကျိုးသက်ရောက်မှုရှိသော အခြားသဘောတူညီချက် သို့မဟုတ် စီစဉ်ဆောင်ရွက်ခြင်း တို့ကင်းရှင်းစွာဖြင့် ထည့်ဝင်ရမည်။

(ခ) ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ် နှင့် သန်လျင်သန့်စင်စက်ရုံနှင့်စပ်လျဉ်း၍ MPPE က လက်ရှိအသုံးပြုနေသော မြေများ နှင့် ဤသဘောတူစာချုပ်ချုပ်ဆိုချိန်တွင် MPPE က အသုံးပြုလျက်ရှိသည့် မြေများပေါ်တွင် လေယာဉ်ဆီသိုလှောင်ရန်အတွက် အသုံးပြုသော သိုလှောင်ကန်များအားလုံးအပါအဝင် လုပ်ငန်းရည်ရွယ်ချက်များအတွက်အရေးပါသော မြေငှားရမ်းခြင်းများ နှင့် အခွင့်အရေးများကို ကုမ္ပဏီက ရရှိစေရန် ဆောင်ရွက်ရမည်။

(ဂ) မြန်မာနိုင်ငံရှိ ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ် နှင့် အခြားလေဆိပ်များတွင် လုပ်ငန်းနှင့်စပ်လျဉ်း၍ စာချုပ်ချုပ်ဆိုသူများက လုပ်ငန်းနယ်ပယ်အတွင်းထည့်သွင်းရန်

သဘောတူထားသည့်အတိုင်း ကုမ္ပဏီအား တိုက်ရိုက်သော်လည်းကောင်း၊ သွယ်ဝိုက်၍ သော်လည်းကောင်း ပြိုင်ဆိုင်ခြင်း မပြုရ။

## နောက်ဆက်တွဲ ဃ

## လုပ်ငန်းဆောင်ရွက်ခြင်းဆိုင်ရာကိစ္စရပ်များ

(က) နှစ်စဉ်ရသုံးမှန်းခြေငွေစာရင်းများနှင့် လုပ်ငန်းအစီအစဉ်များ ရေးဆွဲသတ်မှတ်ခြင်း

(ခ) လုပ်ငန်းအား လည်ပတ်ဆောင်ရွက်ခြင်း နှင့် စီမံခန့်ခွဲခြင်း

(ဂ) လုပ်ငန်း၏ရရန်ပိုင်ခွင့်များနှင့် ပေးရန် တာဝန်များအားလုံးကို စီမံဆောင်ရွက်ခြင်း

(ဃ) ဆောက်လုပ်ရေး သို့မဟုတ် လုပ်ငန်းဆောင်ရွက်ခြင်းဆိုင်ရာလုပ်ငန်းစဉ်များအတွက် လိုအပ်သော လိုင်စင်များ နှင့် ခွင့်ပြုမိန့်များ လျှောက်ထားခြင်း

(င) ဘဏ်စာရင်းဖွင့်လှစ်ခြင်း နှင့် အခြားဘဏ်လုပ်ငန်းစဉ်များ ဆောင်ရွက်ခြင်း

(စ) ဈေးနှုန်းသတ်မှတ်ခြင်းဆိုင်ရာ ကိစ္စရပ်များအပါအဝင် လုပ်ငန်းပုံမှန်ဆောင်ရွက်ရာတွင် လိုအပ်သောကုန်ပစ္စည်းများ နှင့်ဝန်ဆောင်မှုများရရှိစေရေးအတွက် ညှိနှိုင်းဆောင်ရွက်ခြင်း နှင့် စာချုပ်များ ချုပ်ဆိုခြင်း

(ဆ) ဘုတ်အဖွဲ့၏သဘောတူညီချက်ကို လိုအပ်သည့်သဘောတူစာချုပ်များအပြင် ပုံမှန်လုပ်ငန်းဆောင်ရွက်ရာတွင် လိုအပ်သောညှိနှိုင်းဆောင်ရွက်ခြင်း နှင့် ဘဏ္ဍာရေးဆိုင်ရာ သဘောတူစာချုပ်များ ချုပ်ဆိုခြင်း

(ဇ) ဘုတ်အဖွဲ့သို့ပေးပို့ရန်အတွက် နှစ်စဉ်အစီရင်ခံစာ ပြုစုခြင်း နှင့် သဘောတူခွင့်ပြုသော လုပ်ငန်းပြီးစီးမှုအခြေအနေနှင့် လုပ်ငန်းအစီအစဉ် နှိုင်းယှဉ်၍ ဘုတ်အဖွဲ့သို့ တင်ပြခြင်း

(ဈ) ဝန်ထမ်းများအားလုံးကို အလုပ်ခန့်အပ်ခြင်းဆိုင်ရာဆုံးဖြတ်ချက်များ နှင့် စီမံခန့်ခွဲမှု (အုပ်ချုပ်မှု ဒါရိုက်တာ နှင့် ဘဏ္ဍာရေးဆိုင်ရာအထွေထွေမန်နေဂျာ အပါအဝင်)

(ည) လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းဆိုင်ရာအတွက် သို့မဟုတ် လုပ်ငန်းပုံမှန်ဆောင်ရွက်ရန်အတွက် သို့မဟုတ် လိုက်နာဆောင်ရွက်ရန်လိုအပ်သော စောင့်ရှောက်ခြင်းနှင့် ထိန်းသိမ်းခြင်းအတွက် လိုအပ်သောပစ္စည်းများကို ရယူခြင်း

(ဋ) ဘဏ္ဍာရေးဆိုင်ရာစီမံခန့်ခွဲမှု၊ ပစ္စည်းများစာရင်း၊ HR၊ IT၊ HSSE ၊ ထိန်းသိမ်းခြင်း၊ အာမခံခြင်း၊ Risk management၊ Code of Conduct နှင့် သင်တန်းများဆိုင်ရာ လုပ်ငန်းမူဝါဒများကို ချမှတ်ခြင်း နှင့် လိုက်နာဆောင်ရွက်ခြင်း နှင့် အဆိုပါမူဝါဒများ ကို အကောင်အထည်ဖော်ဆောင်ရွက်ခြင်း

(ဌ) လုပ်ငန်းဆိုင်ရာ ရောင်းချခြင်း၊ ဆက်သွယ်ဆောင်ရွက်ခြင်း၊ သတင်းထုတ်ပြန် ခြင်း နှင့် brand သတ်မှတ်ခြင်း

(ဍ) ထောက်ပံ့မှုဆိုင်ရာသဘောတူစာချုပ်အား အတည်ပြုခြင်း နှင့် ဆောင်ရွက်ခြင်း

(ဎ) ဈေးနှုန်းသတ်မှတ်ခြင်းအပါအဝင် လောင်စာဆီရောင်းချခြင်း နှင့် ဝန်ဆောင်မှုလုပ်ငန်းများဆိုင်ရာ လုပ်ငန်းဆိုင်ရာ စည်းကမ်းချက်များကို ချမှတ်ခြင်း

နောက်ဆက်တွဲဇယား ၁

အကျပ်အတည်းဆိုင်ရာလွှဲပြောင်းပေးအပ်ခြင်း နှင့်စပ်လျဉ်းသော လုပ်ထုံးလုပ်နည်း

၁။ အကျပ်အတည်းဆိုင်ရာ အကြောင်းကြားစာ

၁.၁။ ကမ်းလှမ်းသည့်ရှယ်ယာရှင်သည် ဤသဘောတူစာချုပ်၏အပိုဒ် ၈.၄ အရ အကျပ်အတည်း ပေါ်ပေါက်သောအခါ ကမ်းလှမ်းခြင်းခံရသည့်ရှယ်ယာရှင် နှင့် ကမ်းလှမ်းခံရသည့်ရှယ်ယာရှင်၏တရားဝင်လွှဲပြောင်းပေးအပ်ခြင်းခံရသူတစ်ဦးဦးက ဤနောက်ဆက်တွဲ (၁) (အကျပ်အတည်းဆိုင်ရာ ရှယ်ယာဝယ်ယူခွင့်) နှင့်အညီ ၎င်း၏ ရှယ်ယာများကို (အကျပ်အတည်းဆိုင်ရာ ရှယ်ယာများ အားလုံးဖြစ်စေ၊ တစ်ချို့တစ်ဝက်ကို ဖြစ်စေ ရောင်းချစေရန် ဆောင်ရွက်ပိုင်ခွင့်ရှိသည်။

၁.၂။ ကမ်းလှမ်းသည့်ရှယ်ယာရှင်သည် အပိုဒ် ၈.၂ အရ အကျပ်အတည်းပေါ်ပေါက်ပြီးနောက် မည်သည့်အချိန်တွင်မဆို ကမ်းလှမ်းခြင်းခံရသည့်ရှယ်ယာရှင်အား အကြောင်းကြားစာ (အကျပ်အတည်းဆိုင်ရာ အကြောင်းကြားစာ) ပေးပို့လျက် အကျပ်အတည်းဆိုင်ရာ ရှယ်ယာဝယ်ယူခွင့်ကို ကျင့်သုံးဆောင်ရွက်နိုင်သည်။ အဆိုပါအကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာအား အောက်ပါအပိုဒ် ၂.၂ နှင့်အညီသာ ပြန်လည်ရုပ်သိမ်းနိုင်သည်။

၁.၃။ အကျပ်အတည်းဆိုင်ရာအကြောင်းကြားစာတစ်ခုထက်ပို၍ ပေးပို့ရလျှင် ပထမဦးဆုံးအချိန်မီလက်ခံရရှိသော အကျပ်အတည်းဆိုင်ရာအကြောင်းကြားစာက လွှမ်းမိုးရမည်။

၂။ အကျပ်အတည်းဆိုင်ရာရှယ်ယာဈေးနှုန်း

၂.၁။ အကျပ်အတည်းဆိုင်ရာရှယ်ယာဈေးနှုန်းသည် အပိုဒ် ၁၇.၆ နှင့်အညီ သတ်မှတ်ထားသော အကျပ်အတည်းဆိုင်ရာရှယ်ယာ၏ ဈေးကွက်နားလည်သည့် ဝယ်သူရောင်းသူ အရောင်းအဝယ်ဖြစ်နေသည့်ဈေးနှုန်း ဖြစ်ရမည်။

၂.၂။ အပိုဒ် ၁၇.၆ နှင့်အညီ အကျပ်အတည်းဆိုင်ရာရှယ်ယာဈေးနှုန်းသတ်မှတ်ပြီး ခုနစ် (၇) ရက်အတွင်း ကမ်းလှမ်းသည့်ရှယ်ယာရှင်သည် မိမိ၏ဆန္ဒအလျောက် အကျပ်အတည်းဆိုင်ရာ အကြောင်းကြားစာကို ပြန်လည်ရုပ်သိမ်းနိုင်ပြီး ထိုသို့ပြုလုပ်ပါက အဆိုပါ ကမ်းလှမ်းမှုသည် ပျက်ပြယ်သည် ဟုမှတ်ယူရမည်။

၃။ ပြီးမြောက်အောင် ဆောင်ရွက်ခြင်း

၃.၁။ အပိုဒ် ၁၇.၆ နှင့်အညီ အကျပ်အတည်းဆိုင်ရာရှယ်ယာဈေးနှုန်းကို သတ်မှတ်ပြီးနောက် ရက် သုံးဆယ် (၃၀) ထက်နောက်မကျစေဘဲဤနောက်ဆက်တွဲ၏အပိုဒ် ၂.၂၊

၃.၂ နှင့်အညီ အကျပ်အတည်းဆိုင်ရာရှယ်ယာများရောင်းဝယ်ခြင်းကို ချက်ချင်းပြီးမြောက်အောင် ဆောင်ရွက်ရမည်။ (အကျပ်အတည်းဆိုင်ရာရှယ်ယာလွှဲပြောင်းသည့်ရက်စွဲ)

၃.၂။ အကျပ်အတည်းဆိုင်ရာအကြောင်းကြားစာကို MPPE က ပေးအပ်သောအခါ MPPE သည် MPPE သည် အစိုးရ၏လိုအပ်သောငွေကြေးဖြည့်ဆည်းမှုရရှိစေရန်အတွက် အကျပ်အတည်းဆိုင်ရာအစုရှယ်ယာများရောင်းချခြင်းပြီးမြောက်သည့်ရက်စွဲကို ၆ လ ကျော် ကြာသည်အထိ Puma Energy အား စာဖြင့်ရေးသားအကြောင်းကြားနိုင်မည်။ အကျပ်အတည်းဆိုင်ရာအစုရှယ်ယာများ ရောင်းချခြင်း ပြီးမြောက်သည့်ရက်စွဲ နှင့် အစုရှယ်ယာများကို အမှန်တကယ်လွှဲပြောင်းပေးအပ်သည့်နေ့ကြားရှိအချိန်ကာလအတွက် MPPE က အကျပ်အတည်းဆိုင်ရာအစုရှယ်ယာများဝယ်ယူရာတွင် ပေးချေရမည့် ဝယ်ဈေးအပေါ်တွင် ၈ % နှုန်း ထပ်ဆောင်းပေးချေရမည်။

၃.၃။ ဤနောက်ဆက်တွဲ (၁)နှင့်အညီ အကျပ်အတည်းဆိုင်ရာရှယ်ယာများလွှဲပြောင်းပေးအပ်ခြင်းသည် အောက်ပါစည်းကမ်းချက်များနှင့် အညီ ဖြစ်ရမည်

၃.၃.၁။ အကျပ်အတည်းဆိုင်ရာရှယ်ယာများကို ပေါင်နှံခြင်း (lien charge)၊ ကြွေးမြီတာဝန်များနှင့်တောင်းဆိုချက်များကင်းရှင်းစွာဖြင့် အကျပ်အတည်းဆိုင်ရာ အကြောင်းကြားစာပေးပို့သည့် နေ့ရက်နောက်ပိုင်း ကြေညာသော၊ ပေးသော သို့မဟုတ် ပြုလုပ်သော အမြတ်ဝေစုများ သို့မဟုတ် အခြားခွဲဝေပေးမှုများဆိုင်ရာ အခွင့်အရေးများအားလုံး အပါအဝင် ၄င်း၏ဆက်စပ်နေသည့်အပြည့်အဝပိုင်ဆိုင်ခွင့်အာမခံချက်များနှင့် အခွင့်အရေးများအားလုံးနှင့်အတူ ရောင်းချရမည်။

၃.၃.၂။ ကမ်းလှမ်းခြင်းသူရှယ်ယာရှင် နှင့် ကမ်းလှမ်းခြင်းခံရသူရှယ်ယာရှင် နှင့် ကမ်းလှမ်းခြင်းခံရသူရှယ်ယာရှင်၏တရားဝင်လွှဲပြောင်းပေးအပ်ခြင်းခံရသူတို့သည် အကျပ်အတည်းဆိုင်ရာရှယ်ယာနှင့်စပ်လျဉ်း၍ ကမ်းလှမ်းခြင်းသူရှယ်ယာရှင်၏အကျိုး အတွက် ရှယ်ယာများလွှဲပြောင်းခြင်းဆိုင်ရာ စာချုပ်ကို ချုပ်ဆိုရမည်။ ကမ်းလှမ်းခြင်းခံရသူရှယ်ယာရှင် နှင့် ကမ်းလှမ်းခြင်းခံရသူရှယ်ယာရှင်၏တရားဝင်လွှဲပြောင်းပေးအပ်ခြင်းခံရသူ တစ်ဦးဦး သည် ရှယ်ယာလွှဲပြောင်းခြင်းဆိုင်ရာစာချုပ်အရ ကမ်းလှမ်းသည့်ရှယ်ယာရှင်အား အကျပ်အတည်းဆိုင်ရာရှယ်ယာများအတွက် သင့်လျော်သောရှယ်ယာသက်သေခံလက်မှတ်များ နှင့် အာဏာပိုင်များ၏ မိတ္တူမှန်ကို လွှဲပြောင်းပေးအပ်ရမည်။

၃.၃.၃။ အကျပ်အတည်းဆိုင်ရာရှယ်ယာများကိုလွှဲပြောင်းပေးအပ်ခြင်းစာချုပ်ချုပ်ဆိုရာတွင် ကမ်းလှမ်းသည့်ရှယ်ယာရှင်သည် အကျပ်အတည်းဆိုင်ရာရှယ်ယာများအတွက် ဤနောက်ဆက်တွဲ ၁ နှင့်အညီ သတ်မှတ်ထားသည့် အကျပ်အတည်းဆိုင်ရာ ရှယ်ယာဈေးနှုန်းကို ပြီးမြောက်အောင် ဆောင်ရွက်ပြီးသည့်နေ့၏တန်ဖိုးအတိုင်း electronic funds transfer ဖြင့် ပေးအပ်ရမည်။

၃.၃.၄။ စာချုပ်ချုပ်ဆိုသူများသည် သက်ဆိုင်ရာလွှဲပြောင်းပေးမှုသို့မဟုတ် လွှဲပြောင်းပေးမှုများကို ကမ်းလှမ်းသည့်ရှယ်ယာရှင် သို့မဟုတ် ၎င်း အမည်စာရင်းတင်သွင်းထားသူတစ်ဦး ၏အမည်ဖြင့်မှတ်ပုံတင်နိုင်ရန် အတတ်နိုင်ဆုံး ကြိုးပမ်းဆောင်ရွက်ကြရမည်။

၃.၃.၅။ ကမ်းလှမ်းခြင်းခံရသည့်စာချုပ်ချုပ်ဆိုသူသည် ကမ်းလှမ်းသည့်ရှယ်ယာရှင်က အကျပ်အတည်းဆိုင်ရာရှယ်ယာများ ရောင်းဝယ်ခြင်းဆောင်ရွက်ရန် လိုအပ်နိုင်သည့် အခြားကိစ္စရပ်များကို ဆောင်ရွက်ပေးရမည်၊ ၎င်း၏တရားဝင်လွှဲပြောင်းပေးအပ်ခြင်းခံရသူများက အဆိုပါကိစ္စရပ်များကို လုပ်ဆောင်ရန် ဆောင်ရွက်ရမည်ဖြစ်ပြီး (စာချုပ်အပါအဝင်) အခြားစာရွက်စာတမ်းများအားလုံးကိုအတည်ပြုဆောင်ရွက်ပေးရမည်၊ ၎င်း၏တရားဝင်လွှဲပြောင်းပေးအပ်ခြင်းခံရသူများက အဆိုပါကိစ္စရပ်များကို လုပ်ဆောင်ရန် ဆောင်ရွက်ရမည်။

နောက်ဆက်တွဲ ၂

ဆောင်ရွက်ရန်အဓိကသတ်မှတ်ချက်များ

| Loan Disbursement Milestones | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|
| | 2015 | 2016 | 2017 | 2018 | 2019 | 2020 | 2021 | 2022 | 2023 |
| Milestone 1: Minimum Dividends to Shareholders (USD '000) | 4,728 | 9,729 | 12,220 | 16,180 | 19,819 | 14,544 | 14,380 | 14,482 | 14,405 |
| Milestone 2: Minimum Volume of Jet Fuel Sales (M3) | 117,762 | 135,426 | 155,740 | 179,101 | 197,011 | 216,713 | 238,384 | 262,222 | 288,444 |
| Annual Loan Entitlement subject to achievement of both Milestone 1 and Milestone 2 (USD '000) | - | - | (11,000) | (11,000) | (11,000) | (11,000) | (11,000) | - | - |

**JOINT VENTURE AGREEMENT**

---

**Regarding a jet fuel distribution enterprise in Myanmar**

**By and among**

**MYANMA PETROLEUM PRODUCTS ENTERPRISE**

**And**

**PUMA ENERGY GROUP PTE LTD**

**__________, 2015**

**Yangon**

# Table of Contents

## JOINT VENTURE AGREEMENT

This Joint Venture Agreement (this "**Agreement**") is made on the ___ day of _________, 2015, between:

## PARTIES

**Myanma Petroleum Products Enterprise**, a State-owned enterprise formed under the Laws of the Republic of the Union of Myanmar and having its registered office at Myanma Petroleum Products Enterprise, Ministry Of Energy, Office Building No. 6, Nay Pyi Taw, The Republic of the Union of Myanmar, hereinafter referred to as "**MPPE**" (which expression shall, unless repugnant to the context or the meaning therefore, include its successors and permitted assigns), the party of the first part; and

**Puma Energy Group Pte Ltd**, a limited liability company incorporated under the Laws of Singapore and having its registered office at 1 Marina Boulevard, #28-00, One Marina Boulevard, Singapore 018989, registered in Singapore with registration number No.: 201226149H hereinafter referred to as "**Puma Energy**" (which expression shall, unless repugnant to the context or the meaning therefore, include its successors and permitted assigns), the party of the second part.

MPPE and Puma Energy are hereinafter referred to collectively as the "**Parties**", and each individually referred to as a "**Party**". Puma Energy and MPPE are also each referred to as a "**Shareholder**" or collectively the "**Shareholders**".

## RECITALS

(A) MPPE is a State-owned enterprise in the Republic of the Union of Myanmar which carries out retail and wholesale distribution of petroleum products in the Republic of the Union of Myanmar. The MPPE supplies fuel to airlines and aircraft owners and operators in twelve (12) airports in the Republic of the Union of Myanmar through its Jet Fuel Distribution Enterprise which imports, stores and distributes jet fuel to the airlines and aircraft owners;

(B) Puma Energy is a global mid and downstream oil company with extensive business through the fuel value chain including importing, storing, transporting, distributing, marketing, and managing jet fuel;

(C) For the purpose of better serving customers in the importation, storage, distribution and sales of jet fuel in the Republic of the Union of Myanmar's airports and improving the management of the business while conducting environmentally friendly operations, and without needing a cash contribution from MPPE as part of the initial capitalisation of the Company, MPPE and Puma Energy shall form a joint venture company (the "Company", as defined in Clause 1.1 of this Agreement) to operate and improve the existing Jet Fuel Distribution Enterprise's business activity at the Yangon International Airport first. At a later stage, the Parties agree to negotiate in good faith regarding the possible expansion of the Business to the remaining eleven (11) airports in the Republic of the Union of Myanmar; and

(D) In consideration of a bid submitted to MPPE in relation to the Project and the Business, which has been awarded to Puma Energy, the Parties shall establish the Company in the Republic of the Union of Myanmar in the manner and for the purposes more particularly set forth herein, and are entering into this Agreement for the purpose of defining their respective rights and obligations in connection with such prospective Company.

**THEREFORE, BOTH PARTIES AGREE AS FOLLOWS:**

# 1. Definitions and Interpretation

1.1 In this Agreement:

"Affected Party" has the meaning set out in Clause 18.1.

"Agreed Form" means in a form agreed by the Parties and which for the purposes of identification has been signed by them or initialled by them.

"Adjourned Shareholder Meeting" shall have the meaning given to that term in Clause 6.1.3.

"Affiliate(s)" shall be construed to mean, in relation to a given Person, any person that is controlled by, controls or is under common control with such Person but which, for the avoidance of doubt, shall not include the Company. As used herein, "control" shall mean the power to control the composition of the board of directors (or similar governing body) of another Person, or to exercise control over more than half of the voting rights of the second mentioned Person. Further, and with respect to any natural person, the term "Affiliate(s)" shall include such individual's spouse, children and estate planning vehicles.

"Alternate" has the meaning ascribed to that term in Clause 7.1.3.

"Annex" is a reference to an annex to this Agreement.

"Approved Senior Persons" means a senior representative of each of Puma Energy and MPPE to be appointed by each of Puma Energy and MPPE for the purposes of resolving deadlock matters in accordance with Clause 8.

"Approved Senior Persons Period" has the meaning set out in Clause 8.3.

"Articles" means the articles of association of the Company as may be adopted or amended from time to time.

"Artificial Deadlock" has the meaning set out in Clause 8.5.

"Assets" means the assets listed at Schedule 3 to be transferred to the Company on and subject to Closing in accordance with Clause 4.4.

"Board" means the Company's board of directors.

"Board Reserved Matter" has the meaning set out in Clause 8.1.

"Business" means the importation, storage, distribution, transportation, into-plane fuelling, management and marketing of jet fuel and petroleum related products and the importation, refurbishment, and construction of related assets in respect of such airports in Myanmar as may be agreed between the Parties from time to time.

"Business Day" means any day (other than Saturday or Sunday) when banks in Myanmar and Singapore are open for the transaction of normal business.

"Certificate of Incorporation" means the temporary certificate of incorporation issued by DICA evidencing the due incorporation and registration of the Company with DICA.

"Chairman" shall mean the person appointed chair of the Board in accordance with Clause 7.2.

"Change of Control" shall be deemed to have occurred if any Person, or any number or combination of Persons acting in concert, which does not previously own or control, or which is not previously under common ownership and/or control with the affected Party (i.e., a non-Affiliate), acquires or becomes the beneficial owner, directly or indirectly, of all or substantially

